وقل جاء الحق وزهق الباطل ان الباطل كان زهوقا

# تشريح الصراط المستقيم

## مع حكم الطلاق الثلاثة والحلالة بحكم القرآن والحديث والفقه


(مصنفه)

مولانا مفتی عبد الحکیم مظاہری (مفتی جمعیۃ علماء اسلام شاخ پیو لوے)

وناظم مدرسہ عربیہ بینڈو (پیو لوے)


မွတ်စလင်မ်လင်မယားကွာရှင်းရေးဆိုင်ရာသိမှတ်ဘွယ်ရာ

# သုံးတွဲလာက်

နှင့်

# လမ်းစဥ်မှန်ကျမ်း


ကျမ်းပြုစုသူ

**မော်လာနာမွဖ်သီအဗ်ဒွလ်ဟာကီးမ် (မဇ္ဇာဟိရီ)**

(ဓမ္မသတ်မှူး) အိုလမာ – အစ္စလာမ်သာသနာ့ပညာရှင်များအဖွဲ့ခွဲ

(ပျော်ဘွယ်မြို့နယ်)

ကျောင်းအုပ် – အရဗီအထက်တန်းကျောင်း၊ ယင်းတော်ရွာမ – ပျော်ဘွယ်မြို့နယ်။

မွတ်စ်လင်မ်လင်မယားကွာရှင်းရေးဆိုင်ရာသိမှတ်ဖွယ်ရာ

# သုံးတွလာက်နှင့်လမ်းစဉ်မှန်ကျမ်း

## ပုံနှိပ်မှတ်တမ်း


ထုတ်ဝေသည့်ကာလ — ၂၀၁၉ခုနှစ်၊ မတ်လ။

ထုတ်ဝေသူ — မာမွတ်မာမ်ဆာံ (မြဲ—၀၁၆၃၂)
အစ္စလာမ်စာပေဖြန့်ချိရေး၊
အမှတ်—၆၄၊ လမ်း—၃၀၊ ပန်းဘဲတန်းမြို့နယ်၊
ရန်ကုန်တိုင်းဒေသကြီး။

ပုံနှိပ်သူ — ဒေါ်မြင့်မြင့်တင် (မြဲ—၀၀၂၆၆)
မြင့်သီဂီအော့ဖ်ဆက်
အမှတ်—၂၀၈၊ လမ်း—၃၀၊ ပန်းဘဲတန်းမြို့နယ်။
ရန်ကုန်တိုင်းဒေသကြီး။

အုပ်ရေ — ၁၀၀၀အုပ်(ပထမအကြိမ်)

တန်ဖိုး — ၈၀၀ကျပ်

မျက်နှာဖုံးဒီဇိုင်းနှင့်ဖြန့်ချိရေး — မာမွတ်မာမ်ဆာ (အစ္စလာမ်စာပေဖြန့်ချိရေး)
အမှတ်—၆၄၊ လမ်း—၃၀၊ ပန်းဘဲတန်းမြို့နယ်။

စာမူခွင့်ပြုချက်အမှတ် — ၆၀၀ ၁၄၇ ၀၄၁၉



# မာတိကာ



## လမ်းစဉ်မှန် ဒုတိယအခန်း (၂)

## လမ်းစဉ်မှန် တတိယအခန်း ပထမပိုင်း



## လမ်းစဉ်မှန် တတိယအခန်း ဒုတိယပိုင်း



## တတိယပိုင်း



## လမ်းစဉ်မှန် စတုတ္ထအခန်း (၄)



## **တွလာက်အကြောင်း** ၎င်းတွင် အခန်း (၅)ခန်းပါရှိသည်။

## ပထမအခန်း (၁)

## ဒုတိယအခန်း (၂) သုံးတွလာက်အကြောင်း



## တွလာက်အကြောင်း တတိယအခန်း (၃)

## သုံးတွလာက်နှင့် ပတ်သက်သော ဟဒီဆ်တော်များ၏ ရှင်းလင်းချက်

## စတုတ္ထအခန်း (၄)



## ပဉ္စမ အခန်း (၅) ဟလာလဟ်အကြောင်း

# အမှာစကား

بِسۡمِ اللّٰهِ الرَّحۡمٰنِ الرَّحِيۡمِ
نحمده ونصلى على رسوله الكريم

အလ္လာဟ်အသျှင်မြတ်အား ချီးကျူးထောပနာပြုပြီး တမန်တော်မြတ် ﷺ အပေါ် ဒရူးဒ်၊ စလဝပ် စလာမ်များစွာ ပို့သပါ၏။

ယခုလတ်တလော မကြာမီကာလတွင် ပြည်ထောင်စု ဆိုရှယ်လစ်သမ္မတမြန်မာနိုင်ငံအတွင်းရှိ အစ္စလာမ်ဘာသာဝင် မွတ်စလင်မ်အပေါင်းတို့အား တွလာက်နှင့် ပတ်သက်၍ တမန်တော်မြတ် ﷺ ခေတ်မှ ယနေ့တိုင် တညီတညွတ်တည်း လိုက်နာကျင့်သုံးလာခဲ့ကြသော အစ္စလာမ် တရားဥပဒေကို အထင်အမြင်မှား လမ်းမှားကြလေအောင် လှုံ့ဆော် ပြောဆိုသူများ ပေါ်ပေါက်နေပေသည်။

ထို့အတူ ကျွန်ုပ်တို့၏ အကြီးဆုံးသော အေမာမ်အအ်ဇမ် အဗူဟနီဖွာ သခင်ကို အပြစ်ရှာဖွေကာ မည်သည့်(မဇ်ဟဗ်)တရားလမ်းစဉ်ကိုမျှ လက်မခံကြစေလိုပဲ မိမိတို့စိတ်ကြိုက်ရာ၊ စိတ်အလိုဆန္ဒ လိုက်စားကြရန် တိုက်တွန်းသူများ ရှိနေပြီးဖြစ်၏။

ဤသို့သော အချိန်တွင် သတိပြုမှတ်သားရန် လိုအပ်သောအချက်မှာ တမန်တော်မြတ် ﷺ ခေတ်နှင့် နှစ်ပေါင်း(၁၃၀၀)ကျော်မှ ပေါ်ပေါက်လာသူတို့တွင် တမန်တော်မြတ် ﷺ ၏ ဟဒီဆ်တော်များ၌ အမှားအမှန်၊ အစစ်နှင့်အတု (နာစစ်(ခ)နှင့်မန်စူခ်) ပယ်ဖျက်ပြီးသောအမိန့်နှင့်နောက်ဆုံးတည်သောအမိန့်ကို တိကျစွာဝေဖန်၍ (မတ်စ်အလာ) ဥပဒေ ကောက်နုတ်၊ ထုတ်နုတ်နိုင်စွမ်း မရှိတော့ကြောင်း အဓိပတိပညာရှင်၊ အေမာမ်ကြီးများက ဆုံးဖြတ်ခဲ့ကြပြီးဖြစ်၏။

(အေမာမ်အအ်ဇမ်) အဗူဟနီဖွာသခင်သည်ကား တမန်တော်မြတ် ﷺ နှင့် နှစ်ပေါင်း(၁၃၀၀)ကျော်မှ ပေါ်ပေါက်လာသူများကဲ့သို့ ယနေ့တမျိုး၊ နက်ဖန်တဖုံ၊ ဤသည် ဟုတ်နိုးနိုး၊ ထိုအရာကား မှန်လေဟန်၊ (အကန်း တုတ်စမ်းပမာ) စမ်းတဝါးဝါး လမ်းသွားသူ မဟုတ်ပေ။ တမန်တော်မြတ် ﷺ ၏လမ်းစဉ်ကို တွေ့မြင်ခဲ့ကြကုန်သော(စွဟာဗဟ်)သာဝကကြီးများကို ကိုယ်တိုင်တွေ့မြင်ခဲ့ရသဖြင့် အမှားနှင့်အမှန်၊ အစစ်နှင့်အတု၊ (နာစစ်(ခ)နှင့် မန်စူခ်) အစရှိသည်တို့ကို တိကျစွာ ဝေဖန်သုံးသပ်၍ (မတ်စ်အလာ) တရားဥပဒေ

ထုတ်နုတ်ရာတွင် အကျွမ်းကျင်ဆုံး၊ အမှန်ကန်ဆုံး ဖြစ်သောကြောင့် ကမ္ဘာတဝန်းရှိ မွတ်စလင်မ်အပေါင်းတို့က ၎င်းအား (အေမာမ်အအ်ဇမ်) အကြီးဆုံးသော ခေါင်းဆောင်ဟု အသိအမှတ်ပြု၍ ခေါ်ဝေါ်ကြကုန်၏။

ယင်းသို့ အကြီးဆုံးသော အေမာမ်အအ်ဇမ်နှင့်တကွ အေမာမ်ကြီး လေးပါးလုံး ထံတွင် တညီတညွတ်တည်းဖြစ်သော (မတ်စ်အလာ) ဥပဒေများသည် ယနေ့ လူတစုထံ တွင် စည်းမဲ့ကမ်းမဲ့ ဥပဒေများ ဖြစ်ရရှာ၏။

ထို့အတူ မွတ်စလင်မ်အများနေထိုင်ကြသော တိုင်းပြည်များရှိ အရဗီ အထက်တန်း ကျောင်းကြီးများတွင် အသိအမှတ်ပြု၍ သင်ကြားပို့ချလျက်ရှိသည့် **ဟေ့ဒါယာ၊ ကုဒူရီ၊ ရှရဟ်ဝေကာယဟ်** အစရှိသော ဖွေကာဟ်ကျမ်းစာများတွင် ပါရှိသော ဥပဒေ (မတ်စ် အလာ)များသည်လည်း ယင်းလူတစုထံတွင် အချို့ဘာသာရေးဆရာများ၏ လှေနံဓားထစ် လက်ခံနေကြသော ပရမ်းပတာ ဥပဒေများ ဖြစ်ရရှာ၏။

ပမာဆိုသော် စည်းမဲ့ကမ်းမဲ့ တွလာက်များတွင်–

(၁) တစ်ဦးတစ်ယောက်က မိမိဇနီးအား တစ်နေရာတည်း တစ်ကြိမ်တည်း သုံးတွလာက်ပေးမိလျှင် တွလာက်သုံးကြိမ်လုံး အထမြောက် သွားသည် တဲ့ ဟု လည်းကောင်း၊

(၂) လင်ယောကျ်ားတစ်ယောက်က မေ့မှား၍ တွလာက် ပေးမိလျှင်လည်း ကောင်း၊ ပြောင်လှောင်သည့်သဘောနှင့်လည်းကောင်း၊ မူးယစ်နေချိန် တွင် လည်းကောင်း၊ အတင်းအဓမ္မ စေခိုင်းချက်အရလည်းကောင်း၊ ပြတ်စဲရန်ဆန္ဒစေတနာ မရှိပါပဲလျက် ၎င်းနှုတ်မှ တွလာက်ဟုဆိုလိုက် လျှင် ဤသို့သော တွလာက်များလည်း အထမြောက်သွားသည်တဲ့ဟု လည်းကောင်း၊ ဖော်ပြပြောဆိုနေကြသဖြင့် ယင်းသို့ပေးသော တွလာက် များ အထမြောက်ကြောင်းကိုဖော်ပြသည့် အထက်ပါကျမ်းစာများမှာ စည်းမဲ့ကမ်းမဲ့ ကျမ်းစာများ ဖြစ်သွားလေဟန်၊ ဘာသာရေးပညာ မရှိသူ တို့အား လမ်းမှားကြရလေအောင် လှုံ့ဆော်ပြောဆိုသူများ ပေါ်ပေါက် နေပြီဖြစ်သဖြင့် အထက်ဖော်ပြပါ ကျမ်းစာများတွင် ပါရှိသော (မတ်စ် အလာ) ဥပဒေများသည်ကား ကုရ်အာန်၊ ဟဒီဆ်၊ အစ်ဂျ်မာအ်နှင့် စွဟာ ဗဟ် သာဝကကြီးတို့၏ လမ်းစဉ်နှင့် မည်ရွေ့မည်မျှ ကိုက်ညီကြောင်း အထောက်အထားများကိုလည်းကောင်း။

(တစ်ကြိမ်တည်း တစ်ချိန်တည်း သုံးတွလာက်ကို တွလာက်တစ်ကြိမ်သာ) ဟု ယူဆ
ထင်မှတ်ခြင်းသည်

- ကျမ်းမြတ်ကုရ်အာန်ကို ငြင်းပယ်ရာသို့လည်းကောင်း၊
- ဗုခါရီ–မွတ်စလင်မ်–အဗူဒါဝူဒ် အစရှိသော (ဧစ္စဟာစစ်သား)ခေါ် အမှန်ကန်ဆုံးသော ဟဒီဆ်ကျမ်းစာ (၆)စောင်ကို ဆန့်ကျင်ရာသို့လည်းကောင်း၊ သက်ရောက်စေကြောင်းကို သေချာတိကျစွာ ရှင်းလင်းတင်ပြမှုသာ နှစ်ပေါင်း (၁၃၀၀)ကျော်က ဆန်းစစ်စိစစ်၍ ဆုံးဖြတ်ခဲ့ကြသော အေမာမ်ကြီး (၄)ပါးတို့၏ အဆုံးအဖြတ်သည်ကား ယခုခေတ် အချို့မော်လဝီများ၏ လှေနံဓားထစ် လက်ခံနေကြသည့် ဥပဒေမျိုးမဟုတ်ကြောင်းကိုလည်းကောင်း၊
- ကုရ်အာန်နှင့် တမန်တော်မြတ် ﷺ ၏ စွန္နတ်တော်ကို ကျောခိုင်းပြီး (ကျားကျားမိယတ်–တွလာက်ဆိုပြတ်) ဟု စည်းမဲ့ကမ်းမဲ့ ပရမ်းပတာ ဖတ္တဝါမျိုး မဟုတ်ကြောင်းကို အသိမှန်အမြင်မှန်ရရှိ၍ အရှိကိုအရှိအတိုင်း၊ အမှားကိုအမှား၊ အမှန်ကိုအမှန် (တရား)အစစ်နှင့်အတုကို ကွက်ကွက်ကွင်းကွင်း ရှင်းလင်းစွာ သိမြင် လာကြရလေအောင် ဤ (မွတ်စလင်မ် လင်မယားကွာရှင်းရေးဆိုင်ရာ သုံးတွလာက်နှင့်လမ်းစဉ်မှန်)ကျမ်းကို ကုရ်အာန်၊ ဟဒီဆ်၊ ဖွေကဟ်၊ အစ်ဂျမာအ်နှင့် စွဟာဗဟ်တို့၏ ကျင့်စဉ်ကျင့်ထုံးမှ ထုတ်ပြန်ရေးသား တင်ပြလိုက်ရပါသည်။

پسر نوح بابداں نشست — خاندان نبوتش گم شد
سگ اصحاب کهف روزے چند — پئے نیکاں گرفت مردم شد

သူတော်စင်တစ်ပါး၏ ကဗျာတစ်ခုတွင်– တမန်တော်နူဟ် عليه السلام ၏သားသည် လူယုတ်မာတို့နှင့် အတူနေထိုင်သဖြင့် နောက်ဆုံးတွင် တမန်တော်မြတ် ၏ ဆွေမျိုးအဆက်အနွယ်အားဖြင့် ရသင့်ရထိုက်သော အခွင့်အရေး ဂုဏ်ထူးကို မရရှိပဲ နစ်နာဆုံးရှုံးရရှာ၏။ သို့ရာတွင် (အတ်စွဟာဗျေ့ကဟ်ဖ်) ခေါ် သူတော်စင်တို့ကို ချစ်ခင် လိုလာသဖြင့် စောင့်ရှောက်ရန် အတူလိုက်ပါလာသော ခွေးသည်ကား သူတော်ကောင်း တို့၏နောက်သို့ ရက်အနည်းငယ် အတူလိုက်ပါလာသဖြင့် တိရစ္ဆာန်ဘဝ အဆင့်အတန်းမှ လူတို့၏ အဆင့်အတန်းသို့ ရောက်ရှိသွားပေသည်ဟု ပါရှိသည့်အတိုင်း အစ္စလာမ်ဘာသာ

သာသနာတော်ကို ဖျက်ဆီးသူတို့၏ ဘေးအန္တရာယ်မှ ကာကွယ်စောင့်ရှောက်ရန် လိုလား ကြိုးစားသူတို့သည်လည်း ထို့ထက် မြင့်မားသောအဆင့်ကို ရရှိကြမည်မလွဲတည်း။

ခွေးသည် အန္တရာယ်ရှိသူ တစ်ဦးကိုမြင်လျှင် မိမိသခင်ကို ဟောင်တတ်သလို ဟောင်ပြ၍ နှိုးဆော် သတိပေးသကဲ့သို့ အလ္လာဟ်အသျှင့် သာသနာတော်စောင့်၊ သာမန် လူတန်းစား တစ်ယောက်အနေဖြင့် ကျွန်ုပ်သည်လည်း ဤကျမ်းစာကို ရေးသားတင်ပြ၍ အစ္စလာမ်ဘာသာဝင် အိမ်ထောင်စုကြီး (အစ်ခဝါနီ) အပေါင်းတို့အား အမှန်တရား ရစေလိုကြောင်း စေတနာကောင်းဖြင့် တင်ပြလိုက်ပေသတည်း။

وَمَا تَوْفِيْقِىٓ اِلَّا بِاللّٰهِ وَمَا عَلَيْنَآ اِلَّا الْبَلَاغُ الْمُبِيْنُ ○

ကျွန်ုပ်တို့တာဝန်မှာ အမှန်တရား တင်ပြပို့ချခြင်းသာ ဖြစ်ပါသည်။ ဤသို့ တင်ပြနိုင်စွမ်းသည်လည်း ကြီးကျယ်မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင် ပေးသနား တော်မူသော စွမ်းအားကြောင့်ပင် ဖြစ်ပေသတည်း။

ဤကျမ်းစာကို ရေးသားပြုစုရာ၊ ဖြန့်ချိရာတွင် ယိုင်းပင်းကူညီ အားပေးကြ ကုန်သော ပုဂ္ဂိုလ်အပေါင်းတို့အား လောကီလောကုတ္တရာ နှစ်ဌာနစလုံးတွင် လွတ်ငြိမ်း ချမ်းသာခွင့်နှင့် ချမ်းမြေ့သာယာခြင်းအပေါင်း အလ္လာဟ်အသျှင်မြတ် ချီးမြှင့် ပေးသနား တော်မူပါစေသတည်း။ (အာမီးန်)

**အဗ္ဗဒွလ်ဟကီမ်**
ဓမ္မသတ်မှူး
အစ္စလာမ်ဘာသာရေးဓမ္မသတ်ဌာန
အိုလမာအစ္စလာမ်–သာသနာ့ပညာရှင်များအဖွဲ့ချုပ်
ပျော်ဘွယ်မြို့

# ဤကျမ်းစာနှင့်စပ်လျဉ်း၍ ထောက်ခံစာများနှင့် ကြေငြာချက်

بِسۡمِ اللّٰهِ الرَّحۡمٰنِ الرَّحِيۡمِ

## အိုလမာအဖွဲ့ချုပ်မှထောက်ခံစာ

မော်လာနာ–စူဖီ– အစ်ဒွလ်ဟကီမ်သည် သုံးတွလာက်နှင့် ပတ်သက်၍ မြန်မာဘာသာဖြင့် အထောက်အထား အကိုးအကား ပြည့်စုံသော ကျမ်းစာတစ်စောင်ကို ရေးသားပြုစုခဲ့သည်မှာ အဓိက အရေးကြီး လိုအပ်နေသော သာသနာရေးကိစ္စကြီး တစ်ရပ်ဖြစ်ပါသည်။

(ဂျဇာဟွလ္လာဟ်) အလ္လာဟ်အသျှင်မြတ်သည် မော်လာနာအား ကောင်းမြတ်သော အကျိုးဆဝါဗ် ပေးသနားတော်မူပါစေ။ ဤကြိုးစားအားထုတ်မှုကိုလည်း (ကုဘူလ်ပြု) လက်ခံတော်မူပါစေ။ ဤကျမ်းစာအားဖြင့် မွတ်စလင်မ် အပေါင်းတို့အား တရားမှန် လမ်းမှန်ကို လိုက်နာကျင့်သုံးနိုင်စွမ်းပေးသနားတော်မူပါစေသတည်း။ (အာမီန်း)

ပုံ
မဟ်မူဒ်–ဒါဝူဒ်–ယူစွဖ်
မြန်မာနိုင်ငံ မွတ်ဖတီချုပ်
ဥက္ကဋ္ဌ

ပုံ– မက္ကဆူဒ်အဟ်မဒ်ခါန် ခင်မောင်ကြီး
အထွေထွေအတွင်းရေးမှူးချုပ်

အိုလမာအစ္စလာမ်သာသနာပညာရှင်များအဖွဲ့ချုပ်
အမှတ် (၁၈) ပထမထပ်–၂၈–လမ်း၊ ရန်ကုန်မြို့
၁၃၉၈ ခု၊ မုဟာရ်ရမ်လ (၁၁)ရက် (၂၂–၁၂–၇၇)

# ကန့်ဗလူမြို့–မြန်မာအရဗီသိပ္ပံကျောင်း ဓမ္မသတ်မှူး၏ထောက်ခံစာ

သို့–ဓမ္မသတ်မှူး၊ ဖတ္တဝါဌာန၊ မြန်မာအရဗီသိပ္ပံကျောင်းကြီး ကန့်ဗလူမြို့

အကြောင်းအရာ၊ သုံးတွလာက်နှင့်စပ်လျဉ်း၍ ဖတ္တဝါမေးမြန်းခြင်း၊

လူကြီးမင်းခင်ဗျား ယခုသုံးတွလာက်နှင့် ဟလာလဟ်အမည်ဖြင့် စာအုပ်တစ်အုပ် ထုတ်ရာတွင် တစ်ကြိမ်တည်း သုံးတွလာက်ပေးခြင်းဖြင့် တစ်ကြိမ်သာ အထမြောက် ကြောင်း၊ ဟန္နဖီ၊ မာလိကီ၊ ဟမ်ဗလီ၊ ရှာဖိအီ၊ ဂိုဏ်းပေါင်းစုံမှ ပညာရှင်များကလည်း အသီးသီးဆုံးဖြတ်ထားကြသည်ဟု ရေးသားဖော်ပြကာ အခြားတစ်နေရာတွင် တစ်ချိန် တည်း သုံးတွလာက် ပေးမိပါက တစ်ကြိမ်သာလျှင် အထမြောက်သည်ဟု ဓမ္မသတ် အဆုံးအဖြတ်ပေးထားပါသည်။

ကျွန်တော်များကျောင်း၏ ရှိုင်ခွလ်ဟဒီဆ်၊ မြို့နယ် အိုလမာအဖွဲ့ခွဲ ပျော်ဘွယ်မြို့၏ ဓမ္မသတ်မှူး၊ အဆိုပါဓမ္မသတ်ရေးသားသော ပုဂ္ဂိုလ်နှင့်အတူ ပညာသင်ကြားခဲ့သော ကျောင်းနေဖက်ပုဂ္ဂိုလ် မော်လာနာ အဗ်ဒွလ်ဟကီမ်က ကုရ်အာန်၊ ဟဒီဆ်၊ ဖိကဟ်အရ ဟန္နဖီ၊ ရှာဖိအီ မာလိကီ ဟမ်ဗလီတို့ထံ အကွဲအလွဲမရှိ တညီတညွတ်တည်း တစ်ကြိမ် တည်း သုံးတွလာက်ပေးလျှင် သုံးတွလာက် အထမြောက်ကြောင်း ဆုံးဖြတ်ချက် တင်ပြ ထားပါသည်။

သာမန်လူတန်းစားတို့အနေဖြင့် တရားမှန်လမ်းမှန်ကို သိရှိလိုက်နာနိုင်ရန်အတွက် မည်သည့်ဖတ္တဝါအဖြေက မှန်ကန်ကြောင်းကို ရှရီအတ်တရားတော်အရ အဆုံးအဖြတ် ပေးပါရန် ပန်ကြားအပ်ပါသည်။ စာမူ(၂)နှစ်ခုလုံးကို သိသာနိုင်ရန် တင်ပြအပ် ပါသည်။

ပုံ–အမ်၊ ဟာမြင်

ကျောင်းဆရာ–အရဗီတက္ကသိုလ်

(၇၈၆) ပျော်ဘွယ်မြို့(၂၄–၁၁–၇၇)

ဖတ္တဝါအဖြေ– နေ့စွဲ ၂၄–၁၁–၇၇

ဟန္နဖီကျမ်းစာ ဖွေကာဟ်များတွင် တစ်ကြိမ်တည်း သုံးတွလာက်ပေးလျှင် တွလာက်သုံးကြိမ် အထမြောက်ကြောင်း ပါရှိသဖြင့် မော်လဝီ အဗ်ဒွလ်ဟကီမ်၏ တင်ပြချက်မှန်ကန်ကြောင်း ထောက်ခံပါသည်။

ပုံ–ဆရာကြီး ဇုံ (ဓမ္မသတ်မှူး)

မြန်မာအရဗီသိပ္ပံကျောင်း– ကန့်ဗလူမြို့

(၂၄–၁၁–၇၇)

ကျွန်တော်များ စစ်ကိုင်းတိုင်း သာသနာ့ပညာရှင်များအနေနှင့် ဟန္ဒဗီဖွေကာဟ် ကျမ်းစာများတွင် ပါရှိသည့်အတိုင်း တစ်ကြိမ်တည်း သုံးတွလာက်ပေးလျှင် သုံးကြိမ်လုံး အထမြောက်ကြောင်း ကျမ်းစာတစ်စောင် ပြုစုနေချိန်တွင် ပျော်ဘွယ်မြို့နေ အိုလမာအဖွဲ့ခွဲ ဓမ္မသတ်မှူး မော်လာနာ အဗ်ဒွလ် ဟာကီမ်ဆပ် အနေနှင့် အဆိုပါ ကိစ္စနှင့်ပတ်သက်၍ ကျမ်းစာ တစ်စောင် ပြုစုဖြန့်ချိခြင်းကို ဝမ်းသာစွာဖြင့် ကြိုဆိုထောက်ခံအပ်ပါသည်။

ပုံ– ဆရာဦးတွာဟေရ်– ကန့်ဗလူမြို့

## (၇၈၆)

## ထောက်ခံစာ

မွတ်စလင်မ် လင်မယားကွာရှင်းရေးဆိုင်ရာကျမ်းသည် အဟ်လေ့စွန္နတ် ဝလ် ဂျမာအတ်သားများအတွက် လက်စွဲပြုရမည့် ကျမ်းစာတစ်စောင်ဖြစ်ပါသည်။ တွလာက် လင်မယားကွာရှင်းမှုကိစ္စနှင့် ပတ်သက်၍ ဟရာမ်ကို ဟလာလ်ဖြစ်အောင် ရှရီအတ်တရား တော်ကို မိမိအထင်အမြင်ဖြင့် အမျိုးမျိုးအဖုံဖုံ လှည့်စားနေကြသော ဤအချိန် အခါမျိုးတွင် သုံးတွလာက်နှင့် လမ်းစဉ်မှန်ကျမ်းကြီးသည် မဇ်ဟဗ်လမ်းစဉ်အရ ထွက်ပေါ်လာသည်မှာ အမှောင်တွင်းမှ လူများအား မီးမောင်းထိုးပေးလိုက်သကဲ့သို့ပင် ဖြစ်လေသည်။

ဤကျမ်းစာကို ပြုစုရာ၌ ကိုးကားသော(၅၆)စောင်သော ကျမ်းများသည် အစ္စလာမ်သာသနာတော်တွင် တိကျခိုင်မာသော ကျမ်းကြီးများဖြစ်ပါသည်။ တွလာက် ကိစ္စနှင့်ပတ်သက်၍ ဟလာလ်ကိုဟလာလ်အတိုင်း၊ ဟရာမ်ကိုဟရာမ်အဖြစ်နှင့် ကွဲကွဲ ပြားပြား သိလို၊မှတ်လို လိုက်နာလိုသူများသည် ဤကျမ်းကြီးကို လေ့လာမှတ်သားပြီး လိုက်နာကျင့်သုံးရန် အလွန်သင့်တော်သောကျမ်းကြီးတစ်စောင်ဖြစ်ကြောင်း တင်ပြ လိုက်ပါသည်။

ပုံ–မိုဟမ္မဒ်(မဟ်မူဒ်)<br>အတွင်းရေးမှူး

ပုံ–နေဆာရ်အဟ်မဒ်<br>(မဇ္ဇာဟေရီ) ဥက္ကဋ္ဌ

အိုလမာအစ္စလာမ်သာသနာ့ပညာရှင်များအဖွဲ့ခွဲ<br>မွန်ပြည်နယ်–မော်လမြိုင်မြို့

## (ဂ၈၆)
## အထူးကြေငြာချက်

ဤမွတ်စလင်မ် လင်မယားကွာရှင်းရေးဆိုင်ရာ ကျမ်းသည် အဟ်လေ့စွန္နတ်ဝလ်ဂျမာအတ် လမ်းစဉ်အရ–ကုရ်အာန်–ဟဒီဆ်–ဖိကဟ်နှင့်အညီ ရေးသားပြုစုထားပေသည်။ ဤကျမ်းစာတွင် ဖော်ပြထားသော အချက်အလက်များအနက်၊ အချက်အလက်တစ်ခုခုသည် ကုရ်အာန်၊ဟဒီဆ်–ဖွေကာဟ်နှင့် ဆန့်ကျင်ကြောင်း ဖော်ပြနိုင်သူသည် ပျော်ဘွယ်မြို့နယ် အိုလမာအစ္စလာမ် သာသနာ့ပညာရှင်များအဖွဲ့ခွဲထံ တင်ပြပါက လိုက်လှဲစွာ ကျေးဇူးတင်ရုံသာမက အထူးဆု ချီးမြှင့်၍ အမှန်ပြင်ဆင်သွားမည်ဖြစ်ကြောင်း ကြေငြာအပ်ပါသည်။

ပုံ–အဗ်ဒွလ်ဂနီ (စိုးလင်း)
အထွေထွေအတွင်းရေးမှူး–အိုလမာအစ္စလာမ်သာသနာ့ပညာရှင်များအဖွဲ့ခွဲ၊
ပျော်ဘွယ်မြို့။

## (ဂ၈၆)
## ထပ်ဆင့်ထောက်ခံကြေငြာချက်

ဤမွတ်စလင်မ် လင်မယားကွာရှင်းရေးဆိုင်ရာ ကျမ်းသည် အဟ်လေ့စွန္နသ်ဝလ်ဂျမာအတ် လမ်းစဉ်အရ–ကုရ်အာန်–ဟဒီဆ်–ဖိကဟ်နှင့်အညီ ရေးသားပြုစုထားအပ်သော အခိုင်အမာ ကျမ်းစာတစ်စောင်ဖြစ်ပေသည်။ ဤကျမ်းတွင် ဖော်ပြထားသော အကြောင်းအချက်၊ မတ်စ်အလာ၊ ပြဿနာ အားလုံးတို့သည် ကုရ်အာန်၊ ဟဒီဆ်– ဖိကာဟ်တို့နှင့် ဆန့်ကျင်ကြောင်း ထုတ်ဖော် တင်ပြနိုင်သော ပုဂ္ဂိုလ်အား ကျွန်တော်များ (အိုလမာ အစ္စလာမ်သာသနာ့ပညာရှင်များအဖွဲ့ခွဲ) မန္တလေးတိုင်းအနေဖြင့် လှိုက်လှဲစွာ ကျေးဇူးတင်သဖြင့် ၎င်းပုဂ္ဂိုလ်အား ဆုချီးမြှင့်ဦးမည်ဖြစ်ကြောင်း ထပ်ဆင့်ထောက်ခံ ကြေငြာအပ်ပါသည်။

ပုံ–ဦးလှမောင်
ဥက္ကဋ္ဌ – အိုလမာအစ္စလာမ်သာသနာ့ပညာရှင်များအဖွဲ့ခွဲ
(မန္တလေးတိုင်း)၂၅လမ်း–မင်္ဂလာဗလီ–မန္တလေးမြို့

# ထောက်ခံစာ

ဗစ်မြင်လ္လာဟစ်ရဟ်မာနစ်ရဟီမ်၊

မွတ်စလင်မ် လင်မယားကွာရှင်းရေးဆိုင်ရာ ကျမ်းကို ယခုရေးသားပြုစုထားကြောင်း သိရှိရသဖြင့် ဝမ်းသာမိပါသည်။ ကျွန်တော်သည် သုံးတွလာက်နှင့် ဟလာလဟ် စာအုပ်ကို ချေပပြောဆိုရန် ရည်စူးနေချိန်တွင် ပျော်ဘွယ်မြို့နေ မော်လဝီ အဗ်ဒွလ်ဟာကီမ်ဆပ်က အထက်ပါကျမ်းကို ပြုစုရေးသားချေပသည့်အတွက် မော်လဝီဆပ်အား အထူးကျေးဇူးတင်ရှိပါသည်။ အဆိုပါ မော်လဝီ အဗ်ဒွလ်ဟာကီမ်ဆပ် ရေးသားသောကျမ်းတွင် တင်ပြထားသည့်အချက်အလက်များ မှန်ကန်ကြောင်း ထောက်ခံပါသည်။

ပုံ– မိုဟမ္မဒ်ယူနွစ်၊ မောင်ဘဒင်
ပုံ– မိုဟမ္မဒ်မူစာ (မဇ္ဇာဟေရီ)
အစ္စလာမ် ဘာသာရေးရာ ဓမ္မသတ်ဌာန
၈၄ လမ်း– မန္တလေးမြို့

# بِسۡمِ اللّٰهِ الرَّحۡمٰنِ الرَّحِيۡمِ
# تشريح الصراط المستقيم
# ပထမပိုင်း- လမ်းစဉ်မှန်

## လမ်းစဉ်မှန်ကန်ရန် အရေးကြီးလိုအပ်သော အကြောင်းအရာများကို အခန်း (၄)ခန်းတွင်တင်ပြပါအံ့

လမ်းစဉ်မှန်ကန်ရန် အရေးကြီးခြင်းနှင့်ပတ်သက်၍ ဦးစွာပထမ တင်ပြရခြင်း အကြောင်းမှာ-

တမန်တော်မြတ်ﷺ က လမ်းမှားသဖြင့် ငရဲလားကြကုန်သော အသင်းများဟု သတိပေး ညွှန်ကြားတော်မူခဲ့သော အသင်းများ၏ ယူဆချက်များကို ဖော်ပြသည့် စာအုပ်စာတမ်း၊ သ(ဖ)စီရ်၊ ဓမ္မသတ် အစရှိသည်တို့မှ တစ်ဦးတစ်ယောက်က အကိုး အကား အထောက်အထား တင်ပြလာလျှင် ကျမ်း၊ ကျမ်းကြည့်ဆိုတိုင်း မှန်ကန်သော ကျမ်းကြီးများဖြစ်သည်ဟု အထင်အမြင်မမှားရလေအောင် ဦးစွာပထမ သိရှိမှတ်သား ထားရန် အရေးကြီး လိုအပ်ပေသည်။

ကျွန်ုပ်တို့ အဟ်လေ့စွန္နသ်လမ်းစဉ်ကို လိုက်နာသူတို့နှင့် ထို(၇၂)သင်း၏ ယူဆချက်များသည် မည်သို့မျှ လုံးဝ မသက်ဆိုင်ကြောင်းကို ကြိုတင်နားလည် သဘော ပေါက်ထားမှသာ ဆွဲလိုရာဆွဲတိုင်း လမ်းမှားသို့ လိုက်ပါမသွားနိုင်ကြမည်ဖြစ်သည်။ ထို့ကြောင့် လမ်းစဉ်အမှန် ရရှိရေးအတွက် အရေးကြီးသောအချက်များမှာ

(၁) တမန်တော်မြတ်ﷺ ကလမ်းမှားဟု မိန့်ကြားတော်မူခဲ့သော အသင်းများ နှင့် ၎င်းတို့၏ ယူဆချက်များကို သိရှိနားလည်ထားရမည်ဖြစ်သည်။ သို့မှသာလျှင် မှားယွင်းသော လမ်းစဉ်ကို ရှောင်ကြဉ်၍ လမ်းစဉ်အမှန်ပေါ်တွင် တည်ရှိနေနိုင်မည် ဖြစ်သည်။

(၂) ထို့အတူ တမန်တော်မြတ်ﷺ က ငါတို့၏ ဘာသာသနာတော်တွင် အခြေအမြစ်မပါပဲ မိမိတို့ဘက်မှ အသစ်တည်ထွင်ကာ ဖြည့်စွက်ပြုလုပ်ပါလျှင် ၎င်းသည် ပယ်ဖျက်ခြင်းကို ခံရမည်ဟူသော မိန့်ခွန်းတော်၏ ရှင်းလင်းချက်ကို သိရှိနားလည်ရန် လိုအပ်၏။ သို့မှသာလျှင် မိမိတို့ ကြိုးစားအားထုတ် ပြုလုပ်ထားသော (အေဘာဒသ်) ခဝပ်ကိုးကွယ်မှုများသည် ပယ်ဖျက်ခြင်းကို မခံရမည်ဖြစ်သည်။

(၃) ထို့အတူ တမန်တော်မြတ် ﷺ က မိမိမရှိပြီးသည့်နောက် မည်သူတို့၏ လမ်းစဉ် အမိန့်ညွှန်ကြားချက်များကို နောက်လိုက်ပြု နာခံရမည့်အကြောင်း မိန့်ကြား ညွှန်ကြား တော်မူခဲ့သည့်အတိုင်း ခေါင်းဆောင်တစ်ဦး၏ အမိန့်လမ်းစဉ်ကို နောက်လိုက်ပြု နာခံစေခြင်းနှင့် ပတ်သက်သော အချက်အလက်များကို နားလည်သဘောပေါက်ထားမှ လမ်းစဉ်အမှန်ပေါ်တွင် မယိမ်းမယိုင် တည်တည်တံ့တံ့ နေနိုင်မည်ဖြစ်သည်။

(၄) ထို့အတူ လမ်းမမှားကြစေရန် အရေးကြီးသော အချက်များအရ ဗီ၊ ဖွာရစီ၊ အုရ်ဒူ ဘာသာစကားရပ်များ တတ်မြောက်ကျွမ်းကျင်ရုံမျှနှင့် စစ်မှန်သော သာသနာ့ပညာရှင် မဖြစ်နိုင်ကြောင်းကို နားလည်သဘောပေါက်ရန် အရေးကြီး၏။

**ဤအရေးကြီးလိုအပ်သော အကြောင်းအရာများကို တစ်ခန်းစီ တင်ပြပါအံ့**



بسم الله الرحمن الرحيم

# ပထမအခန်း

## (၇၃)သင်း ကွဲပြားပုံနှင့် ၎င်းတို့၏ အယူအဆများ

عن عبدالله بن عمر قال قال رسول الله صلى الله عليه وسلم ليأتين على امتى كما اتى على بنى اسرائيل حذو النعل بالنعل حتى ان كان منهم من اتى على امه علانية لكان فى امتى من يصنع ذلك وان بنى اسرائيل تفرقت على ثنتين وسبعين ملة وتفرقت امتى ثلاثا وسبعين ملة كلهم فى النار الا ملة واحدة قالوا من هى يارسول الله قال ما انا عليه واصحابى وفى رواية واحدة فى الجنة وهى الجماعة (مشكوة ص ۳۰)

တမန်တော်မြတ် ﷺ မိန့်တော်မူခဲ့သည်မှာ ငါ၏အွမ္မသ်သည် ဗနီအစ်စရာအီလ် အမျိုးသားများကဲ့သို့ ထပ်တူထပ်မျှ ဖြစ်ပျက်ကြမည်။ ယုတ်စွအဆုံး ၎င်းတို့တွင် မိမိ မိခင်အား ကာယကံမြောက် ဖောက်ပြားကျူးလွန်ဝံ့သူ ရှိခဲ့လျှင် ငါ၏အွမ္မသ်တွင်လည်း ထိုကဲ့သို့ ပြုလုပ်မည့်သူရှိအံ့။ ဗနီအစ်စရာအီလ် အမျိုးသားတို့သည်ကား (၇၂)သင်း ကွဲပြားခဲ့ကြကုန်၏။ ငါ၏အွမ္မသ်သည်ကား (၇၃)သင်း ကွဲပြား ချေမည်တည်း။ ၎င်းတွင် တစ်သင်းမှအပ ကျန် (၇၂)သင်းတို့သည် လမ်းမှားကြသဖြင့် (ဂျဟန္နမ်) ငရဲသို့ လား ကြကုန်အံ့။

စွဟာဗဟ်သာဝကကြီးများက ယာရစူလလ္လာဟ် ﷺ ယင်းတစ်သင်းသည် မည်ကဲ့သို့သောသူများ ဖြစ်ပါသနည်းဟု မေးမြန်းလျှောက်ထားကြရာ တမန်တော်မြတ် ﷺ က (ငါတမန်တော်နှင့် ငါ၏စွဟာဗဟ်ကြီးများလမ်းစဉ်ကို စွဲမြဲစွာလိုက်နာ ကျင့်သုံး သူများဖြစ်ကြကုန်၏) ဟု မိန့်ကြားတော်မူ၏။ (မစ်ရှ်ကာသ်ကျမ်း-၃၀)

ဤဟဒီဆ်တော်အရ စွန္နီဖြစ်လျှင် ဂျဟန္နမ် လုံးဝမကျဟု မယူဆနှင့်။ ဆိုလိုရင်း မှာ မှန်ကန်သော အသင်းသည် အကျင့်သီလ ပျက်ကွက်မှုကြောင့်သာ အပြစ်ဒဏ်ခံကြ ရမည် ဖြစ်သည်။ မှားယွင်းသော အသင်းများသည် (အကီဒဟ်နှင့်အမလ်) ယူဆချက်နှင့် အကျင့်သီလ ပျက်ကွက်မှု နှစ်မှုလုံးအတွက် အပြစ်ဒဏ်ကို ခံကြရမည်ဖြစ်သည်။

# မှားယွင်းသောအသင်းများတွင် မပါဝင်မိကြစေရန် တမန်တော်မြတ် ﷺ သတိပေးတော်မူခြင်း

တမန်တော်မြတ်ﷺ မိန့်တော်မူသည်မှာ ငါ၏အွမ္မသ်သား (ဝါ) သာသနာ့ပညာရှင်များသည် မှားယွင်းသောကိစ္စရပ်များအပေါ်တွင် စည်းလုံးညီညွတ်စွာ တည်ရှိကြမည်မဟုတ်ပေ။ အလ္လာဟ်အသျှင်၏ အကူအညီသည် (ဂျမာအသ်) အစည်းအရုံးပေါ်တွင်ရှိ၏။ ထို့နောက်အမိန့်ရှိသည်မှာ အသင်တို့သည် အမှန်တရားပေါ်တွင် ရပ်တည်နေသူ (သာသနာ့ပညာရှင်) အများစုနှင့်အတူ ထပ်ကြပ် မကွာ ရှိနေကြကုန်။ အဘယ်ကြောင့်ဆိုသော် မည်သူမဆို မှန်ကန်သော အသင်းမှ အပြင်သို့ ခွာထွက်လျှင် ငရဲသို့ လားရချေမည်တည်း။

## မဇာဟေရ်ဟတ်က်ကျမ်းရှင်၏ရှင်းလင်းချက်

ထိုသို့ငရဲလားကြရမည့် (၇၂)သင်းတွင် အကြင်သူတို့၏ (အကီဒဟ်) အယူဝါဒသည် (ကုဖ်ရ်)ခေါ် အီမာန်ပျက်စေသည့် အချက်အလက် ပါဝင်သဖြင့် အီမာန်ပျက်စီးပြီးဖြစ်လျှင် ငရဲတွင် အမြဲနေကြရမည်။ အီမာန်ပျက်စေသောအချက် မပါရှိလျှင် တစ်ချိန်ချိန်တွင် အလ္လာဟ်အသျှင်၏ ရဟ်မတ်တော်နှင့် ငရဲမှ လွတ်မြောက်ကြမည်ဖြစ်၏။

၎င်းဟဒီဆ်တော်တွင် (အစ်ဂျမာအီအွမ္မသ်)သည်ကား ဖိကာဟ်ပညာ ကျွမ်းကျင်သော သာသနာ့ပညာရှင်တို့၏ စည်းလုံးခြင်းသာ ဖြစ်သည်။ ထိုသာသနာ့ပညာ မရှိသူတို့၏ စည်းလုံးခြင်းမှာ တရားမဝင်ချေ။ (ဗုခါရီကျမ်း ၇၂၆ ၃၀)

## လေးမဇ်ဟဗ်ကွဲပြားခြင်းသည် (၇၂)သင်း၏ ကွဲလွဲပုံနှင့် မတူကြောင်းရှင်းလင်းချက်

အထက်ပါ ဟဒီဆ်တော်၏အကျယ်ဖွင့် မဇာဟေရ်ဟတ်က်ကျမ်း တွဲ(၁) (၇၉) တွင် ၎င်း (၇၂)သင်းတို့ကို အောက်ပါအတိုင်းဖော်ပြထားသည်။

(၁) မွအ်သဇိလာအသင်း (၂၀)

(၂) မွရ်ဂျိယာအသင်း (၅)

| | | |
|---|---|---|
| (၃) | နတ်ဂျာရီယာအသင်း | (၃) |
| (၄) | မိုယှတ်ဇေ့ဟာအသင်း | (၁) |
| (၅) | ခါရိဂျီယာအသင်း | (၂၀) |
| (၆) | ဂျဗ္ဗဗရီယာအသင်း | (၁) |
| (၇) | ယှိအာအသင်း | (၂၂) |

များယွင်းသောအသင်းပေါင်း (၇၂)သင်းရှိ၍ မှန်ကန်သော အဟ်လိစ္စုန္နသ် ဝလ်ဂျမာအသ် (၁)သင်းသာရှိ၏။ မှန်ကန်သော အဟ်လိစ္စုန္နသ်ဆိုသည်မှာ ဟန္နဖီ၊ ရှာဖိအီ၊ မာလိကီ၊ ဟန်ဗလီခေါ် လေးမဇ်ဟာဗ် အားလုံးကိုခေါ်သည်။

ဤလေးပါး မဇ်ဟာဗ်၏ ကွဲလွဲခြင်းကို အထက်ပါ (၇၂)သင်း၏ ကွဲလွဲခြင်းကဲ့သို့ ဖြစ်သည်ဟု မယူဆလေနှင့်။ အလွန်ပင်ကွာခြားသည်။ ဤလေးမဇ်ဟာဗ်နှင့်ပတ်သက်၍

## اختلاف امتی رحمة

တမန်တော်မြတ် ﷺ က ငါတမန်တော့်အွမ္မသ်သားတို့၏ ဓမ္မသတ် အယူအဆ ကွဲလွဲခြင်းသည် (သာသနာရေးကိစ္စများတွင် လွယ်ကူမှုနှင့် ကျပ်တည်းခြင်းမှ ကျယ်ဝန်းမှုကို ဖြစ်စေသောကြောင့်) အလ္လာဟ်အသျှင်မြတ်၏ မဟာကရုဏာတော် ကျေးဇူးတော်ဖြစ်ကြောင်း မိန့်ကြားတော်မူခဲ့၏။

ဤသို့ကွဲလွဲမှုသည် အစ္စလာမ်ဘာသာ၏ အခြေခံမူ၊ ကျမ်းမြတ်ကုရ်အာန်ပါ အမိန့်တော်များ၏အခြေခံဥပဒေ (၄)ရပ်ဖြစ်သော (၁)ကုရ်အာန်၊ (၂)ဟဒီဆ်၊ (၃)အစ်ဂျမာအိအွမ္မတ်၊ (၄) ကေ့ယာစ်ခေါ် စည်းမျဉ်း ဥပဒေဘောင်အတွင်းမှဖြစ်၍ ရဟ်မတ်တော် ဖြစ်ရသည်။ ၎င်း၏ရှင်းလင်းချက်ကို မာတိကာ အမှတ်(၂၅)တွင်ကြည့်ပါ။ သို့ရာတွင် ဖော်ပြပါ (၇၂)သင်းတို့သည်ကား အချို့က ကျမ်းမြတ်ကုရ်အာန်ပါ ဗျာဒိတ်တော်ကို ငြင်းပယ်ကြသဖြင့်လည်းကောင်း၊ အချို့က တမန်တော်မြတ် ﷺ နှင့် စွဟာဗီကြီးတို့၏ စွန္နတ်တော်ကို ဖီလာဆန့်ကျင်ကာ ငြင်းပယ်ကြ၍လည်းကောင်း၊ အချို့က အစ်ဂျမာအိ အွမ္မတ်ကို မနာခံပဲ ငြင်းပယ်ကြသောကြောင့်လည်းကောင်း လမ်းမှားကြကုန်၏။

အမှန်စင်စစ် ဖော်ပြပါ အခြေခံဥပဒေ တစ်ခုခုကို ငြင်းပယ်ခြင်းသည် ကျမ်းမြတ်ကုရ်အာန်ကို ငြင်းပယ်ရာရောက်သဖြင့် လမ်းမှားရခြင်းပင်ဖြစ်သည်။

ထို့ကြောင့် ဥပဒေဘောင်အတွင်းမှ ကွဲလွဲခြင်းကို ဥပဒေဘောင်အတွင်းမှ

မဟုတ်ပဲ ကျမ်းမြတ်ကုရ်အာန်၏အမိန့်၊ ဥပဒေကိုပင် ငြင်းပယ်ပြီး ကွဲလွဲခြင်းမျိုးနှင့် နှိုင်းယှဥ်၍ မနိုင်ချေ။

عن عائشة قالت قال رسول اللهِ صلي اللهُ عليه وسلم من احدث فی امر ناهذا ماليس منه فهو ردٌّ متفق عليه ﴿مشكوة﴾

တမန်တော်မြတ် ﷺ က မည်သူမဆို ငါတို့၏ ဤသာသနာတော်တွင် သာသနာရေးနှင့် မသက်ဆိုင်သော (ဝါ) ကုရ်အာန်၊ ဟဒီဆ်၊ အစ်ဂျ်မာအိအွမ္မတ်၊ ကိယာစ်နှင့် မသက်ဆိုင်သော ကိစ္စတစ်ခုခုကို သာသနာရေးကိစ္စဟုထင်မှတ်ကာ အသစ်တီထွင် ပြုလုပ်ပါလျှင် ၎င်းသည် ပယ်ဖျက်ခြင်းခံရမည်ဟုလည်းကောင်း–

عن ابراهيم بن ميسرة قال قال رسول اللهِ صلی اللهُ عليه وسلم من وقر صاحب بدعة فقد اعان علی هدم الاِسلام ﴿رواه بيهقی،مشكوة ص ٣١﴾

ဤသို့ သာသနာရေးကိစ္စအသစ် တီထွင်သူ (ဗစ်ဒ်အသီ)တစ်ဦးအား ကူညီအားပေး လေးစားသူသည် အစ္စလာမ်ဘာသာကို ဖြိုခွဲဖျက်စီးရာတွင် ကူညီအားပေးသူ ဖြစ်သည်ဟုလည်းကောင်း တမန်တော်မြတ် ﷺ က လေးနက်စွာ သတိပေး မိန့်ကြားတော် မူခဲ့လေသည်။ (မစ်ရှကားသ်–၃၁)

## (၇၂)သင်းတို့၏ အကီဒဟ်ယူဆချက်များနှင့် ကျွန်ုပ်တို့၏ခံယူချက်
## (၁) မွ(အ)သဇီလာအသင်းပေါ်ပေါက်လာပုံနှင့်ယူဆပုံ

ရှရဟ်အကာအစ်ဒ်ကျမ်းတွင် ထိုမှားယွင်းသော (၇၂)သင်းအနက် ပထမဆုံး မှားယွင်းသော (အကီဒဟ်)ကို စတင်တီထွင်သောအသင်းသည် မွအ်သဇီလာ အသင်း ဖြစ်သည်။ ၎င်းအသင်း ပေါ်ပေါက်လာပုံမှာ ခေါင်းဆောင်တစ်ယောက်၏ မှားယွင်းခြင်း ကြောင့်ဖြစ်သည်။ ၎င်းတို့၏ခေါင်းဆောင် အတ္တာ၏သား ဝါစွေလ်သည် မိမိ၏ဆရာသခင် ဖြစ်သော အေမာမ်ဟစန်ဗစ္စရီသခင်နှင့် အတိုက်အခံပြုပြီး တပည့်ပေါင်း အမြောက်အမြား

အတွင်းမှ ခွဲထွက်လာသူဖြစ်သည်။ ဆရာသခင်က ယနေ့မှစ၍ ဝါစွေလ်အား မိမိ၏ တပည့်အဖြစ်မှ စွန့်လွှတ်လိုက်ပြီဟု ပြောသောကြောင့် ၎င်းကို မွအ်သဇီလာ (နှင်ထုတ်ခြင်းခံရသဖြင့် တပည့်အဖြစ်မှ စွန့်ခွာခွဲထွက်သွားသူ)ဟု စတင်ခေါ်လာကြကုန်၏။ ၎င်းက စွပာဗဟ်ကြီးများနှင့်ဆန့်ကျင်ပြီး စွန္နတ်လမ်းစဉ်နှင့် ဆန့်ကျင်သော အကီဒဟ် ယူဆချက်များကို အုတ်မြစ်ချကာ တီထွင်လာ၏။ (၎င်း၏မှားယွင်းသော အချို့ ယူဆချက်များမှာ)–

(က) လူတို့သည် မိမိတို့အလုပ်ကို ကိုယ်တိုင်ဖန်ဆင်းနိုင်ကြသည်။

(ခ) လူတို့သည် အလ္လာဟ်အသျှင်မြတ်ကို ဘယ်သော်အခါမျှ မမြင်နိုင်၊ အာခေရသ်တွင်လည်း မမြင်နိုင်။

(ဂ) ဂိုနာကဗီရဟ်ခေါ် ကြီးလေးသော ပြစ်မှုများ ကျူးလွန်သူတို့သည်အီမာန်ပျက်စီး၍ မုအ်မင်န်လည်းမဟုတ် ကာဖွေရ် လည်းမဖြစ် တတိယမြောက်တခြားအဆင့်တွင်ရှိသည်ဟု ယူဆကြ၏။

## ကျွန်ုပ်တို့အဟ်လေ့စွန္နတ်၏ခံယူချက်

(က) အဖြေ اللهُ خلقكم وما تعملون

အဓိပ္ပါယ်။ ။ မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်သည်ကား အသင်တို့နှင့်တကွ အသင်တို့ပြုလုပ်ကြကုန်သော အလုပ်အကိုင် ကိစ္စအဝဝတို့ကို ဖြစ်ပေါ်လာအောင်ဖန်ဆင်းပေးတော်မူ၏။ (ကုရ်အာန်ဂျွဇ် အမှတ် ၂၃–ရကူ–၇)

ဤအာယတ်တော် ဗျာဒိတ်တော်အရ လူတို့သည် အလုပ်တစ်ခုခုကို ဖန်ဆင်းသည်မဟုတ်* တောင်သူလယ်သမားသည် လယ်ယာစိုက်ပျိုးရေး ပြုလုပ်ရာတွင် မျိုးစေ့ကိုမြေ၌ မြှုပ်နှံသော အလုပ်ကိုသာပြုလုပ်သည်။ ၎င်းမှအပင်ပေါက်စေခြင်း၊ မိုးလေဝသကောင်းမွန်စေခြင်း၊ အသီးအပွင့် သီးပွင့်စေခြင်း အစရှိသည်တို့မှာ ဖန်ဆင်းတော်မူသော အသျှင်က ဖန်ဆင်းပေးမှသာဖြစ်သည်။

(လူတို့သည်ကား သစ်စေ့ တစေ့ကို မဖန်ဆင်းနိုင်ကြချေ။)

*ဆရာဝန်သည် ဆေးဝါးကုသပေး၏။ ကုသသောဆေးသည် မည်မျှပင် ကောင်းစေကာမူ အလိုတော်ရှိသောသူအတွက် ရောဂါပျောက်ကင်းစေ၍ အလိုတော် မရှိသူအတွက် ဆေးမစူးတော့ချေ။ အချိန်ရောက်လျှင် သေရမည်သာဖြစ်၏။ *ကုန်သည်သည်

ကုန်ကူးသန်းရောင်းဝယ်ရေးပြုလုပ်ရာတွင် အမြတ်အစွန်းသည် အလိုတော် ရှိသည့်ခန့်မျှတာ ရရှိချေ၏။ ရရှိလာသော အမြတ်ပစ္စည်းသည် မည်မျှပင်ဖြစ်စေ ၎င်းပစ္စည်း၏ ကောင်းကျိုးဆိုးကျိုးပေးမှုသည် အလိုတော်အတိုင်း ဖြစ်၏။ အချို့ကို ယင်းပစ္စည်းက ကောင်းကျိုးပေး၍ အချို့ကို ဘေးအန္တရာယ်သာဖြစ်စေ၏။ ထို့ကြောင့် လူသားတို့၏ ကျန်းမာခြင်း၊ မကျန်းမာခြင်း၊ ဆင်းရဲခြင်း၊ ချမ်းသာခြင်း၊ သေခြင်း၊ ရှင်ခြင်း အစရှိသည်တို့သည် အလ္လာဟ်အသျှင်က ဖန်ဆင်းပေးတော်မူသောကြောင့်သာဖြစ်သည်။ လူတို့သည်ကား သေးငယ်သော သစ်စေ့တစေ့ကိုမျှ မဖန်ဆင်းနိုင်ကြချေ။

(ခ) အဖြေ– လူတို့သည် ဤလောက၌ ရရှိသော မျက်စိတွင် ပါဝါ အားနည်းသဖြင့် အလ္လာဟ်အသျှင်ကို မြင်နိုင်စွမ်း မရှိချေ။ အာခိရတ်တွင် ပေးသနားခြင်းခံရမည့် ကိုယ်ကာယ၏ မျက်စိတွင်မူကား အလ္လာဟ်အသျှင်ကို မြင်နိုင်သော ပါဝါအားရှိသဖြင့် မြင်နိုင်ကြမည်ဟု ဟဒီဆ်တော်တွင် အတိအလင်း လာရှိ၏။

(ဂ) အဖြေ– (ဂိုနာဟ်ကဗီရဟ်)ခေါ် ပြစ်မှုကြီးများ ပြုလုပ်သဖြင့် အီမာန် မပျက်စီးချေ။ အီမာန် ပျက်စေသော ပြစ်မှုကျူးလွန်မှုသာ အီမာန်ပျက်သည်။ သို့တည်းမဟုတ် အပြစ်သည် ကြီးသည်ဖြစ်စေ၊ ငယ်သည်ဖြစ်စေ ၎င်းကို (ဟလာလ်) ပြုလုပ်ပိုင်ခွင့် ရှိသည်ဟု ထင်မှတ်ပါက အီမာန်ပျက်စီးသည်။ မုအ်မင်န်နှင့် ကာဖွေရ်ကြားတွင် တတိယအဆင့် မရှိချေ။

## (၂) မုရ်ဂျီယာ အသင်း၏ ယူဆချက်

ကုဖ်ရ်ခေါ် အီမာန်မရှိသည့်အဖြစ်တွင် ကောင်းမှုပြုလုပ်၍ အကျိုးမရှိ သကဲ့သို့ (ဥပမာ အီမာန်မရှိပဲ နမာဇ်ဖတ်၊ ဟဂျ် ပြုပါက အကျိုးမရရှိသကဲ့သို့ ) အီမာန်ရှိပါက မကောင်းမှုမည်မျှပင် ပြုလုပ်စေကာမူ တစုံတရာ မချွတ်ယွင်းချေဟု ယူဆကြ၏။

## မှန်ကန်သော အဟ်လေ့ စွန္နတ်၏ ခံယူချက်

အီမာန်မရှိက ကောင်းမှုအကျိုးမပေးခြင်း မှန်ကန်သော်လည်း အီမာန်ရှိသူဖြစ်ပြီး ဒုစရိုက်ပြုလုပ်ပါက အပြစ်ဒဏ်ကို ခံရမည်ပင်ဖြစ်သည်။ ဇေနာပြစ်မှုကျူးလွန်လျှင်

ကြိမ်ဒဏ်တရာစီအရိုက်ခံကြရမည်။ အိမ်ထောင်ပြုပြီးသူဖြစ်လျှင် ကျောက်ခဲဖြင့် ပေါက်သတ်ခြင်းကို ခံရမည်ဖြစ်သည်။

## (၃) နတ်ဂျာရီယာ အသင်း၏ ယူဆချက်

၎င်းတို့သည် အလ္လာဟ်အသျှင်၏ ဂုဏ်တော် စွေဖာတ်တော်များကို ငြင်းပယ်ကြသည်။ ကျမ်းမြတ်ကုရ်အာန်သည် အဖန်ဆင်းခံ (မတ်ခ်လူက်) ဖြစ်၍ တနေ့တွင် ပျက်စီးပျောက်ကွယ်မည်ဟု ယူဆကြသည်။

## မှန်ကန်သော အဟ်လေ့စွန္နတ်၏ ခံယူချက်

အလ္လာဟ်အသျှင်၏ စွေဖာတ်တော် ဂုဏ်တော်များသည်ကား တရားအားထုတ်ကြိုးစားသဖြင့် ရရှိလာသည် မဟုတ်ချေ။ အလ္လာဟ်အသျှင်သည် အကြီးဆုံးဖြစ်၍ တရားအားထုတ်ရန် မလိုချေ။ ထိုအသျှင်၏ ဂုဏ်တော်များသည် မူရင်းပင်ကိုယ်ရှိသော ထာဝရ ဂုဏ်တော်များဖြစ်၍ ထိုဂုဏ်တော်များသည်လည်း အလ္လာဟ်အသျှင်ကဲ့သို့ ထာဝရ ဖြစ်သည်။ အစ၊ အလယ်၊ အဆုံးမရှိ၊ စ– လယ်–ဆုံး ဟူသော ဝေါဟာရနှင့် ကင်းရှင်းတော်မူသော ဂုဏ်တော်များဖြစ်သည်။ သေခြင်း–အိုခြင်း–နာခြင်း–ပျက်စီးခြင်း တို့မှကင်းသည်။ ကျမ်းမြတ်ကုရ်အာန်သည်လည်း အလ္လာဟ်အသျှင်၏ ဂုဏ်တော်ဖြစ်သော မိန့်ကြားချက် ဗျာဒိတ်တော်ဖြစ်သဖြင့် အစ– အလယ်– အဆုံး မရှိ ထာဝရဖြစ်သော ပင်ကိုယ်ဂုဏ်တော် တစ်ရပ်ဖြစ်သည်။ ထို့ကြောင့်ပျက်စီးခြင်းမှ ကင်းသည်။

ကျမ်းမြတ်ကုရ်အာန်နှင့်စပ်လျဉ်း၍ ပညာရှင်များက (ကလာမ်နတ်ဖ်စီ)နှင့် (ကလာမ်လတ်ဖ်ဇီ) ဟု နှစ်မျိုးနှစ်စား ခွဲခြားပြသထား၏။

(၁) ကလာမ်နတ်ဖ်စီ၊ ပင်ကိုယ်မုကၡပါဠ်တော်၊ ဗျာဒိတ်တော်၊ ၎င်းသည်ကား အဖန်ဆင်းခံ မဟုတ်။ အဖန်ဆင်းခံဟု ယူဆခြင်းသည် အီမာန်ကို ပျက်စီးစေသည်။

(၂) (ကလာမ်လတ်ဖ်ဇီ) လူတို့ရေးသား၍ မှတ်သားထားသော စာရွက်စာတမ်း၊ အက္ခရာ၊ စာလုံးများဖြစ်သည်။ ၎င်းသည်ကား အဖန်ဆင်းခံဖြစ်၍ ပျက်စီးမည်ဖြစ်သည်။

## (၄) မိုရှတ်ဗေ့ဟာတို့၏ ယူဆချက်

ၦင်းတို့သည်ကား အလ္လာဟ်အသျှင်မှာ ခြေ၊ လက်၊ မျက်နှာအစရှိသည့် အင်္ဂါများပါသော ကိုယ်ကာယရှိသည်ဟု ယူဆကြကုန်၏။

## မှန်ကန်သော အဟ်လေ့စွန္နတ်၏ ခံယူချက်

(ရှရဟ်အကာအစ်ဒ်)ကျမ်းတွင် အောက်ပါအတိုင်း မှန်ကန်သော (အကီဒဟ်) ယူဆချက်များကို ကုရ်အာန်နှင့် ဟဒီဆ်တော်အရ ဖော်ပြထား၏။

(၁) ထိုအသျှင်သည် အမြဲရှင်နေတော်မူသော အသျှင်ဖြစ်သည်။ အိုခြင်း၊ နာခြင်း၊ သေခြင်းတို့မှ ကင်းတော်မူသည်။

(၂) ထိုအသျှင်သည် အကြွင်းမဲ့ သိ၊ ကြား၊ မြင်တော်မူသောအသျှင် ဖြစ်တော်မူသည်။

(၃) ထိုအသျှင်သည် အလိုတော်ရှိသည်ကို စွမ်းဆောင်တော်မူသည်။

(၄) ထိုအသျှင်မသိသောအရာ၊ မစွမ်းသောအရာ ဟူ၍ လုံးဝမရှိချေ။

(၅) ထိုအသျှင်နှင့် စံနမူနာတူသောအရာဟူ၍ လုံးဝမရှိ။

(၆) ထိုအသျှင်အတွက် နေရာဌာနနှင့် ခေတ်ကာလဟူ၍ လုံးဝမရှိ။ နေ့ရက်၊ အချိန်ကာလတို့သည်ကား ထိုအသျှင်မြတ်က မိုး၊ မြေ၊ နေလ၊နက္ခတ်တာရာ၊ စကြာဝဠာကြီးများကို ဖန်ဆင်းတော်မူပြီးနောက်မှ ပေါ်ပေါက်လာချေ၏။

(၇) ထိုအသျှင်သည် အရာဝတ္ထု၊ ကိုရိယာ၊ တန်ဆာပလာမဟုတ်၊ ဘယ်လိုဘယ်အရာ၊ ဘယ်ပုံဘယ်ကဲ့သို့ဟု ပြော၍ဖြစ်သော အမျိုးအစားမဟုတ်၊ ကျမ်းမြတ်ကုရ်အာန်တွင် ခြေ၊ လက်၊ မျက်နှာဟု ဖော်ပြထားခြင်းမှာ လူတို့၏ ဝေါဟာရ၊ အသုံးအနှုန်းဖြင့် နားလည်ကြစေရန် တင်စားအသုံးပြုထားသော ဝေါဟာရအသုံးအနှုန်းမျှသာဖြစ်သည်။ ဥပမာ ဟဒီဆ်တော်တွင်

يَدُ اللهِ عَلَى الْجَمَاعَةِ

အလ္လာဟ်အသျှင်၏ လက်တော် ဟု သုံးနှုန်းထားခြင်းတွင် လက်တော် ဟု အဓိပ္ပါယ် မကောက်ယူရ။ အလ္လာဟ်အသျှင် ကူညီစောင်မခြင်းသည် အစည်းအရုံးပေါ်တွင် ရှိသည်ဟု အဓိပ္ပါယ်ရသည်။

ထိုအသျှင်၏ အမြဲတည်ရှိနေကြောင်းကို စကြာဝဠာကြီး၏ သွားလာလှုပ်ရှားနေခြင်းက ထောက်ခံလျက်ရှိသည်။ အကြောင်းမူကား မည်သည့်အရာမဆို ပြုလုပ်သူမရှိဘဲ အလိုအလျောက်ဖြစ်နေသည် ဟူ၍ မရှိချေ။ သေးငယ်သော အရာသည်ပင်လျှင် ပြုလုပ်သူ ရှိမှသာ ဖြစ်နိုင်သည်ကို သိရှိ နားလည်၊သဘောပေါက်သည်ဆိုလျှင် ဤမျှခန့် ကြီးကျယ်သော စကြာဝဠာကြီး သွားလာလှုပ်ရှားနေခြင်းမှာ ဖန်ဆင်းသူမရှိပဲ၊ အလိုအလျောက် ဖြစ်ပျက်နေသည်ဟု ဆိုနိုင်ပါမည်လား။ ဤမိုး၊ မြေ၊ နေ၊လ စကြာဝဠာကြီး သွားလာလှုပ်ရှားနေခြင်းသည်ကား လောကတွင်ရှိသော မည်သည့်စက်ရုံ၊ မည်သည့် ဓာတ်အား၊ မည်သည့်အလုပ်သမားကြောင့် သွားလာဖြစ်ပျက်နေသည် မဟုတ်ချေ။

မီးကိုမမြင်ရသော်လည်း မီးခိုးကိုကြည့်၍လည်းကောင်း၊ နေကိုမမြင်ရသော်လည်း နေ၏အလင်းရောင်ကို တွေ့မြင်၍လည်းကောင်း၊ လေကိုမမြင်ရသော်လည်း အရာဝတ္ထုများ၏ လှုပ်ရှားနေခြင်းကို ကြည့်၍လည်းကောင်း၊ မီးရှိကြောင်း၊ နေရှိကြောင်း၊ လေရှိကြောင်းကို သာမန် အသိဉာဏ်ဖြင့် သိရှိနိုင်သကဲ့သို့ အလွန်တရာ ကြီးကျယ်သော ဤစကြာဝဠာကြီး အချိန်မှန် သွားလာနေသည်ကိုကြည့်၍ ဖန်ဆင်းတော်မူသောအသျှင်ကို သိရှိနိုင်ကြပေသည်။ (သို့ဖြစ်လျှင် စိတ်ကူးယဉ်ဘုရားဟု ဆိုနိုင်ပါမည်လော။)

ထို့ပြင် အသင်သည် ထိုအသျှင်နှင့် စံနမူနာတူသောအရာမရှိကြောင်း၊ ထိုအသျှင်သည် အရာဝတ္ထုမဟုတ်ကြောင်း၊ ဘယ်လိုဘယ်ပုံဟု မပြောနိုင်ကြောင်းကို နားမလည် သဘောမပေါက်ပါ ဟုဆိုလျှင် မိမိကိုယ်တွင်ရှိသော ဝိညာဉ်ကို လေ့လာသုံးသပ်၊ ဝေဖန်ကြည့်၍ သဘောပေါက် နားလည်ပါက ဖန်ဆင်းတော်မူသော အလ္လာဟ်အသျှင်ကို သဘောပေါက် နားလည်နိုင်ပါလိမ့်မည်။

(၁) ကိုယ်တွင်ရှိသောဝိညာဉ်ကို မည်သည့်နေရာ၌ရှိသည်ကို မပြောနိုင်ခြင်း။
(၂) ဝိညာဉ်သည် ဖြူသလား၊ မဲသလား၊ ဘယ်လိုအရာလဲဟု မသိခြင်း၊
(၃) ဝိညာဉ်သည် ဘယ်အရာနှင့် စံနမူနာတူသလဲ ဟု မသိခြင်း၊
(၄) ဝိညာဉ်သည် ဘယ်ပုံပန်းသဏ္ဌာန်ရှိသလဲ မပြောနိုင်ခြင်း၊
(၅) ဝိညာဉ်သည် အဘယ်အရာဝတ္ထုဖြစ်သည်ကို ဝေဖန်လို့ မရခြင်းတို့နှင့်
(၆) ဝိညာဉ်သည် အိပ်ပျော်နေစဉ် ကိုယ်ကာယမှ အပြင်သို့ထွက်၍ အိပ်မက်တွင် အမျိုးမျိုးအဖုံဖုံ တွေ့ကြုံနေရခြင်းမှာ ဝိညာဉ်သည် ကိုယ်ကာယ သေကြေ ပျက်စီးသော်လည်း မသေကြေ မပျက်စီးကြောင်း၊ ဤသည်တို့ကို နားလည် သဘောပေါက်ပါက အလ္လာဟ်အသျှင်နှင့် စံနမူနာ

တူသောအရာ မရှိကြောင်း၊ ထိုအသျှင်မြတ် ဘယ်ပုံသဏ္ဍာန်ရှိကြောင်း၊ မပြောနိုင်ခြင်းတို့ကိုလည်း ဝိညာဉ်ကို စံနမူနာပြု၍ နားလည်သဘောပေါက်နိုင်ချေမည်ဖြစ်၏။

**၎င်းဝိညာဉ်နှင့်စပ်လျဉ်း၍ အာယတ်တော်တွင်**

قُلِ الرُّوۡحُ مِنۡ اَمۡرِ رَبِّیۡ وَمَاۤ اُوۡتِیۡتُمۡ مِّنَ الۡعِلۡمِ اِلَّا قَلِیۡلًا

ဝိညာဉ်သည် အလ္လာဟ်အသျှင်၏ အမိန့်တော်နှင့် ဖြစ်ရှိကြောင်း၊ ထို့နောက် လူတို့အား ပေးသနားခြင်းခံရသော အသိပညာသည်ကား အလွန်တရာ နည်းပါးလှကြောင်း ပါရှိ၏။ ထို့အတူ လောကတွင် ရှိသမျှသော အသိပညာ အားလုံးတို့သည် အသိပညာပေးသနားတော်မူသော အလ္လာဟ်အသျှင်က အသိ ပေးသနားတော်မူ၍သာ ဖြစ်ကြောင်းကို သိရှိရသည်။

**လူသားတို့အား အလ္လာဟ်အသျှင်က အသိပေးသနားတော် မမူသော အချို့ကိစ္စ**

اِنَّ اللّٰهَ عِنۡدَهٗ عِلۡمُ السَّاعَةِ‌ۚ وَيُنَزِّلُ الۡغَيۡثَ‌ۚ وَيَعۡلَمُ مَا فِى الۡاَرۡحَامِ‌ؕ وَمَا تَدۡرِىۡ نَفۡسٌ مَّاذَا تَكۡسِبُ غَدًا‌ؕ وَمَا تَدۡرِىۡ نَفۡسٌۢ بِاَىِّ اَرۡضٍ تَمُوۡتُ‌ؕ اِنَّ اللّٰهَ عَلِيۡمٌ خَبِيۡرٌ ۝ ﴿سورة لقمان﴾

**အလ္လာဟ်အသျှင်၏ ဂုဏ်ထူးဝိသေသများမှာ**

(၁) ကမ္ဘာပျက်မည့်(ကိယာမသ်) နေ့သည် မည်သည့်နေ့ရက်တွင် ဖြစ်မည်ကို ထိုအသျှင် သာလျှင်သိတော်မူသည်။

(၂) (မိမိ၏အကြွင်းမဲ့ သိတော်မူသောဂုဏ်တော်အားဖြင့် လိုအပ်သလို)မိုးကို ရွာသွန်းစေတော်မူသည်။ မိုးကောင်းခြင်း၊ မိုးခေါင်ရေရှားဖြစ်ခြင်းတို့သည် ထိုအသျှင့်အလိုတော်ဖြင့်သာဖြစ်သည်။ မိုးမရွာစေပဲ မိုးခေါင်စေတော်မူလျှင် မိုးကောင်းစေရန် လူသားတို့တွင်စွမ်းအား မရှိချေ။ ထို့အတူ မိုးများလွန်းစေတော်မူက မိုးမရွာစေရန် လူသားတို့တွင် စွမ်းအားမရှိချေ။

(၃) ပဋိသန္ဓေ ကိုယ်ဝန်ဆောင်တွင် သန္ဓေဇီဇကို မိန်းကလေးနှင့် ယောကျ်ားကလေး (ဘယ်အရာဟု ခွဲခြားမသိကြ)။ ဖန်ဆင်းတော်မူသော အသျှင်သာ သိတော်မူသည်။

(၄) (လွန်လေပြီးသော အချို့ကိစ္စကို ဂျင်၊ နတ်၊ ရှိုင်တွာန် မာရ်နတ်တို့၏ အကူအညီဖြင့်သိရှိနိုင်သော်လည်း ) နက်ဖြန် ဘာကို လုပ်ကိုင်မည်။ ဘာဖြစ်ပျက်မည်ကို မူကား လူသားတို့ မသိကြချေ။

(၅) လူတစ်ဦးသည် မည်သည့်နေရာ မည်သည့်ရပ်ကွက်တွင် သေဆုံးရမည်ကို မသိကြချေ။ အလ္လာဟ်အသျှင်သာလျှင် အကြွင်းမဲ့ သိတော်မူသည်။

## မိမိကိုယ်ကိုသိလျှင် ဖန်ဆင်းတော်မူသောအသျှင်ကို သိအံ့ဟူသော အမိန့်တော်၏ရှင်းလင်းချက်

مَنْ عَرَفَ نَفْسَهُ فَقَدْ عَرَفَ رَبَّهُ

အသင့်ကို မည်သူဖန်ဆင်းသလဲ။ ဖန်ဆင်းသူသည်ကား အသင်၏မိဘ၊ ဘိုး၊ ဘွားဖြစ်သလား။ သို့တည်းမဟုတ် အခြားမည်သူဖြစ်သလဲ။ အသင်ကိုယ်တိုင်ကပဲ ဖန်ဆင်းနိုင်ပါသလား။ မိမိကိုယ်ကိုမိမိ ပိုင်ဆိုင်မှုရှိပါသလား။

( ၎င်းနှင့်ပတ်သက်၍ အာယတ်တော်လာရှိသည်မှာ)

يا ايها الناس اعبدوا ربكم الذى خلقكم والذين من قبلكم لعلكم تتقون○
اى اعبدوا ربكم راجين ان تنخرطوا فى سلك المتقين الفائزين بالهدى والصلاح المستوجبين لجوار الله تعالى ولعل تعليل للخلق اى خلقكم لكى تتقون﴿بيضاوى﴾

အိုလူသားတို့ အသင်တို့သည် မိမိတို့အား မွေးမြူစောင့်ရှောက် ဖန်ဆင်းတော်မူသောအသျှင်အား ခဝပ်ကိုးကွယ်ကြကုန်။ ထိုအသျှင်သည်ကား အသင်တို့နှင့်တကွ အသင်တို့၏မိဘ၊ ဘိုး၊ ဘွားကိုပါ အသင်တို့( မွတ်သကီးန် ခေါ်) အဖြစ် ဒုစရိုက်ရှောင်ကြဉ်ကြကုန်သော သူတော်စင်များ ဖြစ်ကြစေရန်အလို့ငှာ ဖန်ဆင်းတော်မူ၏။

သို့ဖန်ဆင်းရာတွင် တာဝန်ပေး အပ်နှံခြင်းခံရသော ဖွရစ်ရှ်သာက သွေးတုံးမှ အသားတုံးဖြစ်လာပါပြီ၊ ၎င်းမှအမျိုးသမီးလား၊ အမျိုးသားအဖြစ်လားဟု လျှောက်ထားရာ အမိန့်တော်လာသည့်အတိုင်း ပုံသဏ္ဌာန်ပြုလုပ်ပေးရ၏။ ထို့နောက် အလ္လာဟ်အသျှင့်ဘက်တော်မှ ဝိဉာဉ်ရောက်ရှိလာ၏။ အလ္လာဟ်အသျှင်က မိမိအကြွင်းမဲ့ သိတော်မူသော ဂုဏ်တော်ဖြင့် ၎င်းသူ၏အသက်၊ ရိဇ်ဇ်၊ အလုပ်အကိုင်နှင့် လူကောင်းသို့မဟုတ် လူယုတ်မာအစရှိသည်တို့ကို ရေးမှတ်စေတော်မူ၏။ (ဗုခါရီ–တွဲ–၁–၄၆)

اَلَا يَعْلَمُ مَنْ خَلَقَ ﴿سورة ملك﴾

သို့ဖန်ဆင်းခြင်းကို ဖန်ဆင်းသောသူ မသိဘိသလော။ (စူရာမွလ်က်)

ဖော်ပြပါအကြောင်းအရာများကို ဘာမျှမသိသူသည် ဖန်ဆင်းသူ ဖြစ်နိုင်မည်လော။ မိခင်၏ဝမ်းတွင်းရှိကလေးကို မည်သည့်သိပ္ပံနည်းနှင့်မျှ ရှာဖွေစုံစမ်း၍ ယောကျ်ားကလေး မိန်းကလေး ခွဲခြားမသိနိုင်ပေ။

ဤသို့ လူတို့ကိုလောကရှိ မည်သူတစ်ဦးတစ်ယောက်ကမျှ ဖန်ဆင်းသည် မဟုတ်ကြောင်းကို ထင်ရှားစွာ ပြသထားခြင်းပင်ဖြစ်သည်။

အဖိုအမ ပေါင်းစပ်လျှင် သားဖွားခြင်းသည်ကား သဘာဝဟု ဆိုလျှင် အချို့မှာ ကြိုးစားအားထုတ်ပါလျက် သားသမီး လုံးဝ မရချေ။ အချို့မှာ သားယောကျ်ားကလေး လိုချင်သော်လည်း မရ။ သမီးသာရသည်။အချို့မှာ သမီးမိန်းကလေး လိုချင်သော်လည်း မရ။သားယောကျ်ားသာရသည်။ ဤသည် ဘယ်လိုသဘော သဘာဝဘာလဲ။ တမိတဖ တည်းမှ ပေါက်ဖွား လာသော သားသမီးများပင်လျှင် တစ်ဦးနှင့်တစ်ဦးပုံစံမတူ။ တချို့ဖြူ။ တချို့မဲ။ တချို့လှ၊ တချို့အရုပ်ဆိုးနေသည်။ ဘာကြောင့်ဘာလဲ။ သဘာဝပဲလား။ ဤအရာကို နက်နက်နဲနဲ စဉ်းစား၍ သဘောပေါက်ပါက ဖန်ဆင်းတော်မူသော အလ္လာဟ်အသျှင်သည် တစ်ရက်တစ်မျိုး နေ့စဉ်နေ့တိုင်း ဆန်းကျယ်ထူးကဲသော ဂုဏ်တော်များနှင့် ပြည့်စုံတော်မူချေသတည်း။ ဟူသော ဗျာဒိတ်တော်၏ ပေါ်လွင်ထင်ရှားသော လက္ခဏာများ ဖြစ်ကြောင်းကို မိမိကိုယ်တွင်ပင် တွေ့မြင်ရပေမည်။

كُلَّ يَوْمٍ هُوَ فِى شَأْنٍ ﴿سورة رحمن﴾

ထို့ကြောင့် မိမိကိုယ်ကိုသိလျှင် ဖန်ဆင်းတော်မူသော အသျှင်ကိုသိအံ့ ဟု အမိန့်တော်လာခြင်းဖြစ်သည်။

တဖန် လူတို့၏ (နဖ်ဆ်) စိတ်ဝိညာဉ် အမျိုးအစားမှာ ပင်ကိုယ်အားဖြင့် သုံးမျိုး ခွဲခြားထား၏။

(၁) ပထမအမျိုးမှာ (နဖ်ဆေ့ အမ္မာရာ) တိရစ္ဆာန်ဝါဒတွင် ကျရောက်လျက် ရှိသော အမျိုးအစားဖြစ်သည်။ ၎င်းတိရစ္ဆာန်ဝါဒတွင်လည်း နှစ်မျိုးရှိသည်။

(က) ကျား၊ ကျားသစ်၊ မြွေ၊ ကင်းတို့ကဲ့သို့ အခြားသူကို အန္တရာယ်ပြု ဒုက္ခပေးသော အမျိုးအစား။

(ခ) ကျွဲ၊ နွား၊ သိုး၊ ဆိတ်တို့ကဲ့သို့ တကိုယ်ကောင်းစိတ်ရှိသော အမျိုးအစား၊ ဤနှစ်မျိုးလုံးတို့သည် စားရန်၊ သောက်ရန်၊ မေထုံမှီဝဲရန်မှာ ၎င်းတို့ အသက်ရှင်နေခြင်း၏ အဓိက ရည်ရွယ်ချက်ဖြစ်သည်။ အခြားသူတစ်ဦး၏ ဘေးဒုက္ခများသည် ၎င်းတို့နှင့် ဘာမျှ မသက်ဆိုင်ချေ။ ဤသို့ တိရစ္ဆာန်ဝါဒတွင် ကျရောက်လျက်ရှိသော လူတို့သည် ကောင်းမှုတစ်ခု ပြုလုပ်သော အရသာနှင့် မကောင်းမှု၏ ဘေးအန္တရာယ်ကို နားမလည် ကြသဖြင့် ဖန်ဆင်းတော်မူသောအသျှင်ကို သိရန်ခဲယဉ်းပေသည်။

(၂) ဒုတိယအမျိုးအစားမှာ (နတ်ဖ်စ်ေလောင်ဝါမာ) ဖော်ပြပါ တိရစ္ဆာန်ဝါဒကို စက်ဆုပ်ရွံရှာပြီး သူတော်စင်၊ သူတော်ကောင်းဖြစ်လိုသော စိတ်ဆန္ဒပေါ်ပေါက်လာသဖြင့် ၎င်းဝါဒကို ပြုပြင် ပြင်ဆင်ရန် လိုလား၍ ကြိုးစားအားထုတ်လျက်ရှိသော (နတ်ဖ်စ်ေ လောင်ဝါမာ) စိတ်ဝိညာဉ်ဖြစ်သည်။

(၃) တတိယအမျိုးအစားမှာ (နတ်ဖ်စ်ေမွ(တွ)မအင်နာ) ယင်းသို့ပြုပြင်ရန် ကြိုးစားအားထုတ်သည့်အတိုင်း အောင်မြင်မှု ရရှိသောကြောင့်–

(က) အလ္လာဟ်အသျှင်၏ (အိဘာဒတ်) ခဝပ်ကိုးကွယ်မှုတွင် စိတ်နှလုံး အေးချမ်းသာယာ၍ ပျော်ရွှင်စေသောအရသာကို ရရှိသည်။

(ခ) ရှရီအတ်တရားတော်၏ အမိန့်ဥပဒေကို အနည်းငယ်ပင် ဖီလာဆန့်ကျင် ပြုလုပ်မိလျှင် စိတ်မချမ်း မသာဖြစ်၍ တရားတော်၏ အမိန့်အတိုင်း လိုက်နာကျင့်သုံးရမှ စိတ်နှလုံးချမ်းမြေ့ သာယာသည်။

(ဂ) ဖန်ဆင်းတော်မူသောအသျှင်အား (**မအ်ရိဖတ်**) စိတ်နှလုံး ပွင့်လင်း သော အသိဉာဏ်တရားနှင့် ဆက်သွယ်မှုကိုရရှိသဖြင့် ထိုအသျှင့်ဘက်တော်သို့ စိတ်နှလုံး ယိမ်းယိုင်းလျက်ရှိသည်။ ဤသို့ အချင်းလက္ခဏာရှိသော စိတ်ဝိညာဉ်ကို (နတ်ဖ်စ်ေ မွ(တွ)မအင်နာ) ဟုခေါ်သည်။

(မိမိကိုယ်ကိုသိလျှင်) ဆိုသည်မှာ မိမိသည် ဤလူ့ဘောင်ဘဝသို့ ရောက်ရှိ လာပုံနှင့် မိမိတွင် ရရှိထားသော စိတ်ဝိညာဉ်သည် ဖော်ပြပါ သုံးမျိုးသုံးစားအနက် မည်သည့်အဆင့်တွင် ရောက်ရှိနေသည်ကို ခွဲခြားသိရှိနားလည်ပြီး ထိုလူ့ဘောင်ဘဝ၏ အဆင့်အတန်း အမြင့်ဆုံးသော (**မအ်ရိဖတ်**) စိတ်နှလုံး ပွင့်လင်းသော အသိတရားနှင့် ဆက်သွယ်မှု အဆင့်အတန်းကို သဘောပေါက်နားလည်၍ ၎င်းအဆင့်ကို ရလိုသော စိတ်ရှိသူတိုင်းသည် (ဖန်ဆင်းတော်မူသောအသျှင်ကို သိအံ့) ဟု အမိန့်တော် လာရှိခြင်း ဖြစ်၏။

ထို့နောက် အလ္လာဟ်အသျှင်မြတ်၏ (မခ်လူက်) အဖန်ဆင်းခံများတွင် စဉ်းစားခြင်းဖြင့် ဖန်ဆင်းတော်မူသော အသျှင်ကို သိနိုင်ကုန်၏။ မိုး၊ မြေ၊ နေ၊ လအစရှိသည်တို့ကို ကြည့်ခြင်းအားဖြင့်လည်းကောင်း၊ ဖန်ဆင်းတော်မူသောအသျှင်ကို သိနိုင်ကြကုန်၏။

အလ္လာဟ်အသျှင်က အချို့အဖန်ဆင်းခံကို စံနမူနာ ယူကြစေရန် ဖန်ဆင်းထားတော်မူ၏။ ခွေးသည် မိမိသခင်ကို အဘယ်မျှ ကျေးဇူးသိတတ်သလဲ။ သခင်က ထမင်းကျန် ဟင်းကျန် ကျွေးသဖြင့် သခင့်အိမ်ကို နေ့ရောညဥ့်ပါ စောင့်ရှောက်၏။

မြင်းသည် သူ့သခင်က အစာကျွေးသောကြောင့် အသက်အန္တရာယ်ကို ဂရုမစိုက်ပဲ သခင်၏အမိန့်ကို နာခံ၏။ သို့သော် လူသားတစ်ဦးသည် မိမိအား လူ့ဘောင်ဘဝသို့ ဖန်ဆင်းပေးသနားတော်မူသောအသျှင်ကို မသိတတ်။ စေခိုင်းသည့် အမိန့်တော်ကိုလည်း မနာခံ၊ မဆောင်ရွက်ဆိုလျှင် အဆိုပါ တိရစ္ဆာန်ထက်ပင် ညံ့ဖျင်းချေမည်ဖြစ်၏။

ထို့အတူ အလ္လာဟ်အသျှင်က မိမိ(ကွတ်ဒရတ်တော်) တန်ခိုးတော်ကို ကြည့်၍ ဖန်ဆင်းတော်မူသောအသျှင်ကို သိရှိကြစေရန် တန်ခိုးတော်များကို လောကတွင်အမျိုးမျိုး အဖုံဖုံ ပြသတော်မူ၏။တမန်တော်ပေါင်း အမြောက်အမြားကို စေလွှတ်တော်မူ၍ လူမစွမ်းအံ့မဆုံးသော (မွအ်ဂျေ့ဇာ)တော်များကို ချီးမြှင့်ကာ လူသားတို့ကို ပြသတော်မူခဲ့၏။ ဤသည် ဖန်ဆင်းတော်မူသောအသျှင်အား အသိတရား ရရှိကြစေရန်အတွက်ပင်တည်း။

အချို့က ငါတို့ ကြိုးစားအားထုတ်မှ စားသောက်ကြရသည်။ အလ္လာဟ်အသျှင်က အဘယ်မှာ ကျွေးသလဲဟု ယူဆကြ၏။ ၎င်းတို့အတွက် အစ်ဗရာဟင်မ် عليه السلام ကို နမူနာအဖြစ် ပြသတော်မူ၏။ ဇနီးနှင့်သားငယ်တို့ကို လူသူမရှိသော သဲကန္တာရတွင် ထားခဲ့ရန် အမိန့်ရှိတော်မူသဖြင့် ထားခဲ့ရပြီးနောက် အလ္လာဟ်အသျှင်က (ဇမ်ဇမ်)ရေကို သဲကန္တာရတွင် မိမိတန်ခိုးတော်နှင့် ဖန်ဆင်းကာ စောင့်ရှောက်တော်မူ၏။ ၎င်းရေသည် တစ်ကမ္ဘာလုံးရှိ အခြားရေများနှင့်မတူ။ ၎င်းတွင် အာဟာရဓာတ်လည်း ပါဝင်သဖြင့် အခြားသော အစားအစာကို မစားသုံးဘဲ ရက်ပေါင်း အတော်ကြာ နေနိုင်၏။

လောကတွင် ဖြစ်ပျက်သမျှ ကိစ္စတို့သည်ကား အများအားဖြင့် အကြောင်းခံများပေါ်တွင် တည်လျက်ရှိ၏။ သို့သော်လည်း တခါတရံ မိမိ၏ တန်ခိုးတော်ကို သဘာဝနှင့် ဆန့်ကျင်၍ ပြသတော်မူ၏။ မီးသည် သဘာဝအားဖြင့် လောင်စေ၏။ သို့သော် အစ်ဗရာဟင်မ် عليه السلام နှင့် တမန်တော်မြတ် ﷺ ၏ အွမ္မသ်သား အဗူမွတ်စလင်မ် ခေါ်လာနီသခင်တို့ကို မလောင်ကျွမ်းစေခဲ့ပေ။ (ဘရကာတွတ်စွာလေဟီးန်)

ဤသို့ အဖန်ဆင်းခံအရာများတွင် မိမိတန်ခိုးတော်ကို ပြသတော်မူခြင်းမှာ

လူသားတို့သည် ၎င်းတို့ကို တွေ့မြင်ကြည့်ရှု၍ ဖန်ဆင်းတော်မူသောအသျှင်ကို သိရှိကြစေရန်ပင်ဖြစ်သည်။

## (၅) ဂျဗ်ရီယာအသင်း၏ ယူဆချက်

## الجبرية القائلون بنفى الكسب و الاختيار

လူသားတို့သည် အလ္လာဟ်အသျှင်၏ သတ်မှတ်ချက် (သတ်က်ဒီးရ်)အတိုင်း ဂျဟန္နမ်ဆိုလျှင် ဂျဟန္နမ်ငရဲသို့ သွားကြရမည်။ ဂျန္နသ်ဆိုလျှင် ဂျန္နသ်သို့ သွားကြရမည်။ ထို့ကြောင့် လူသားတို့အတွက် ပြုလုပ်ပိုင်ခွင့် အခွင့်အရေး လုံးဝမရှိချေဟု ယူဆကြ၏။

## မှန်ကန်သော အဟ်လေ့စွန္နတ်၏ ခံယူချက်

## واهل السنة والجماعة

**واللهُ تعالى خالق الافعال للعباد كلها من الكفر والايمان والطاعة والعصيان وهى كلها بارادته ومشيته وحكمته وقضيته وتقديره وللعباد وافعال اختيارية يثابون بها وتعاقبون عليها والحسن منها برضاء اللهِ تعالى والقبيح منها ليس برضائه ﴿عقائد سنفى، صـ ١٠﴾**

လောကတွင် ဖြစ်ပျက်သမျှ အရာဟူသရွေ့သည် အလ္လာဟ်အသျှင်၏ အလိုတော်၊ အမိန့်တော်၊ ဆုံးဖြတ်သတ်မှတ်ချက်နှင့် ဖန်ဆင်းပေးတော်မူသောကြောင့် ဖြစ်ပျက်ပေါ်ပေါက်ရသည်မှန်၏။

သို့သော် လူတို့အတွက် ဖွတ်အတင်းအကြပ်ကိုင်ခြင်းနှင့် ပြုလုပ်လိုရာ ပြုလုပ်ပိုင်ခွင့် မရှိဟုဆိုခြင်းမှာ လုံးဝ မမှန်ကန်ပါ။ လူသားတို့မှာ ပြုလုပ်လိုရာကို ပြုလုပ်နိုင်သော အခွင့်အရေး အပြည့်အဝရှိသည်။ ၎င်းအခွင့်အရေးနှင့် စွမ်းအား အပြည့်အဝကြောင့် ကောင်းမှုပြုလုပ်က အကျိုးဆဝါဗ် ပေးသနားခြင်း ခံရ၍ မကောင်းမှု ပြုလုပ်က ၎င်း၏ အစား အပြစ်ဒဏ်ပေးခြင်းကို ခံကြရသည်။ (ရှရဟ်အကာအစ်ဒ်)

သို့တည်းမဟုတ်က မျက်စိမပါသူကို မကြည့်နှင့်ဟုပြောခြင်း၊ လက်မပါသူကို မကိုင်နှင့်ဟု ပြောခြင်း အချီးနှီးဖြစ်သကဲ့သို့ ကျမ်းမြတ်ကုရ်အာန်၏ အမိန့်တော်များ

အားလုံးသည် အစိပ္ပါယ်မရှိ၊ အလဟဿ အချိုးနှိုးသာ ဖြစ်ချေမည်တည်း။ (သတ်က်ဒီးရ် ခေါ်) အကောင်းနှင့်အဆိုး၏ သတ်မှတ်ခြင်းသည် အလ္လာဟ်အသျှင့်ဘက်တော်မှ ဖြစ်သည်ဟု ဆိုခြင်းမှာ သူတော်စင်တို့၏ ကျော်ဇောသောမိန့်ခွန်း–

## كنت كنزا مخفيا حببت ان اظهر فخلقت الخلق ﴿التكشف مسائل مثنوى﴾

ငါအလ္လာဟ်အသျှင်မြတ်သည် မြုတ်ကွယ် ဖုံးအုပ်လျက်ရှိသော အဖိုးတန် ရတနာနှင့် ပြည့်ဝသော ဘဏ္ဍာတိုက်ဖြစ်သည်။ ငါအသျှင်က ယင်းဖုံးကွယ်လျက်ရှိသော ရတနာများကို ပေါ်လွင်ထင်ရှား ကျော်ကြားစေရန် နှစ်သက်လိုလားတော်မူသဖြင့် အဖန် ဆင်းခံ (မခ်လူးက်) လူသတ္တဝါ၊ စကြာဝဠာအပေါင်းတို့ကို ဖန်ဆင်းတော်မူ၏၊ ဟူသော မိန့်ခွန်းတော်အရ လူ၊ နတ်၊ ဖွရစ်(ရှ)တာ၊ မိုး၊ မြေ၊ နေ၊ လ၊ နက္ခတ်တာရာ အစရှိသော လောကကြီးကို ဖန်ဆင်းတော်မူခြင်း၏ အကြောင်းရင်းမှာ (၉၉) ကိုးဆယ့်ကိုးပါးသော ဂုဏ်တော်၊ စွမ်းဖွာတ်တော်များ ပေါ်လွင်စေရန်အတွက်ပင်ဖြစ်သည်။ အကောင်းပြုသူ၊ အမိန့်တော် နာခံသူများအတွက် ဂျန္နတ်ကို ဖန်ဆင်းထားတော်မူသည်။ မကောင်းမှုပြုသူ အမိန့်မနာခံသူများအတွက် ဂျဟန္နမ်ငရဲကို ဖန်ဆင်းထားတော်မူသည်။ ဂုဏ်တော်များ အနက် အကြွင်းမဲ့ သိတော်မူသောအသျှင်ဟု ဂုဏ်တော်တစ်ပါးပါရှိရာ မိမိ၏ အကြွင်းမဲ့ သိတော်မူခြင်းကို ပေါ်လွင်စေရန် ကြိုတင်ရေးသား၊ သတ်မှတ်၊ ဖော်ပြထားခြင်းပင်ဖြစ် သည်။

မောင်ဖြူသည် မည်သည့်ကောင်းမှုကို ပြုလုပ်မည်။ မည်သည့် ဒုစရိုက်များကို ပြုလုပ်မည်ဟု အကြွင်းမဲ့ သိတော်မူခြင်းကြောင့် ရေးမှတ်စေတော်မူခြင်းဖြစ်သည်။ ၎င်းမောင်ဖြူ၏ မကောင်းမှု ပြုလုပ်ခြင်းမှာ သူ၏စိတ်ရိုင်း၊ အလိုဆန္ဒ စေခိုင်းသည့်အတိုင်း လွတ်လပ်ခြင်းရှိသော အခွင့်အရေးအရ ပြုလုပ်ခြင်းသာဖြစ်သည်။ မလုပ်မနေရဟု ဇွတ် အတင်းအကြပ်ကိုင်ခြင်း မရှိချေ။ ထို့အတူ အကောင်းပြုလုပ်ခြင်းသည် ၎င်း၏ မွန်မြတ် သော စိတ်စေတနာဖြင့် ပြုလုပ်လိုရာ ပြုလုပ်ပိုင်ခွင့်ရှိသော အခွင့်အရေးကြောင့် ဖြစ်သည်။

သတ်က်ဒီးရ်၏ သတ်မှတ်ခြင်းကြောင့် မလုပ်မနေရသော ပြုလုပ်ခြင်းမျိုး မဟုတ်ချေ။ ထို့ကြောင့် ဂျတ်ဗရိယာအသင်း၏ ယူဆချက် လုံးဝမှားသည်။ လက်တွေ့ အခွင့်အရေးနှင့်လည်း ဆန့်ကျင်သည်။

## (၆) ခါရိဂျီယာအသင်း၏ ယူဆချက်

خارجی رافضیوں کے مخالف ایک فرقہ ہے جو اصحاب ثلاثہ یعنی حضرت ابوبکرؓ، حضرت عمرؓ، حضرت عثمانؓ کو اچھا کہتے ہیں حضرت علی کرم اللہ وجہہ کو نہیں مانتے ﴿لغات فیروزی﴾

ခါရိဂျီဆိုသည်မှာ ရာဖိဇီအသင်း၊ ယှိအာအသင်းတို့နှင့် ဆန့်ကျင်သော အသင်း တစ်သင်းဖြစ်သည်။ ၎င်းတို့၏ယူဆချက်မှာ သမ္ဗတကြီးသုံးပါးဖြစ်သော အဗူဗက်ရ်၊ အုမရ်၊ အွတ်ဆမာန်တို့ကို မှန်ကန်သော သမ္ဗတကြီးများဟု ယူဆကြ၍ အကောင်း ပြောဆိုကြကုန်၏။ စတုတ္ထသမ္ဗတဖြစ်သော အလီသခင်ကို အမှန်သမ္ဗတဟု မယူဆပဲ ဆန့်ကျင်သူများဖြစ်ကြသည်။ ခါရိဂျီဆိုသည်မှာ အီမာန်မရှိသူ၊ အစ္စလာမ်ဘာသာ၏ အပြင်ဘက်သို့ ထွက်ရောက်သူဟု အဘိဓါန် အဓိပ္ပါယ်ရသည်။ ဝေါဟာရ အခေါ်တွင် မွတ်စလင်မ်များမှ အသင်းတစ်သင်းသည် သမ္ဗတကြီး အလီသခင်ကို အမှန်သမ္ဗတဟု မယူဆသောအသင်းကို ခေါ်သည်။ (အဘိဓါန်)

### မှန်ကန်သော အဟ်လေ့စွန္နတ်၏ ခံယူချက်

ခလီဖ္ဖာကြီးလေးပါးစလုံး အမှန်ဖြစ်ကြသည်။ အလ္လာဟ်အသျှင့် အလိုတော်ဖြင့် စွဟာဗဟ်သာဝကကြီးများ၏ (အစ်ဂျ်မာအ်)တညီတညွတ်တည်း ဆုံးဖြတ်ချက်အရ အစဉ် အလိုက် သမ္ဗတ (ခလီဖ္ဖာ)ကြီးများ ဖြစ်ကြကုန်သည်။

## (၇) ရာဖိဇ္ဇီ၊ အိမာမီယာ၊ ယှိအာအသင်းကွဲလွဲပုံ

شیعہ وہ گروہ یا شخص جو حضرت علیؓ اور انکی اولاد کا دوستدار اور باقی خلفاً کے خلاف ہو؛ رافضی شیعوں کا ایک فرقہ ہے عموماً رافضی لوگ سخت برا بھلا کہتے ہیں بعض منصف شیعہ بھی ہیں جو سب اصحاب سے زبان کو روکے رکھتے ہیں وقلیل ماھم ﴿لغات فیروزی﴾

ရာဖိဇ္ဇီအသင်း၊ အိမာမီယာအသင်း၊ ယှိအာအသင်းအားလုံး တစ်မျိုးတည်း ဖြစ်ကြသည်။ ယှိအာတို့သည် အလီသခင်နှင့် မြေးတော်နှစ်ပါးကို ချစ်ခင်လေးစားသူများ ဖြစ်ကြသည်။ သို့သော် ကျန်(ခလီဖ္ဖာ) သုံးပါးတို့ကို ဆန့်ကျင်ကြသည်။ ရာဖိဇ္ဇီဆိုသည်မှာ

ယှီအာများမှ အသင်းတစ်သင်းဖြစ်သည်။ အများအားဖြင့် ၎င်းတို့သည် ခလီဖွာကြီး သုံးပါးတို့ကို အလွန်ကဲ့ရဲ့ ရှုတ်ချ ဆဲရေးပုတ်ခတ် ပြောဆိုကြသည်။ သို့သော် ယှီအာများတွင် အချို့တို့သည် စွဟာဗီကြီးများကို ဆဲရေးတိုင်းထွာခြင်း မပြုလုပ်ကြချေ။ ထိုသို့ သိက္ခာသမာဓိ ရှိသူများသည်ကား အလွန်နည်းပါးလှ၏။ (အဘိဓါန်)

## မှန်ကန်သော အဟ်လေ့စွန္နတ်၏ အကီဒဟ် ခံယူချက်

## من علامات اهل السنة والجماعة تفضيل الشيخين ومحبة الختنين

اہل سنت والجماعت کے علامات میں سے یہ ہے کہ شیخین یعنی حضرت ابوبکرؓ، حضرت عمرؓ کو باقی اصحاب پر ترجیح دینا اور انکی فضیلت کو ماننا اور حضرت عثمانؓ اور حضرت علیؓ سے محبت رکھنا ہے جو اس کے خلاف کرے وہ اہل سنت والجماعت میں سے نہیں (یعنی راہ راست پر نہیں) ہے ﴿شرح عقائد﴾

အဟ်လေ့စွန္နတ်သည်ကား ခါရိဂျီယာတို့ကဲ့သို့ အလီသခင်နှင့် ဆန့်ကျင်ခြင်း မရှိကြ။ ယှီအာ၊ အီမာမီယာ၊ ရာဖွိဇီယာတို့ကဲ့သို့ ကျန်သမ္ဗတကြီး သုံးပါးကိုလည်း မဆန့်ကျင်ကြချေ။

**အဟ်လေ့စွန္နတ်**၏ အချင်းလက္ခဏာကို (ရှရဟ်အကာအစ်ဒ်ကျမ်း)တွင် သမ္ဗတကြီးများဖြစ်ကြသော အဗူဗက်ရ်နှင့် အုမရ်တို့အား သာပိုမြင့်မြတ်ကြောင်း ယူဆ၍ သမက်တော်နှစ်ပါးဖြစ်သော အွတ်ဆ်မာန်နှင့် အလီသခင်တို့ကို ချစ်ခင်လေးစားခြင်း ဖြစ်သည်ဟု တင်ပြထား၏။

**မှတ်ချက်။** ။ **အဟ်လေ့စွန္နတ်**–တမန်တော်မြတ်ﷺ နှင့် စွဟာဗီတို့၏ လမ်းစဉ်ကို လိုက်နာသူ (**အစ်ဂျမာအ်**)ကို လက်ခံသူကိုခေါ်သည်။

## စွဟာဗဟ်သာဝကကြီးများကို ဆဲရေးတိုင်းထွာခြင်းသည် ကျွန်ုပ်တို့ အဟ်လေ့စွန္နတ်၏ လမ်းစဉ်မဟုတ်ကြောင်း

عن عبد اللهِ بن مغفل قال قال رسول اللهِ صلى اللهُ عليه وسلم اللهَ اللهَ فى اصحابى لا تتخذوا هم غرضا من بعدى فمن احبهم فبحبى احبهم ومن ابغضهم فببغضبى ابغضهم ومن اذاهم فقد اذانى ومن اذانى فقد اذا اللهِ ومن اذا اللهِ يوشك ان يأخذه اللهُ ﴿مشكوة ص ٥٥٤﴾

တမန်တော်မြတ် ﷺ အမိန့်ရှိသည်မှာ ငါ၏စွဟာဗဟ်များနှင့် ပတ်သက်၍ အလ္လာဟ်အသျှင်ကို ကြောက်ရွံ့ကြကုန် (ဝါ) မကောင်းမပြောကြနှင့်၊ ငါတမန်တော် မရှိသည့်နောက် ၎င်းတို့ကို မကောင်းမပြောရန် (ပစ်မှတ်)မပြုလုပ်ကြနှင့်။ မည်သူမဆို ငါ၏စွဟာဗီများကို ချစ်ခင်လျှင် ငါတမန်တော်မြတ်အား ချစ်ခင်ခြင်းကြောင့်ဖြစ်သည်။ မည်သူမဆို ၎င်းတို့ကို မုန်းတီးလျှင် ငါတမန်တော်မြတ်အား မုန်းတီးခြင်းကြောင့်ဖြစ်သည်။ မည်သူမဆို ၎င်းတို့ကို ကဲ့ရဲ့ ရှုတ်ချ၍ ဒုက္ခပေးလျှင် ငါတမန်တော်ကို ဒုက္ခပေးရာမည်၏၊ ငါတမန်တော်ကို ဒုက္ခပေးလျှင် အလ္လာဟ်အသျှင်အား ဒုက္ခပေးရာရောက်၏။ အလ္လာဟ် အသျှင်အား ဒုက္ခပေးသူကို အလ္လာဟ်အသျှင်က မကြာမီ ဖမ်းဆီးတော် မူချေမည်တည်း။ (မစ်ရှ်ကာသ်ကျမ်း ၅၅၄)

ထို့ကြောင့် **အဟ်လေ့စွန္နတ်**တို့သည် စွဟာဗဟ်တို့၏ အချင်းချင်း ပြဿနာနှင့် ပတ်သက်၍ နူတ်–လျှာကို ထိန်းသိမ်းကြသည်။ မှန်ကန်သောအယူအဆ ကွဲလွဲမှုကြောင့် ဖြစ်သည်ဟု ယူဆကာ မကောင်းပြောဆိုခြင်းမှ အထူးရှောင်ကြဉ်ကြသည်။

ဤမျှခန့် (၇၂)သင်း ကွဲလွဲပုံနှင့် ၎င်းတို့၏ ယူဆပုံ၊ အဟ်လေ့စွန္နတ်၏ မှန်ကန် သော(အကီဒဟ်) ယူဆချက်တို့ကို အတိုချုပ်အားဖြင့် တင်ပြလိုက်ရခြင်း အကြောင်းမှာ **အဟ်လေ့စွန္နတ်** အသင်းဝင်မဟုတ်ကြသော အထက်ဖော်ပြပါ အသင်းတို့၏ အယူအဆ ကိုးကားချက်များကို ကျွန်ုပ်တို့ **အဟ်လေ့စွန္နတ်ခေါ် စွန္နီများ** ထင်ယောင်ထင်မှား ဖြစ်စေရန် ကိုးကားတင်ပြလာလျှင် လမ်းမမှားကြစေရန်အတွက် စံနမူနာအဖြစ် အနည်း ငယ် ရှင်းလင်း တင်ပြရခြင်း ဖြစ်ပေသတည်း။

တမန်တော်မြတ် ﷺ က (၇၃)သင်းအနက် (၇၂)သင်းတို့သည် လမ်းမှားကြမည် ဟု မိန့်တော်မူခဲ့သည်ကို သာမန်လူတစ်ယောက်အနေနှင့် အမှားနှင့်အမှန် ခွဲခြားဝေဖန်နိုင်ရန်

ခဲယဉ်းလှပေသည်။ အသင်းတိုင်းက ကုရ်အာန်၊ ဟာဒီဆ်ကိုပင် အကိုးအကား တင်ပြနေကြသည်။ ကုရ်အာန်နှင့် ဟာဒီဆ်ကို နားမလည်သူတို့အတွက် ရင်လေးဖွယ် ဖြစ်နေသည်ဆိုလျှင် ၎င်းတို့အတွက် အနည်းငယ်မျှသော အသိဉာဏ်ကို အသုံးပြုကာ ဝေဖန်သုံးသပ်ခြင်းဖြင့် အမှားနှင့်အမှန် ခွဲခြားသိရှိနိုင်ရန် အောက်ပါ အကြောင်းအရာ အချက်အလက်များကို သာသနာ့ပညာရှင်ကြီးများက နှိုင်းယှဉ်၍ တင်ပြခဲ့ကြလေသည်။

## စွန္နီတို့၏ ထူးခြားချက်အချို့

၁။ စွန္နီတို့သည် ကျမ်းမြတ်ကုရ်အာန်ကို အာဂုံဆောင်သူများ ဖြစ်ကြသည်။ မရေမတွက်နိုင်သော ဟာဖွစ်ဇ်များသည် စွန္နီများသာဖြစ်ကြသည်။ စွန္နီမဟုတ်သော အထက်ဖော်ပြပါ ဂိုဏ်းဝင်တို့သည် ယင်းကျေးဇူးတော်၊ နစ်အ်မတ်တော် နှင့် ကင်းဝေးကြသည်။ တစ်ဦးတစ်ယောက် ရှိလျှင်လည်း အများနှင့်စာလျှင် မရှိသကဲ့သို့ပင် ဖြစ်သည်။ ဤသည်ကား အမှားနှင့်အမှန်ကို ခွဲခြားသိရှိကြစေရန် အလ္လာဟ်အသျှင့် ဘက်တော်မှ သာဓေ အထောက်အထား ပြသခြင်း တစ်ရပ်ပင်တည်း။

၂။ သမ္မတကြီး (၄)ပါးနှင့် အီမာမ်ကြီး (၄)ပါး ပေါ်ပေါက်သကဲ့သို့ အီမာမ်ကြီး (၄)ပါးအနက် တပါးပါး၏လမ်းစဉ်ကို နောက်လိုက်ပြုကုန်သော စွန္နီများတွင် (ဝလီ) အောင်လေယာကြီး လေးပါး ပေါ်ပေါက်ခဲ့၏။ ကျန်ဝလီသူတော်စင်များ အားလုံးတို့သည် ယင်း ဝလီကြီး(၄)ပါး၏ နောက်လိုက်များသာ ဖြစ်ကြကုန်၏။

**မှတ်ချက်**။ ။ စွန္နီ=တမန်တော်မြတ်ﷺ နှင့် စဟာဗီတို့၏လမ်းစဉ်ကို တိကျစွာ လိုက်နာကျင့်သုံးသူ၊

အဟ်လေ့စွန္နတ်= စွန္နီနှင့် အဓိပ္ပါယ်အတူပင်ဖြစ်သည်။

ဝလ်ဂျမာအတ်= သာသနာ့ပညာရှင် အများစုနှင့် အတူတကွ ရှိနေသူ တနည်းအားဖြင့် အစ်ဂျမာအီအွမ္မတ်ကို လက်ခံသူကိုခေါ်သည်။

ဤသည်ကား အဟ်လေ့စွန္နတ်၏ အကီဒဟ်နှင့် လမ်းစဉ်ကို လိုက်နာမှ အလ္လာဟ်အသျှင်က လက်ခံမည်ဖြစ်သည်။ အလ္လာဟ်အသျှင် လက်ခံမှ (ဝလီ)သူတော်စင် အသျှင့်အချစ်တော် ဖြစ်နိုင်မည့်အကြောင်း သိသာစေရန် သတိပေးထားတော်မူခြင်းဖြစ်သည်။

ယင်းလက္ခဏာများသည် အမှားနှင့်အမှန်ကို သာမန်အားဖြင့် ခွဲခြားဝေဖန်နိုင်သော လက္ခဏာများပင်တည်း။

## ထင်ရှားသောဝလီကြီးလေးပါးတို့မှာစွန္နီများသာ

ယင်းတို့မှာ–

(က) ရှိုက်ခ်–အဗ်ဒွလ်ကာဒေရ်–ဂျီလာနီသခင်ကြီး ၎င်း၏နောက်လိုက်များကို (ကာဒရီ) ဟုခေါ်သည်။

(ခ) ရှိုက်ခ်–ရှဟာဘွတ်ဒီန်း–စဟာရ်ဝရ်ဒီသခင်ကြီး ၎င်း၏နောက်လိုက်များကို (စဟာရ်ဝရ်ဒီ) ဟုခေါ်သည်။

(ဂ) ခွါဂျာဗဟာအွတ်ဒီန်း–နတ်ကံရှဘန်ဒီ သခင်ကြီး ၎င်း၏နောက်လိုက်များကို (နတ်ကံရှဘန်ဒီ) ဟုခေါ်သည်။

(ဃ) ခွါဂျာမုအီနွတ်ဒီန်း–သခင်ကြီး ၎င်း၏နောက်လိုက်များကို (ကျစ်ရှ်တီ) ဟုခေါ်သည်။

ယင်းဝလီကြီးလေးပါးနှင့် ၎င်းတို့၏ စစ်မှန်သော လမ်းစဉ်ကို လိုက်နာကျင့်သုံးကြကုန်သော နောက်လိုက် အားလုံးတို့သည် စွန္နီများသာ ဖြစ်ကြကုန်၏။

၃။ အစ္စလာမ်၏ နိမိတ်လက္ခဏာဖြစ်သော အီးဒ်နမာဇ်ကို အီဒဂါ၌ ဂျွန်မအာနမာဇ်ကို ဂျာမေအ်ပလီ၌ စွန္နီများသာ စုရုံးဝတ်ပြုကြကုန်၏။

၄။ အစ္စလာမ်ဘာသာ စတင်ထွန်းကားရာ ဌာနဖြစ်သော မက္ကာ၊ မဒီနာမြို့များတွင် စွန္နီများသာရှိကြကုန်သည်။ ကျန်အသင်းများသည် မှန်ကန်မည်ဆိုလျှင် အစ္စလာမ်ဘာသာ ထွန်းကားရာ နေရာဌာနများတွင် အမြောက်အမြား ရှိရမည်ဖြစ်သည်။ လုံးဝ မရှိခြင်းမှာ လုံးဝမမှန်ကန်ကြောင်း သာမန်လူတစ်ယောက်ကပင် ခွဲခြားနိုင်ရန် အလ္လာဟ်အသျှင်မြတ်က ပြသထားတော်မူခြင်း ဖြစ်ပေသတည်း။

၅။ (မဇ်ဟာဗ်) သာသနာ့လမ်းစဉ်ဆိုသည်မှာ တမန်တော်မြတ်ﷺ ၏လမ်းစဉ်ဖြစ်၍ ၎င်းလမ်းစဉ်သည် တမန်တော်မြတ်ﷺ ကို တွေ့မြင်ခဲ့ကြသော စွဟာဗဟ်ကြီးများ လမ်းစဉ်နှင့် ကိုက်ညီမှသာ မှန်ကန်မည်ဖြစ်သည်။

ထို့နောက် စွဟာဗီကြီးများကို ကိုယ်တိုင် တွေ့မြင်ခဲ့ကြကုန်သော (သာ ဗေအီ)တို့ လမ်းစဉ်နှင့် ကိုက်ညီမှ လမ်းစဉ်မှန် ဖြစ်ချေမည်။ အီမာမ် အဗူဟာနီဖာသခင်သည် စွဟာဗီကြီးများလမ်းစဉ်ကို ကိုယ်တိုင်တွေ့ခဲ့ရသူ ဖြစ်သည်။ ဟစ်ဂျရီ (၈၀)ခုနှစ်တွင် ဖွားမြင်၍ သက်တော် (၇၀) ဟစ်ဂျရီ (၁၅၀)ခုနှစ်တွင် ကွယ်လွန်တော်မူခဲ့၏။

၆။ အီမာမ်ကြီး လေးပါးလုံးနှင့် ဗုခါရီ၊ မွတ်စလင်မ်၊ အဗူဒါဝူဒ်၊ သစ်ရ်မိဇီ၊ အစ်ဗနုမာဂျာ၊ နစာအီခေါ် ကျမ်းစာများ (စွဲဟာစစ်သား)ရေးသားသော ပုဂ္ဂိုလ်များ အားလုံးတို့သည် စွန္နီများသာဖြစ်ကြသည်။ ကျန်အသင်းများ မှာ ၎င်းတို့ထံ ဤသို့သောကျမ်းစာ တစ်စောင်မျှ မရှိချေ။ ဤအခြေ အနေများကို သိရှိရလျှင် သာမန် လူတစ်ယောက်ကပင် အမှားနှင့် အမှန်ကို ခွဲခြားနိုင်မည်ဖြစ်သည်။

(မဇ္ဇာဟေရ်ဟတ်က်ကျမ်းမှ ကောက်နုတ်တင်ပြသည်။)

**မှတ်ချက်**။ ။ **အစ်ဂျ်မာအီအွမ္မတ်**= စစ်မှန်သော သာသနာ့ပညာရှင်များ၏ စည်းလုံး ညီညွတ်မှုကို ခေါ်သည်။



## အဖျက်သမားသတိပြုရန် တမန်တော်မြတ်ﷺ ၏ ညွှန်ကြားချက်

عن ثوبان قال قال رسول الله صلى الله عليه وسلم انما اخاف على امتى الائمة المضلين

﴿رواه ابوداؤد والترمذى، مشكوة كتاب الفتن﴾

တမန်တော်မြတ်ﷺ သတိပေး ညွှန်ကြားတော်မူခဲ့သည်မှာ ငါတမန်တော်သည် မိမိ အွမ္မတ်နှင့်ပတ်သက်၍ လမ်းမှားရောက်အောင် ဆွဲဆောင်ကြသည့် ခေါင်းဆောင်များ ပေါ်ပေါက်လာမည်ကို စိုးရိမ်တော်မူပေသည်။ (အဘယ်ကြောင့်ဆိုသော် ပညာနည်းပါး သူတို့သည်ကား အဟောကောင်း ပြောကောင်းဆိုလျှင် ယုံကြည်လေးစား လေ့ရှိသော ကြောင့်ဖြစ်၏။)

(မစ်ရှ်ကာသ်-၄၆၃)

عن بن سيرين قال انّ هذا العلم دين فانظروا عمن تأخذون دينكم

﴿رواه مسلم كتاب العلم ،مشكوة ص٣٧﴾

အစ်ဗနုစီရီးန်ထံမှ ရေဝါယတ် လာရှိသည်။ အမိန့်ရှိသည်မှာ ဤသာသနာ့ပညာ (မတ်စ်အလာ)များသည်ကား သာသနာရေးရာဖြစ်၍ မိမိတို့သာသနာတော်ကို မည်ကဲ့သို့ သောသူထံမှ ရယူနေသည်ကို ဝေဖန်သုံးသပ်ပြီးမှ လက်ခံကြကုန်။

(မစ်ရှ်ကာသ်-၃၇)

عن زياد بن حدير قال قال لى عمر هل تعرف ما يهدم الاسلام قال قلت لا قال يهدمه زلة العالم وجدال المنافق بالكتاب وحكم ائمة المضلين ﴿مشكوة ص٣٨﴾

ဇေယာဒ်ဗင်န်ဟုဒိုင်ရ်အား သမ္မတကြီး အုမရ်က အသင်သည် အစ္စလာမ် ဘာသာကို ပျက်စီးစေမည့်အရာများကို သိပါသလားဟုမေးပြီး ကိုယ်တိုင်ရှင်းပြသည်မှာ အစ္စလာမ်ဘာသာကို ပျက်စီးစေမည့်အရာများမှာ-

(၁) ပညာရှိ၏ လမ်းမှားလွဲချော်ခြင်း၊

(၂) မုနာဖွစ်က်ခေါ် အယောင်ဆောင်တို့က ကျမ်းမြတ်ကုရ်အာန်ဖြင့် အတိုက် အခံ ပြုလုပ်ခြင်း။

(၃) လမ်းမှားသို့ ပို့ဆောင်ကြသော ခေါင်းဆောင်တို့၏ ဓမ္မသတ် အဆုံး အဖြတ်၊ အမိန့်ပေးခြင်းတို့ဖြစ်သည်။

# ဒုတိယအခန်း- သာသနာ့ပညာရှင်ဟူသည်ကား

## تشريح الصراط المستقيم

အရဗီ ဘာသာစကားတော်အတိုင်း၊ အဟောအပြောကောင်းတိုင်း သာသနာ့ပညာရှင် ဖြစ်မည်ဆိုလျှင် အရဗီစကား ကောင်းစွာ တတ်ကျွမ်းသော ယဟူဒီ၊ နစ္စရာနီတို့သည်လည်း သာသနာ့ပညာရှင်ဖြစ်ကြအံ့။ ရှိုင်တွာန်သည် ဘာသာစကားပေါင်းစုံ တတ်ကျွမ်းသဖြင့် သူသည်လည်း သာသနာ့ပညာရှင်ကြီး ဖြစ်အံ့။ ဤသို့ အယူအဆ မမှားယွင်းကြစေရန် ကျမ်းမြတ်ကုရ်အာန်က ညွှန်ကြားသည်မှာ-

اِنَّمَا يَخۡشَى اللّٰهَ مِنۡ عِبَادِهِ الۡعُلَمٰٓؤُا ﴿سورة فاطر﴾

အလ္လာဟ်အသျှင်ကို အမှန်စင်စစ် ကြောက်ရွံ့သူများသည်ကား ထိုအသျှင်ဗန္ဒာများတွင် သာသနာ့ပညာရှင်များသာ ဖြစ်ကြကုန်၏။ (စူရာဖွာတွေရ်)

ထို့ကြောင့် အလ္လာဟ်အသျှင်ကို အလွန်တရာ ချစ်ခင်မြတ်နိုး လေးစားသကဲ့သို့ အနည်းငယ်မျှသော ဒုစရိုက်ကို ပြုလုပ်မိပါက အလွန်တရာ ကြောက်ရွံ့သူဖြစ်မှသာ သာသနာ့ပညာရှင် ဖြစ်နိုင်ချေမည်။ မကြောက်ရွံ့ မလေးစားသူသည်ကား သာသနာ့ပညာရှင် မဖြစ်နိုင်ကြောင်း ညွှန်ကြား သတိပေးထားတော်မူ၏။

ပညာရှင်တစ်ဦးက လင်္ကာဖြင့် သတိပေးထားသည်မှာ--

علمیکه راه بحق ننماید جهالت

မည်သည့်ပညာမဆို တတ်ကျွမ်းပြီးနောက် ၎င်းပညာက အသင့်အား အလ္လာဟ်အသျှင်နှင့် အဆက်အသွယ်၊ ချစ်ခင်ရင်နှီးမှုကို မဖြစ်စေပါမူ ထိုပညာကို ပညာဟု မခေါ်ထိုက်၊ ၎င်းသည်ကား မသိခြင်း၊ မိုက်မှားခြင်းသာ ဖြစ်ချေ၏။

ဤသည်ကို ဟဒီဆ်တော်တစ်ခုတွင်-

عن انس قال قال رسول اللّٰهِ صلى اللّٰهُ عليه وسلم طلب العلم فريضة على كل مسلم وواضع العلم عند غير اهله ﴿اى بان يحدث من لا يتعلمه اللّٰهَ او يريد منه غرضا دنيويا﴾ كمقلد الخنازير الجوهر واللؤلؤ والذهب ﴿رواه ابن ماجه ،مشكوة ص٣٧﴾

လူယုတ်မာတစ်ယောက်ကို ဘာသာရေးပညာ တတ်ကျွမ်းအောင် သင်ကြား ပေးခြင်း သည် အဖိုးတန်လှသော ဆွဲကြိုးကို ဝက်လည်ပင်တွင် ဆွဲပေးသည်နှင့် တူသည်ဟု ပမာတင်ပြထား၏။

အဖ်မတွလ်ကုရ်အာန်၊ ရှားအဗ်ဒွရ်ရဟီမ် ရှိုင်ပူရီ (မစ်ရှ်ကာသ်–၃၇)

သဗ်လီဂ်ခေါင်းဆောင်ကြီး မော်လာနာ မိုဟမ္မဒ်ယူစွဖ်၏ အွမ္မတ်ပီသရေး မိန့်ခွန်း တွင် အဘွလ်ဖဇလ်နှင့် ဖိုင်ဇီတို့သည် ကျမ်းမြတ်ကုရ်အာန်ကို အရဗီဘာသာဖြင့် နွတ်က် တွာမပါပဲ တတ်ဖ်စီရ် ရေးသားနိုင်ကြသော ပညာတော် (မိုဖတ်စေ့ရွလ်ကုရ်အာန်)များ ဖြစ်လင့်ကစား အွမ္မတ်ကို ပြိုကွဲအောင် ဖျက်စီးပြီး အွမ္မတ်ကို လမ်းမှန်ပြသ၍ ကယ်တင် ရမည့်အစား လမ်းမှားသို့ ပို့ဆောင်ခဲ့ကြသည့်အတွက် ပညာ မည်မျှပင် တော်စေကာမူ စစ်မှန်သော သာသနာ့ပညာရှင် မဖြစ်ကြသကဲ့သို့ပင်တည်း။ ထို့ကြောင့် အရဗီ၊ ဖွာရစီ အစရှိသော ဘာသာစကားများကို ကောင်းစွာ တတ်ကျွမ်းခြင်း၊ တကယ်ပညာ တော်ခြင်း တို့သည် အဓိကအချက် မဟုတ်ကြောင်း သိရှိ နားလည်ထားရန် လိုအပ်၏။ အကြောင်းမူ ကား ဘာသာရေးအသိပညာ များလေလေ တမန်တော်မြတ်၏ လမ်းစဉ်မှ မတိမ်းမစောင်း ရလေအောင် ဂရုစိုက်ရန် တာဝန်လည်း များလေလေဖြစ်၏။ သို့မဟုတ်ပါက မွန်မြတ် သော ပညာရှင် စစ်မှန်သော တမန်တော်မြတ်၏ ကိုယ်စားလှယ် ဖြစ်ရမည့်အစား ရှိုင်တွာန်၏ ကိုယ်စားလှယ်သာ ဖြစ်ချေမည်တည်း။

ထိုသို့သော ပညာရှင်သည် တိရစ္ဆာန်များတွင် ယုတ်ညံ့သော ကုန်တင်မြည်းပမာ ဖြစ်သည်ဟု ကျမ်းမြတ်ကုရ်အာန် အာယတ်တော်တွင် အတိအလင်းပါရှိ၏။

مَثَلُ الَّذِيْنَ حُمِّلُوا التَّوْرٰىةَ ثُمَّ لَمْ يَحْمِلُوْهَا كَمَثَلِ الْحِمَارِ يَحْمِلُ اَسْفَارًا ﴿سورة جمعه﴾

အကီဒဟ် ခံယူချက်မှန်ကန်၍ အကျင့်သီလကောင်းပြီး သိက္ခာသမာဓိ အဆင့်အတန်း တူညီသူနှစ်ဦးတွင် သာသနာ့ပညာ ပိုမိုတတ်ကျွမ်းသူသည်ကား အဆင့်အတန်း ပိုမိုမည်ဖြစ်ကြောင်း ကျမ်းမြတ်ကုရ်အာန်တွင် သိသူနှင့်မသိသူ အဘယ်မှာတူနိုင်မည်နည်း ဟုမိန့်ကြားတော်မူ၏။

هَلْ يَسْتَوِى الَّذِيْنَ يَعْلَمُوْنَ وَالَّذِيْنَ لَا يَعْلَمُوْنَ ﴿سورة زمر﴾

မစ်ရှ်ကာသ်ကျမ်းမှ ဟာဒီဆ်တော်အချို့။ တမန်တော်မြတ်ﷺ မိန့်တော်မူသည်မှာ–

(၁) အလ္လာဟ်အသျှင်မြတ်က တစ်ဦးတစ်ယောက်အား ကောင်းမြတ်စေရန် အလိုတော်ရှိလျှင် ၎င်းအား သာသနာရေးတွင် တတ်ကျွမ်းနားလည်မှုကို ချီးမြှင့် ပေးသနားတော်မူ၏။

(၂) မည်သူမဆို ဘာသာရေးပညာ ရှာဖွေရန် အိုးအိမ် စွန့်ခွာ၍ ခရီးထွက်လျှင် အလ္လာဟ်အသျှင်မြတ်က ၎င်းသူအတွက် (ဂျန္နတ်)ဥယျာဉ်ဘုံနန်းသို့ ရောက်ရာလမ်းကို လွယ်ကူစေတော်မူမည်ဖြစ်၏။

(၃) မည်သူမဆို ဘာသာရေး ပညာရှာဖွေရန် ခရီးထွက်လျှင် မိမိအိမ်သို့ ပြန်မရောက်သရွေ့ ကာလပတ်လုံး အလ္လာဟ်အသျှင့်လမ်း ခရီးတွင်ဖြစ်သည်။ (ဝါ) အလ္လာဟ်လမ်းထွက်သော အကျိုးဆဝါဗ်ကို ရရှိမည်ဖြစ်၏။

(၄) ဘာသာရေးပညာကို ညဥ့်အချိန်မှ ခေတ္တခဏ သင်ပေးသင်ယူ ပြုလုပ်ခြင်းသည် တညဥ့်လုံး အိဗာဒသ်ပြုသည်ထက် ပိုမိုကောင်းမြတ်ချေ၏။

(၅) နံနက်အချိန်တွင် သွား၍ ကျမ်းမြတ်ကုရ်အာန်မှ တစ်အာယတ် သင်ယူခြင်းသည် ရကအတ်ပေါင်း (၁၀၀) နမာဇ်ဖတ်သည်ထက် ပို၍မြတ်၏။ ထို့အတူ ဘာသာရေးပညာ၏ အခန်းတစ်ခန်းကို သင်ယူပါက ရကအတ်ပေါင်း (၁၀၀၀) တစ်ထောင်ဖတ်သည်ထက်ပို၍ ထွဋ်မြတ်ချေ၏။

(၆) မည်မျှခန့် ပညာတတ်ကျွမ်းမှ (ဖွကီဟ်) ဖွေကာဟ်ပညာရှင် ဖြစ်နိုင်ပါသနည်းဟု တမန်တော်မြတ်ﷺ ထံ မေးလျှောက်ကြရာ တမန်တော်မြတ်ﷺ က မည်သူမဆို ငါ၏အွမ္မတ်သားများထံ သာသနာရေးနှင့် သက်ဆိုင်သော စကားရပ် (ဟာဒီဆ်တော်)၄၀ ကို စောင့်ရှောက်ထိန်းသိမ်း၍ ပို့ချပေးခဲ့ပါလျှင် ထိုသူအား အလ္လာဟ်အသျှင်မြတ်က သာသနာ့ပညာ တတ်ကျွမ်းသော (ဖွေကာဟ်ပညာရှင်) အဖြစ်နှင့် ပြန်ရှင်ထစေတော်မူမည်ဖြစ်သည်။ ကေ့ယာမတ်နေ့တွင် ငါတမန်တော်ﷺ က ၎င်းကို ကြားဝင် အသနားခံတော်မူ၍ သက်သေခံတော်မူမည်ဖြစ်သည်။ (မစ်ရှ်ကာသ်–၃၆)

ထို့ကြောင့် လူတိုင်းသည် အရဗီဘာသာရပ်များနှင့် ရှရာ(အ)တရားဥပဒေ ဖြစ်

သော (ဖွေကာဟ်) ပညာကို အတတ်နိုင်ဆုံး သင်ယူသင့်၏။ ယင်းသို့ တတ်မြောက်ပြီးနောက် လမ်းမမှားကြစေရန် တာဝန်မှာ ထို့ထက်ပင် ပိုမိုချေ၏။

## စစ်မှန်သောသာသနာ့ပညာရှင်၏အကျိုးအာနိသင်

စစ်မှန်သောသာသနာ့ပညာရှင်သည် (က) ပညာအရည်အချင်းကောင်းမည်။ (ခ) အကျင့်စာရိတ္တလည်းကောင်းမည်။ (ဂ) ယုံကြည်ချက်တွင်လည်း အခြားသူထက် ပိုမည်။ (ဃ) လမ်းစဉ်မှာလည်း တမန်တော်မြတ်ﷺ နှင့် စွဟာဗဟ်တို့၏ လမ်းစဉ်နှင့်အညီ လိုက်နာကျင့်သုံးသဖြင့် စိတ်နှလုံး ပွင့်လင်းသူဖြစ်မည်။ (င) ဇွာဟီရီ ပညာခေါ်အရ ဗီ၊ ဇွာရစီ တတ်ကျွမ်းသကဲ့သို့ (ဘာတွေ့နီပညာခေါ်) မအ်ရေဖတ် အတွင်းလမ်းစဉ်ကို ကျွမ်းကျင်သူဖြစ်မည်။ (စ) သောကမှာလည်း အွမ္မတ်သူ အွမ္မတ်သားအပေါင်းကို ရှိရ်က်ဖြစ်စေသောကိစ္စ၊ ဗစ်ဒ်အတ်ကိစ္စနှင့် အပြစ်ဒုစရိုက်အပေါင်းမှ ကယ်တင်ရန် ပူပင်သောကစိတ်မျိုး ရှိမည်ဆိုလျှင် ထိုသူသည်–

(၁) တမန်တော်မြတ်ﷺ ၏ ကိုယ်စားလှယ်ဖြစ်မည်။

(၂) အမှောင်တွင် ကျရောက်နေသော လူထုကြီးအတွက် အလင်းရောင်ကို ပေးသော မီးတိုင်ပမာ ဖြစ်မည်။

(၃) ကောင်းကင်တမန် ဖွရစ်(ရှ)တာများက ၎င်းအား ရိုသေလေးစားကာ ချစ်ခင်ကြမည်။

(၄) အိုလမာအ်အာခိရတ်၊ ခေါ် လောကရေးထက် အာခေရတ်ရေးကို သောကထားသော သာသနာ့ပညာရှင်တို့ ရေးသားသော မင်သည် ရှဟီဒ်တို့၏ သွေးထက် အလေးချိန် ပို၍ စီးမည်ဖြစ်သည်။

(၅) ရေသတ္တဝါ ငါးတို့က ၎င်းတို့အတွက် ငြိမ်းချမ်းသာယာစေကြောင်း ဆုမွန်ကောင်း တောင်းပေးကြမည်။

(၆) မည်သူမဆို စစ်မှန်သော သာသနာ့ပညာရှင်နှင့် တွေ့ဆုံနှုတ်ဆက်ပါလျှင် တမန်တော်မြတ်နှင့် တွေ့ဆုံနှုတ်ဆက်သကဲ့သို့ပင်ဖြစ်သည်။ အစရှိသော (ဟဒီဆ်တော်ပါ) အကျိုးဆဝါဗ်များကို ကိုယ်တိုင်ရရှိရုံသာမက အွမ္မတ်သားအပေါင်းတို့အတွက်လည်း အကျိုးခံစားခွင့်ကို ရရှိကြမည်ဖြစ်လေသည်။

ဖွဇွာအေ့လွလ်အင်လ်မိဝလ်အိုလမာ(အ)

သို့ စစ်မှန်သော သာသနာ့ပညာရှင် ဟုတ်မဟုတ် ခွဲခြားဝေဖန်နိုင်ရန်အတွက် တမန်တော်မြတ်ﷺ က အချို့ လက္ခဏာများကို ညွှန်ကြားပြသတော်မူခဲ့၏။

قال رسول اللهِ صلى اللهُ عليه وسلم لا تجلسوا عند كل عالم الا إلى عالم يدعوكم إلى خمس من خمس ﴿١﴾ من الشك إلى اليقين ﴿٢﴾ من الريه إلى الاِخلاص ﴿٣﴾ من الرغبة إلى الزهد ﴿٤﴾ من الكبر إلى التواضع ﴿٤﴾ من العداوة إلى النصيحة ﴿احياء العلوم جلد١ صــ٥٥﴾

တမန်တော်မြတ်ﷺ အမိန့်ရှိသည်မှာ အသင်တို့သည် ပညာရှင်ဆိုတိုင်း မော်လဝီဆိုတိုင်း အဟောကောင်း အပြောကောင်းဖြင့် ပညာတော်တိုင်း အထင်ကြီး၍ ထိုသူ့ထံ မချဉ်းကပ်လေနှင့်။ အောက်ပါအရည်အချင်းနှင့် ပြည့်စုံသော စစ်မှန်သည့်ပညာရှင်ထံသာ ချဉ်းကပ်ကြကုန်လော့။ ထိုသူသည်ကား (က) ဒွိဟသံသယမှ ပြည့်စုံသော ယုံကြည်မှုဘက်သို့လည်းကောင်း၊ (ခ) (ရိယာ)ခေါ်ဘမ်းပြမှု ပြုလုပ်ခြင်းမှ (အစ်ခ်လာစ်)စိတ်စေတနာ သန့်ရှင်းဖြူစင်ခြင်းဘက်သို့လည်းကောင်း၊ (ဂ) ကိုယ့်ကိုယ်ကို အထင်ကြီး၍ မာနကြီးခြင်းမှ ကြို့ငြဲခြင်းဘက်သို့လည်းကောင်း၊ (ဃ) တစ်ဦးနှင့်တစ်ဦး ရန်ငြိုးထားခြင်းမှ သင့်တင့်ညီညွတ်စွာ မိသားစုစိတ်ဓာတ်ဖြင့် သွန်သင်ဆုံးမခြင်းဘက်သို့လည်းကောင် ဖိတ်ခေါ်လုံ့ဆော်မှုကိုပြု၏။ (အစ်ဟယာအွလ်အိုလူမ်ကျမ်း တွဲ ၁-၅၅)

## စစ်မှန်သောသာသနာ့ပညာရှင်၏ လက္ခဏာများ

ယင်းစစ်မှန်သော သာသနာ့ပညာရှင်၏ လက္ခဏာများကို ဆရာသခင်ကျေးဇူးရှင် ရှိုင်ခွလ်ဟဒီဆ် မော်လာနာ ဇကရီယာသခင်က (ဖွဇာအေလ်စွဒကာသ်ကျမ်း)တွင် ရေးသားဖော်ပြထား၏။ ၎င်းတို့မှာ-

(၁) မိမိတတ်သိသော ပညာကို လောကရေးရာ ရရှိစေရန်အတွက် အသုံးချသူ မဖြစ်စေရ။ အကြောင်းမူကား မည်သူမဆို လောကရေးရာ၏ သေးသိမ်ခြင်းနှင့် အာခေရတ်ရေးရာ၏ ကြီးကျယ်ကြောင်းကို မသိနားမလည်ပါလျှင် ၎င်းသည်ကား အသိဉာဏ် ပျက်စီးနေသူဖြစ်သည်။ အဘယ်မှာလျှင် ပညာရှင်ဖြစ်နိုင်အံ့နည်း။

မည်သူမဆို အာခေရတ်ရေးရာကို ဦးစားပေးရမည့်အစား လောကရေးရာကို ဦးစားပေးနေပါလျှင် ထိုသူသည်ကား ရှိုင်တွာန်မာရ်နတ်၏ ပိုက်ကွန်တွင် မိနေသူ ဖြစ်သည်။ တမန်တော်မြတ်ﷺ ၏ ကိုယ်စားလှယ် ဖြစ်ရမည့်အစား ရှိုင်တွာန် မာရ်နတ်၏ ကိုယ်စားလှယ်သာ ဖြစ်ချေမည်တည်း။

ဟဒီဆ်တော်တစ်ခုတွင် တမန်တော် ဒါဝူဒ် ﷺ က တဆင့် ပြောကြားသည်။ အလ္လာဟ်အသျှင် ဗျာဒိတ်တော် လာရှိသည်မှာ ပညာရှင် တစ်ဦးသည် ငါအသျှင်မြတ်ကို ချစ်ခင်လေးစားရမည့်အစား လောကရေးရာကို ချစ်ခင်မက်မောသဖြင့် ဦးစား ပေးနေပါလျှင် ယုတ်စွအဆုံး ၎င်းကို ငါအလ္လာဟ်အသျှင်မြတ်က မိမိနှင့် ဒိုအာမိုနာဂျာတ်ပြု (ဝါ) တီးတိုးလျှောက်ထားခြင်း၏ အရသာကို ရုပ်သိမ်းတော်မူမည်ဖြစ်သည်။ ထိုအခါ ငါအသျှင်မြတ်ကို အမှတ်ရ တသခြင်း၊ ဆုတောင်း ဒိုအာမိုနာဂျာတ်ပြုခြင်းတွင် စိတ်နှလုံး ပျော်ရွှင်စေသော အရသာကို ရရှိမည် မဟုတ်ချေ။ ထိုနောက်တဖန် ဗျာဒိတ်တော် ရှိသည်မှာ 'အေဒါဝူဒ်၊ သာသနာ့ပညာရှင်ဖြစ်ပါလျက် လောကရေးရာကို ချစ်ခင်မှု လွှမ်းမိုးနေသူ၏ ဆိုးဝါးသောအဖြစ်မှာ အတိုင်းအဆမရှိချေ။ ယင်းပညာရှင်သည် ငါအသျှင်နှင့် ရင်းနှီးအောင် ပြုလုပ်ရမည့်အစား ဝေးကွာအောင်သာ ပြုလုပ်ချေ၏။'

ဤသို့သော အမည်ခံပညာရှင်သည် သာသနာ့ပညာရှင် မဟုတ်။ လူတို့၏ သာသနာရေးကို ဖျက်စီးတိုက်ခိုက်သော (သာသနာဒမြ)သာ ဖြစ်သည်။ အေဒါဝူဒ်– အသင်သည် ငါအသျှင်မြတ်ကို ချစ်ခင်မြတ်နိုး၍ လိုလားတောင့်တသူ တစ်ဦးကို တွေ့ရှိရပါလျှင် ၎င်းသူ၏ ကျွန်အစေခံဖြစ်လော့ (ဝါ) ၎င်းကို ကောင်းစွာပြုစုလော့။ အဘယ်ကြောင့်ဆိုသော် အေဒါဝူဒ် (တမန်တော်) မည်သူမဆို လောကရေးရာ၏ ဘေးဒုက္ခ အပေါင်းမှ ထွက်ခွာ၍ (အချိန်ထုတ်နုတ်ကာ) ငါအသျှင့်ဘက်တော်သို့ ပြေးလာပါလျှင် (ဝါ) အလ္လာဟ်အသျှင့် လမ်းခရီး ထွက်ပါလျှင် ငါအသျှင်က ၎င်းကို **(ဟမ္ဗဿ)** အသိ ဉာဏ် ကောင်းသူဟု သတ်မှတ်တော်မူမည်။ ဤသို့ သတ်မှတ်တော်မူသူကို ဘယ်သော် အခါမျှ အပြစ်ဒဏ်ပေးတော် မမူချေ။

သူတော်စင်တစ်ပါးကို လူတစ်ဦးက အကြင်သူသည် အပြစ်ဒုစရိုက်များတွင် ပျော်ရွှင်နေပါလျှင် ထိုသူသည် **အာရစ်(ဖ္ဖ်)** စိတ်နှလုံး ပွင့်လင်းသူ ဖြစ်နိုင်ပါမည်လောဟု မေးလေရာ သူတော်ကောင်းက အကြင်သူသည် လောကရေးကို ဦးစားပေးနေပါလျှင် စိတ်နှလုံး ပွင့်လင်းသူ မဖြစ်နိုင်။ အပြစ်ဒုစရိုက် ကျူးလွန်နေသူကား **မအ်ရေဖတ်** ပညာနှင့် ဝေးကွာလေစွဟု ဖြေကြား၏။

**(သတိ)** လောကရေးရာဆိုသည်မှာ ပစ္စည်းကို ချစ်ခင်မက်မောခြင်းသာမဟုတ်၊ ရာထူး၊ ဂုဏ်ကို ချစ်ခင်မက်မောခြင်းသည် ပစ္စည်းကို မက်မောခြင်းထက် ပိုမိုဆိုးဝါးချေ၏။

(၂) စစ်မှန်သော သာသနာ့ပညာရှင်၏ ဒုတိယ လက္ခဏာမှာ- ၎င်း၏ ပြောဆိုသော စကားနှင့် လုပ်ရပ် မဆန့်ကျင်စေရ။

## اتأمرون الناس بالبر و تنسون انفسكم

အသင်တို့သည် အခြားသူတို့ကို ကောင်းရာညွှန်ကြား အမိန့်ပေးကြပြီး ကိုယ်တိုင် မပြုလုပ်ပဲ မေ့လျော့နေကြသလော။ (ကုရ်အာန်) အစ်ဒွရ်ရဟ်မာန် ဗင်န် ဃနမ် ဆင့်ပြန် သည်မှာ ကျွန်ုပ်ကို စွဟာဗီပေါင်း တစ်ရာကျော်တို့က အကြောင်းကြားကြ၏။

ကျွန်ုပ်တို့သည် (ကုဗာ) တွင်ရှိသော ပလီကျောင်း၌ ပညာသင်ပေးသင်ယူ လေ့လာဆည်းပူးနေကြစဉ် တမန်တော်မြတ်ﷺ ကြွရောက်လာပြီး အသင်တို့သည် ဤ ပညာကို အလိုရှိသလောက် ကြိုးစားအားထုတ်၍ သင်ကြားကြကုန်။ သို့သော်လည်း ၎င်းပညာနှင့် လျော်ညီစွာ လိုက်နာကျင့်သုံးမှု မရှိပါက အချီးနှီးသာ ဟု မိန့်ကြားတော်မူ၏။

(၃) စစ်မှန်သောပညာရှင်၏ တတိယ လက္ခဏာမှာ အာခေရတ်ရေးတွင် အကျိုး ဖြစ်ထွန်းစေမည့် ပညာမျိုးတွင် မွေ့လျော်နေသူ ဖြစ်ရမည်။

(၄) အစားအသောက်နှင့် အဝတ်အစားတွင် အကောင်းဆုံးနှင့် အလှဆုံးကို စိတ်က အဓိက မထားပဲ ၎င်းနှင့်ပတ်သက်၍ အလတ်တန်းစားနှင့် သူတော်စင်တို့ ပြုပုံပြုနည်းကို စံနမူနာ ပြုလုပ်သင့်၏။ ဤဝတ်စားမှုနှင့်စပ်လျဉ်း၍ စိတ်၏အလိုဆန္ဒ အာရုံနည်းပါးသည့်ခန့်မျှ အလ္လာဟ်အသျှင်နှင့် ချစ်ခင်ရင်းနှီးမှုကို ပိုမိုစေမည်ဖြစ်၏။

(၅) ရာထူးရှိသူတို့နှင့် အရေးမကြီးပဲ (တကယ်လိုအပ်ချက်မရှိပဲ) မဆက်သွယ်ရ။ ဆက်သွယ်ရလျှင် သာသနာ့ဥပဒေကို သိလျက်နှင့် မထိန်ချန်ရ။ အကြောင်းမူကား ဂုဏ်သိက္ခာကို အားနာထောက်ထားသဖြင့် တရားတော်၏ ဥပဒေကို ထိန်ချန်ခြင်းသည် ကြီးလေးသော သာသနာ့အန္တရာယ်ကြီးဖြစ်သည်။

(၆) ဖတ္တဝါ-ဓမ္မသတ် အဆုံးအဖြတ် ပေးခြင်းတွင် အထူးဆင်ခြင်သူ ဖြစ်ရမည်။ အခြားအရည်အချင်းနှင့် ပြည့်စုံသူရှိက ၎င်းထံညွှန်ကြားပေးရမည်။ သို့တည်းမဟုတ်က ကေယာမသ်နေ့တွင် အဖြေပေးရမည်ဖြစ်သည်။

စွဟာဗဟ် သာဝကကြီးတို့သည် (၄)ခုသောအလုပ်ကို အထူး ရှောင်ကြကုန်

၏။ ၎င်းတို့မှာ– (၁) အေမာမတ်လုပ်ခြင်း။ (၂) အမာနတ် လက်ခံခြင်း။ (၃) ဝစ္စီယတ် (သေသူ၏ မှာတမ်းချက်) လက်ခံခြင်း။ (၄) ဖတ္တဝါမွေသတ် အဆုံးအဖြတ်ပေးခြင်း တို့ဖြစ်သည်။

စွဟာဗဟ်သာဝကကြီးတို့၏ အဓိကလုပ်ရပ်များမှာ (၅) ခုဖြစ်သည်။ ၎င်းတို့မှာ–

(၁) ကျမ်းမြတ်ကုရ်အာန် ဖတ်ရွတ်သရဇ္ဈာယ်ခြင်း။

(၂) ဗလီဝတ်ကျောင်းတော်များကို စည်ကားအောင် ပြုလုပ်ခြင်း။

(၃) အလ္လာဟ်အသျှင်မြတ်အား အမှတ်ရတသခြင်း။

(၄) ကောင်းရာကိုညွှန်ကြား ပြသ တိုက်တွန်းနှိုးဆော်ခြင်း။

(၅) မကောင်းမှု ဒုစရိုက်ပေါင်းမှ ပိတ်ပင်တားဆီးခြင်းတို့ဖြစ်သည်။

(၇) စစ်မှန်သော သာသနာပညာ ရှင်၏ သတ္တမ လက္ခဏာမှာ (အီလ်မိ ဗာတွင်န် ခေါ်) အတွင်းရေးပညာ၊ စိတ်နှလုံးပွင့်လင်းစေသောပညာ၊ စိတ်ထားကောင်းမွန်ရေး၊ စာရိတ္တမွန်မြတ်ရေး၊ စာရိတ္တပြုပြင်ရေးတို့တွင် အထူးကြိုးစားအားထုတ်သူဖြစ်ရမည်။

## အီလ်မိဗာတွင်န် အကြောင်းအကျဉ်း

သို့စာရိတ္တ ပြုပြင်ရာတွင် ကျွမ်းကျင်သော ဆရာကောင်း သမားကောင်းတို့၏ ညွှန်ကြားချက်များကို နာခံကျင့်သုံးသူဖြစ်ရမည်။

ဤ(အီလ်မိဗာတွင်န်) ခေါ် အတွင်းရေးပညာ ရရှိရေးအတွက် ကြိုးစား အားထုတ်ခြင်းသည် (အီလ်မိဇွာဟေရ်)ခေါ် အခြားပညာရပ်များတွင် တိုးတက်မှုအတွက် အထောက်အကူလည်းဖြစ်စေသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်မှာ မည်သူမဆို မိမိတတ်သိ နားလည်သော ပညာရပ်အပေါ် လိုက်နာကျင့်သုံးပါက အလ္လာဟ်အသျှင်မြတ်က ၎င်းအား မသင်ကြားရသော အသိပညာကို ပေးသနားတော်မူမည်ဖြစ်သည်။ ဤသို့သော ဟဒီဆ်တော်ကြောင့်ပင် (အလ္လာဟ်အသျှင်ဘက်တော်သား) သူတော်စင်တို့ထံမှ ရရှိသော (အီလ်မိ မအ်ရေဖတ်)ပညာရပ်များသည် စာအုပ်စာတမ်းများတွင် ရှာဖွေ၍ မရနိုင်ချေ။

ယင်းအကြောင်းကြောင့်ပင် အရဗီ၊ ဖွာရစီ အစရှိသော ပညာကို တစ်ဘက်ကမ်းခတ် တတ်ကျွမ်းကြကုန်သော (၁) မော်လာနာ ရရှီဒ်အဟ်မဒ် (ဂန်ဂိုဟီ) (၂) မော်လာနာ

ကာစင်မ် (နာနော်သဝီ) (၃) မော်လာနာ အရှ်ရဖ်အလီ (ထာနဝီ)သခင်ကြီးတို့သည် ပညာပြောပလောက်အောင် မတတ်ကျွမ်းသော– ဟာဂျီအင်မ်ဒါဒွလ္လာဟ် သခင်ကြီးထံ တပည့်ခံကြရကုန်၏။ အကြောင်းမူကား (အီလ်မိကတ်စဗီ)ခေါ် ကြိုးစားရှာဖွေ ရရှိသော ပညာနှင့် မပြည့်စုံ မလုံလောက်သေးချေ။ စိတ်နှလုံးကို ပွင့်လင်းစေသော၊ စာရိတ္တကို ပြုပြင်စေနိုင်သော၊ အသိ(ပညာ) ရရှိရေးအတွက် အီလ်မိဟာတွင်နီ (မအ်ရေဖတ်) ပညာ ရရှိသူ၊ စိတ်နှလုံး ပွင့်လင်းပြီးသော ဆရာကောင်း သမားကောင်းလည်း လိုအပ်ချေ၏။

عن ابی هریرة قال قال رسول اللّٰہ صلی اللّٰہ علیہ وسلم ان اللّٰہ تعالی قال من علی دلی و لیافقد اذنته بالحرب وماتقرب الیّ عبدی بشیٔ احب الیّ مماافترضت علیه ومایزال عبدی یتقرب الیّ بالنوافل حتی احببته فاذا احببته فکنت سمعه الذی یسمع به و بصره الذی یبصر به و یده التی یبطش بها و رجله التی یمشی بها و ان سألنی لاعطینّه و لان استعاذنی لاعیذنه وماترددت عن شیٔ انافاعله ترددی عن نفس المؤمن یکره الموت و انا اکره مسله ته ولا بدله منه ﴿رواه البخاری ،مشکوة ۱۹۷﴾

ဟဒီဆ်တော်တစ်ခုတွင် အလ္လာဟ်အသျှင် အမိန့်ရှိသည်မှာ–

ငါအသျှင်၏ အချစ်တော်တစ်ဦးအား မည်သူမဆို ရန်ငြိုးထားလျှင် ငါအသျှင်က ၎င်းအား တိုက်ခိုက်ရန် ကြေငြာတော်မူ၏။ ငါ၏ဘန္ဒာတစ်ဦးသည် ငါအသျှင်နှင့် နီးကပ်ရန် ကြိုးစားအားထုတ်ရာ၌ ငါအသျှင်က (ဖွရတ်ဖ်တာဝန်) မလုပ်မနေရသော တာဝန်ပြုလုပ်ထားသည့် (နမာဇ် ၊ ရိုဇာ ၊ ဇကားသ်၊ဟဂျ်၊ လူအချင်းချင်းတာဝန်) အစရှိသည့် တာဝန်များကို ကျေပွန်အောင် မဆောင်ရွက်ဘဲ နီးကပ် ရင်းနှီးမှုကို မရနိုင်ပေ။ တစ်ဦးတစ်ယောက်သည် ယင်းတာဝန်များကို ကျေပွန်အောင် ဆောင်ရွက်ပြီးသည့်နောက် နဖွေလ်အိဗာဒတ်များတွင် ကြိုးစားအားထုတ်ကာ အမြဲမွေ့လျော် နေသည်ရှိသော် ၎င်းကို ငါအသျှင်မြတ်က(ဝလီ) အချစ်တော်ဟု သတ်မှတ်တော်မူမည်ဖြစ်၏။

ထိုသို့သတ်မှတ်တော်မူသောအခါ ငါအသျှင်မြတ်သည် ၎င်းသူ နားထောင်သောနား၊ ကြည့်သောမျက်စိ၊ လုပ်ကိုင်သောလက်၊ သွားလာသော ခြေ ဖြစ်အံ့။ ဆိုလိုရင်းမှာ ၎င်းသူ၏ အလုပ်အကိုင်များအားလုံးသည် အလ္လာဟ်အသျှင်မြတ်၏ အလိုတော်၊ သဘောတူညီချက်အတိုင်း ဖြစ်ချေ၏။ အလ္လာဟ်အသျှင် နှစ်သက်တော်မူ

သော စကားကိုသာ နားထောင်မည်ဖြစ်သည်။ နှစ်သက်တော်မူသော အရာကိုသာ ကြည့်မည်။ နှစ်သက်တော်မူသော အလုပ်အကိုင်ကိုသာ လုပ်ကိုင်မည်ဖြစ်သည်။ နှစ်သက်တော် မမူသောအရာကိုမူ လုံးဝမပြုလုပ်တော့ချေ။ ထိုအခါ ငါအသျှင်ထံ တစုံတရာကိုတောင်းဆိုလျှင် ငါအသျှင်မြတ်က ၎င်းသူတောင်းဆိုသည့်အတိုင်း မုချပေးသနားတော်မူမည်။ တစုံတရာ ကင်းရန် ဆုပန်လျှင် ငါအသျှင်မြတ်က မုချ ဖယ်ရှားပေးသနားတော်မူမည် ဖြစ်သည်။

### အထက်ပါ ဟဒီဆ်တော်ကို ရှိုက္ခအဗ္ဗဒွလ်ကာဒေရ်ဂျီလာနီ သခင်ကြီးက အကျယ်ဖွင့်ဆို ရှင်းလင်းပြသသည်မှာ–

قال الشيخ عبد القادر جيلانى فى تشريح هذا الحديث

ومايزال عبدى يتقرب الى بالنوافل حتى احببته وحينئذ يتعين عليك الخلاص مما اكتسبته من الخطايا من اقسام ثلاثة ﴿١﴾ اى ترك واجبات اللهِ من صوم وصلوة وزكوة ﴿٢﴾ وذنوب بينك وبين اللهِ كشرب الخمر وضرب المزامير واكل الربو والحرام ﴿٣﴾ وذنوب بينك وبين العباد وهذا اشكل واصعب وهى مايكون فى المال او فى النفس او فى العرض والحرمة الحاصل ان من تقرب الى اللهِ بالفرض ثم بالنفل قربه اللّٰہ تعالى فرقاه من درجة الايمان الى مقام الاحسان حتى يصير مافى قلبه من المعرفة يشاهد بعين البصيرة الخ وهذا هو كمال التوحيد

سر الاسرار تاليف الشيخ عبد القادر جيلانى

အလ္လာဟ်အသျှင်နှင့် ချစ်ခင်ရင်းနှီးမှု၊ ဆက်သွယ်မှုကို ရလိုသူတစ်ဦးအတွက် သုံးမျိုးသော အပြစ်ဒုစရိုက်များမှ ဦးစွာပထမ သောင်ဘာပြု၍ တာဝန်ကျေပွန်အောင် ဆောင်ရွက်ရန် အရေးကြီး၏ ၎င်းတို့မှာ––––

(၁) အလ္လာဟ်အသျှင်က ပြုလုပ်ဆောင်ရွက်ရန် တာဝန်ပေးထားသော ဖွရတ်ဇ် တာဝန်များပျက်ကွက်ခြင်း၊ ၎င်းတို့မှာ နမာဇ်၊ ရိုဇာ၊ ဇကာသ် တို့ဖြစ်သည်။ ၎င်းတို့ကို မိမိတာဝန်တွင် မကျန်ရှိရလေအောင် ဆောင်ရွက်ရမည်။

(၂) အလ္လာဟ်အသျှင် တားဆီးပိတ်ပင်ထားသည်ကို ကျူးလွန်ပြုလုပ်မိခဲ့ခြင်း၊ ၎င်းတို့မှာ သေရည် သေရက်သောက်စားခြင်း၊ တီးမှုတ်ခြင်း၊ အတိုးစားခြင်း၊ မစားပိုင်သော (ဟရာမ်) ပစ္စည်းများကို စားသုံးခြင်း။ အစရှိသည်တို့ဖြစ်သည်။ ၎င်းနှင့်ပတ်သက်၍ ကျူးလွန်မှုပြုလုပ်ခဲ့သည်ကို အရက်အကြောက်နှင့်နောင်တရ၍ နောက်နောင် မပြုလုပ်ရန် ဆုံးဖြတ်ချက်ချကာ သောင်ဘာပြု-အစ်တစ်ဃ်ဖွာရ်ကို များစွာဖတ်ရန်ဖြစ်သည်။

(၃) ဟုကူကွလ်အေဗာဒ်- ခေါ် အချင်းချင်း တာဝန် ဝတ္တရားများ ပျက်ကွက်ခဲ့ခြင်း၊ ၎င်းသည် အားလုံးတွင် အဆိုးရွားဆုံး၊ အပြင်းထန်ဆုံးဖြစ်သည်။ (အဘာယ်ကြောင့်ဆိုသော် သူတစ်ဦး၏ ပိုက်ဆံ(၂)နှစ်ပြားတန်ကိုပေးရန် ပျက်ကွက်ခဲ့လျှင်၊ သို့မဟုတ် ဂုဏ်သိက္ခာကို ထိခိုက်အောင် ပြုလုပ်ခဲ့လျှင် သို့တည်းမဟုတ် ကိုယ်ကာယကို မတရားစော်ကားခဲ့လျှင် ကေယာမယ်နေ့တွင် (၂)ပြားတန်အတွက် နမာဇ်အကြိမ်ပေါင်း (၇၀၀) အချိုးကျ ပေးဆပ်ရမည်ဖြစ်သည်။

(ဖွဖွာအေလ်ဟကျ်)

ထို့ကြောင့် တစ်ဦးတစ်ယောက်၏တာဝန် မိမိတွင် မကျန်ရှိရလေအောင် ဆောင်ရွက်ပေးဆပ်ရမည်။ သို့တည်းမဟုတ် ကျေနပ်အောင် တောင်းပန်း၍ တာဝန်ကို ထမ်းဆောင်ရမည်ဖြစ်သည်။ ဤသို့ တာဝန် (၃)ရပ်လုံးကို ကျေပွန်အောင် ဆောင်ရွက်ပြီးသူ တစ်ဦးသည် ဖွရတ်ဇ်တာဝန်များကို ဆောင်ရွက်လျက် နဖွေလ်ကိစ္စများတွင် အမြဲကြိုးစား အားထုတ်လျက် ဆောင်ရွက်သည်ရှိသော် ၎င်းအား အလ္လာဟ်အသျှင်မြတ်က မိမိနှင့် ချစ်ခင်ရင်းနှီးသော အဆင့်ကို ပေးသနားတော်မူမည် ဖြစ်သည်။

ထိုအခါ အီမာန် (သက်ဝင်ယုံကြည်မှု)၏အဆင့်မှ **အစ်ဟ်စာန်**အဆင့်သို့ တိုးတက်ချီးမြှင့် ပေးသနားတော်မူမည်ဖြစ်၏။

ထိုအခါ ကိုယ်ကာယ မျက်စိတွင် အလင်းရောင်ရရှိသဖြင့် အရာအပေါင်းကို တွေ့မြင်ရသကဲ့သို့ စိတ်နှလုံး၏တံခါးပွင့်၍ အလင်းရောင်ကို ရရှိမည်ဖြစ်၏။ ထိုသို့ စိတ်နှလုံးပွင့်လင်းသော အလင်းရောင်ကြောင့် အလ္လာဟ်အသျှင်၏ **မအ်ရိဖွာသ်** အသိတရားအမှန်ကို ရရှိမည်ဖြစ်သည်။

စိတ်နှလုံးတွင် ဤသို့ **မအ်ရေဖွာသ်** အသိတရားအမှန်ကို ရရှိသူသည် အလ္လာဟ်အသျှင်မှအပ အခြားအရာအားလုံးကို စိတ်နှလုံးအတွင်းမှ (အလင်းရောက်က အမှောင်ပျောက်သကဲ့သို့) ပယ်ထုတ်ပစ်မည်ဖြစ်၏။

ဤအဆင့်ရောက်သူ တစ်ဦးသည် စကားတစ်စုံတရာကို ပြောဆိုလျှင် အလ္လာဟ်

အသျှင်ကို အမှတ်ရစေသော စကားမျိုးကိုသာ ပြောဆိုမည်။ အလုပ်တစုံတရာကို ပြုလုပ်လျှင်လည်း ထိုအသျှင် အမိန့်တော်ရှိသည်ကိုသာ ပြုလုပ်မည်ဖြစ်သည်။ အကယ်၍ တစုံတရာကို ကြည့်လျှင် ထိုအသျှင်နှင့်အတူတကွ၊ နားထောင်လျှင်လည်း ထိုအသျှင်နှင့် အတူတကွ၊ လက်က တစုံတရာလုပ်ကိုင်လျှင်လည်း ထိုအသျှင်နှင့် အတူတကွဖြစ်မည်။ ဤသည်ကိုကို ပြည့်စုံသော (သောင်ဟီဒ်း) ဟုခေါ်သည်။

## ရှိုက်ခ်အဗ်ဒွလ်ကာဒေရ်-ဂျီလာနီ သခင်ကြီးပြုစုသော-
## စစ်ရွှလ်အတ်စ်ရာရ်ကျမ်း

အခြား ဟဒီဆ်တော်တွင် မည်သူမဆို ငါအသျှင်၏ အချစ်တော်တစ်ဦးနှင့် ရန်ငြိုးထားလျှင် ငါအသျှင်က ၎င်းအား စစ်ပြိုင်တိုက်ခိုက်ရန် ကြေငြာတော်မူ၏ဟုပါရှိ၏။ ထို့ကြောင့် ပစ္စည်းရှိသူ၊ ဂုဏ်ရှိသူ၊ ရာထူးရှိသူ၊ ပညာတော်သူဖြစ်ခြင်းထက် အလ္လာဟ် အသျှင့်အချစ်တော်၊ အလ္လာဟ်အသျှင့် ဘက်တော်သား ဖြစ်ခြင်းသည် မည်မျှ သာပို တန်ဖိုးရှိသည်ကို သဘောပေါက် နားလည်ထိုက်၏။

ولئن شكرتم لازيدنكم

ရှိုက်ခ်အဗ်ဒွရ်ရဟ်မာန်က အဗူအလီသခင်ထံမှ ဆင့်ပြန်သည်။ အကယ်၍ အသင်တို့သည် ငါအသျှင်၏ ကျေးဇူးတော်များကို သိတတ်ကြမည်ဆိုလျှင် ငါအသျှင် မြတ်က အသင်တို့အား **(နှစ်အ်မတ်တော်)**ကျေးဇူးတော်ကို ပိုမိုပေးသနား တော်မူမည်။ (ကုရ်အာန်) သဖ်စီရ်ကာဒိရီတွဲ ၁-၄၈၆။

ဤဗျာဒိတ်တော်အရ (၁) မည်သူမဆို လူ့ဘောင်ဘဝတွင် အဖန်ဆင်း ခံရပြီးနောက် အမိန့်နာခံသူ (မွတ်စ်လင်မ်) ဖြစ်ရသည့် ကျေးဇူးတော်ကို သိရှိနားလည် သဖြင့် ကျေးဇူးဆပ်ရန် စိတ်ဆန္ဒ ပေါ်ပေါက်ကာ တမန်တော်မြတ် ﷺ ကို စံနမူနာယူ၍ အလ္လာဟ်အသျှင် နှစ်သက်တော်မူသော ကိစ္စများတွင် ကြိုးစားအားထုတ်ပါက ၎င်းအား (အီမာန်) သက်ဝင်ယုံကြည်မှု၏ **နှစ်အ်မတ်တော်**ကို ချီးမြှင့်ပေးသနားတော်မူမည် ဖြစ်သည်။ ၎င်းယုံကြည်မှုသည်ကား အပြောကောင်းသဖြင့် ပြောလို့မရနိုင်ချေ။ ယုံကြည်မှု

သည်ကား နှုတ်၊ လျှာ၊ ကိုယ်၊ လက်အင်္ဂါ၏ အလုပ်မဟုတ်၊ စိတ်နှလုံး၏ အလုပ်သာဖြစ်သည်။ စိတ်နှလုံးက သဘောပေါက်လက်ခံမှ ယုံကြည်မှုကို ရနိုင်သည်။ (ယုံကြည်ရမည့် အချက်သည်ကား–

لَا اِلٰهَ اِلَّا اللّٰهُ

(က) အရာတိုင်းကို ပြုလုပ် ဖန်တီးပေးသူသည် အလ္လာဟ်အသျှင် တစ်ပါးတည်းသာ ဖြစ်သည်။

(ခ) အဖန်ဆင်းခံရသူနှင့် ဘာမျှမဖြစ်နိုင်၊ အလ္လာဟ်အသျှင် အလိုတော်ရှိမှသာ ဖြစ်မည်။

(ဂ) တစ်ဦးတစ်ယောက်က ပြုလုပ်ဆောင်ရွက်ပေးခြင်းသည်ကား (မန်နီအော်ဒါ) ကို ယူဆောင်လာသော စာပို့လုလင်ပမာသာ ဖြစ်သည်။

(ဃ) လောကတွင်ရှိ အရာတိုင်းသည် ထိုအသျှင့်အလိုတော်၏ လက်အောက်တွင် ဖြစ်၍ ကောင်းကျိုးဆိုးကျိုးတို့သည် ထိုအသျှင့် လက်ဝယ်သာဖြစ်သည်။ ထို့ကြောင့် အလိုတော်မရှိက တလောကလုံး ကြိုးစားသော်လည်း ဘာမျှမဖြစ်နိုင်ဟူသော ယုံကြည် ချက်နှင့်–

مُحَمَّدٌ رَّسُوْلُ اللّٰهِ

အောင်မြင်မှုကို တမန်တော်မြတ် ﷺ ၏ လမ်းစဉ်အတိုင်း လိုက်နာကျင့်သုံးမှ ရနိုင်သည်။တမန်တော်မြတ် ﷺ ၏ လမ်းစဉ်ကို ဖီလာဆန့်ကျင်မှု ပြုလုပ်က အောင်မြင်မှုကို မရနိုင်ဟူသော ယုံကြည်ချက်ကို ဆိုလိုသည်။

ဤယုံကြည်ချက်သည် အပြောသက်သက်မဟုတ်ပဲ နှလုံးသားအတွင်း ဝင်ရောက်နိုင်ရန် လမ်းစဉ်လေးခုဖြင့် ကြိုးစားရပေမည်။ သို့မဟုတ်က သာမန်ကိစ္စနှင့်အီမာန်ပျက်စီး ဆုံးရှုံးမည်ကို စိုးရိမ်ရလေသည်။ ၎င်းတို့မှာ–

(၁) ယုံကြည်ချက်နှင့် စပ်လျဉ်းသော စကားများကို နှုတ်လျှာက အကြိမ်ကြိမ်ပြောဆိုရွတ်ဖတ်၍လည်းကောင်း၊ ဖိတ်ခေါ်၍လည်းကောင်း၊

(၂) ယုံကြည်ချက်နှင့် စပ်လျဉ်းသော စကားများကို နားနှင့် အဖန်တလဲလဲ နားထောင်၍လည်းကောင်း၊

(၃) ယုံကြည်ချက်နှင့်ပတ်သက်၍ ကြားသိရသည်ကို စိတ်နှလုံးက အမြဲ စဉ်းစား တွေးတောခြင်းဖြင့်လည်းကောင်း၊

(၄) သာသနာ့ခရီးထွက်၍ သာသနာတော်ကို အကျိုးပြုသူအား အလ္လာဟ် အသျှင်၏ လက်တွေ့ ကူညီစောင့်ရှောက်ပုံကို လက်တွေ့ တွေ့မြင်ခြင်းအား ဖြင့်လည်းကောင်း၊ ဤသို့စစ်မှန်သော ယုံကြည်မှုကို ရရှိနိုင်လေသည်။

ပမာဆိုသော်-တမန်တော်မြတ်ﷺ နှင့် အဗူဗကရ်သခင်တို့သည် ဟစ်(ဂျ)ရတ် ပြုရန် သာသနာ့ခရီး ထွက်ကြလေသောအခါ လမ်းတလျှောက်တွင် အလ္လာဟ်အသျှင်၏ ကူညီစောင့်ရှာက်မှုများကို လက်တွေ့မြင်တွေ့သွားကြရကုန်၏။

## တွေ့ရပုံများမှာ

(၁) တမန်တော်မြတ်ﷺ အား အဆုံးစီရင် သတ်ဖြတ်ရန်အတွက် လက်နက် အစုံဖြင့် ဝိုင်းရံလျက် ထားသူတို့ဘက်သို့ တမန်တော်မြတ် ﷺ က မြေမှုန့် တစ်ဆုပ်ကို ကိုင်ဆုပ်၍ ပစ်လိုက်လေရာ မြေမှုန့်တို့သည် လေးမျက်နှာက ဝိုင်းရံထားသူ အားလုံးတို့၏ မျက်စိများတွင် ဝင်ရောက်သဖြင့် မျက်စိများ မဖွင့်နိုင်တော့ချေ။ ထိုအခါ တမန်တော် မြတ်ﷺ သည် ၎င်းတို့အနီးမှကပ်၍ ဖြတ်သန်းသွားသည်ကို တစ်ဦးတယောက်ကမျှ မမြင်ရတော့ချေ။ ဤသည်ကား ထိုအသျှင် အလိုတော်မရှိက တလောကလုံးက ဝိုင်းအုံ၍ ကြိုးစားသော်လည်း ဘာမျှမတတ်နိုင်ကြောင်း ပထမလက်တွေ့ မြင်တွေ့ချက် တစ်ရပ် ပင်တည်း။

(၂) ထို့နောက်တဖန် တောင်လိုဏ်ခေါင်းတွင် ခိုအောင်းနေကြစဉ် အလ္လာဟ်အသျှင် က တောတိရစ္ဆာန်ငယ်များအားဖြင့် ကူညီစောင့်ရှောက်သဖြင့် အနီးသို့ ရောက်ရှိလာကြ သော ရန်သူတို့ မတွေ့မြင်ကြပဲ ပြန်ကြရကုန်၏။

(၃) ထို့အတူ **စို့ရာကာ**ဆိုသူသည် တမန်တော်မြတ်ﷺ ကို ဖမ်းမိလျှင် ကုလားအုတ် (၁၀၀) တစ်ရာ ဆုလာဘ်ရမည်ကို မျှော်လင့်လျက် တမန်တော်မြတ်ﷺ ကို ဖမ်းဆီးရန် ရည်ရွယ်ချက်ဖြင့် မြင်းကိုစိုင်းပြီး နောက်က ပြေးလိုက်လာလေရာ အနီးသို့ရောက်သော အခါ အလ္လာဟ်အသျှင်မြတ်က ၎င်း၏မြင်းကို မြေမျိုစေတော်မူ၍ စောင့်ရှောက်တော် မူ၏။ ထိုအခါ **စို့ရာကာ**က တမန်တော်မြတ်ﷺ အားတောင်းပန်ဝန်ခံ ကတိပြုသဖြင့် တမန်တော်မြတ်ﷺ သည် ရန်သူကိုပင် ဘေးအန္တရာယ်မှ ချွတ်ကယ်ပေးတော်မူခဲ့၏။

ဤနည်းအတိုင်း မည်သူမဆို သာသနာ့ခရီးထွက်၍ သာသနာတော်ကို အကျိုးဖြစ်ထွန်းစေပါလျှင် အလ္လာဟ်အသျှင်၏ ကူညီပံ့ စောင့်ရှောက်ပုံကို လက်တွေ့ မျက်စိနှင့် တွေ့မြင်ရမည်ဖြစ်သည်။ ထိုအခါ ဖေါ်ပြပါ ယုံကြည်မှုသည် အပြောမဟုတ်ပဲ စိတ်နှလုံးတွင် ဝင်ရောက်ချေမည်။ ဤသို့သော အီမာန်ကို သာမာန်အားဖြင့် နှောက်ယှက်လို့ ပျက်စီးနိုင်မည်မဟုတ်ချေ။

ဤသို့ အီမာန်ယုံကြည်မှုအဆင့်ကို ရရှိသူတစ်ဦးသည် ထိုအသျှင့် ကျေးဇူးတော်ကို အသိတရားရ၍ ကျေးဇူးဆပ်ရပေမည်။ သို့ကျေးဇူးဆပ်ရာတွင် တမန်တော်မြတ်ﷺ ကို စံနမူနာယူသင့်၏။

တမန်တော်မြတ်ﷺ ၏ အပြစ်အားလုံးကို အလ္လာဟ်အသျှင်မြတ်က ချမ်းသာပေးသနားတော်မူကြောင်း ဗျာဒိတ်တော်ကျရောက်လာသောအခါ တမန်တော်မြတ်ﷺ သည် အေဗာဒတ်တွင် ပိုမိုကြိုးစား အားထုတ်လေသဖြင့် ခြေများပင် ဖောယောင်လာချေ၏။ ထိုအခါ အာအိရှာသခင်မက ဤမျှခန့် အဘယ်ကြောင့် ဒုက္ခခံရပါသနည်းဟု မေး လျှောက်ရာ တမန်တော်မြတ်ﷺ က–

اَفَلَا اَكُوْنَ عَبْدًا شَكُوْرًا

ငါတမန်တော်သည် ကျေးဇူးသိတတ်သော ဗန္ဒာတစ်ဦးမဖြစ်ရကောင်းလားဟု ဖြေကြားတော်မူ၏။

အလ္လာဟ်အသျှင်နှစ်သက်စေသော အလုပ်များဆိုသည်မှာ–

၁။ (ဒအ်ဝပ်) နဗီတမန်တော်များ၏ လမ်းစဉ်အတိုင်း မကောင်းမှုဒုစရိုက်မှ တားဆီး၍ ကောင်းရာသို့ ဖိတ်ခေါ်ခြင်း။

၂။ (အီဗါဒတ်) ခဝပ်ကိုးကွယ်ခြင်း၊ ၎င်းတွင် တစ်ဦးခြင်း ပြုလုပ်ဆောင်ရွက်ရန် အရေးကြီးသော အချက်များမှာ–

(က) ငါးကြိမ် နမာဇ်ကို ကသွာ မကျန်ရှိရလေအောင် အချိန်မှန်ဖတ်ခြင်း၊ ကသွာရှိသူသည် ကသွာနမာဇ်ကို ဦးစားပေး ဖတ်ခြင်း၊

(ခ) ကျမ်းမြတ်ကုရ်အာန်ကို ဖတ်ရွတ်ခြင်း၊

(ဂ) သစဗီဘာ၀နာများ– အစ်တစ်ဃ်ဖာရ်(၁၀၀)၊ ဒရှူးဒ်ရှရီဖ် (၁၀၀)၊ တတိယ ကလေမဟ် (၁၀၀)၊ နေ့စဉ် နံနက်တစ်ကြိမ်၊ ညနေတစ်ကြိမ်၊ မပျက်မကွက် ဖတ်ရွတ်ခြင်း၊

(ဃ) အရောင်းအ၀ယ်၊ အဆက်အသွယ်၊ အပေးအယူ ကိစ္စများတွင် ယှရီအတ် တရားတော်နှင့်အညီ မဆန့်ကျင်စေအောင် ဆောင်ရွက်ခြင်း။

၃။ (သအ်လီမ်) ဘာသာရေးပညာသင်ယူခြင်း၊ သင်ကြားပို့ချခြင်း၊

၄။ (ခစ်ဒ်မတ်) မိဘ၊ ဆရာသမား၊ ဆွေမျိုးညာတိ ကျေးဇူးရှင် အပေါင်းနှင့် ပြုစုထိုက်သူတို့အား ပစ္စည်းအား၊ လူအားဖြင့် ပြုစုခြင်း။

၅။ ဤမွန်မြတ်သော ကိစ္စရပ်များကို လေ့လာဆည်းပူး ရရှိနိုင်စေရန် အလ္လာဟ့် လမ်းတွင် သာသနာ့ခရီးထွက်ခြင်း၊ ဤသို့ သာသနာ့ခရီးထွက်သောအခါ–

(က) မိမိကိုယ်ကို ပြုပြင်ရန်၊

(ခ) သာသနာတော် ရှင်သန်စေရန်နှင့်

(ဂ) အလ္လာဟ်အသျှင်မြတ် နှစ်သက်တော်မူစေရန်ဟု စစ်မှန်သော ရည်ရွယ်ချက် ဖြင့် ပြုလုပ်ဆောင်ရွက်ခြင်းတို့သည် အလ္လာဟ်အသျှင်အား နှစ်သက်စေ သော အလုပ်များဖြစ်သည်။

## အီမာန်နှင့်အစ်ခ်လာစ်ကြောင့် ရရှိမည့်အဆင့်များ ရှင်းလင်းချက်

ایمان ١ احسان ٢ معرفت ٣ نسبت ٤ قربت ٥ انس ٦ مشاهده ٧

၁။ မည်သူမဆို အီမာန်၏ (နှစ်အ်မတ်)ကျေးဇူးတော်ကို ရရှိသဖြင့် ထိုကျေးဇူး တော်ကို သိရှိကာ– ကျေးဇူးဆပ်ရန်– ကျေးဇူးတင်ရန် ဖော်ပြပါ ကိစ္စများ အားဖြင့် ကြိုးစားအားထုတ် ပြုလုပ်ပါက အလ္လာဟ်အသျှင်က ၎င်းအား–

၂။ ဒုတိယအဆင့်ဖြစ်သော (အစ်ဟ်စာန်) တည်းဟူသော နှစ်အ်မတ်တော်ကို

ပေးသနားတော်မူချေမည်တည်း။(အစ်ဟ်စာန်) ဆိုသည်မှာ အိဗာဒသ် ပြုရာတွင် အလ္လာဟ်အသျှင်ကို တွေ့မြင်ရဘိသကဲ့သို့– စိတ်စေတနာ ဖြူစင်သော **(အစ်ဒ်လာစ်)**အဆင့်အတန်းကို ဆိုလိုသည်။

၃။ အစ်ဟ်စာန်ခေါ် စစ်မှန်သော အစ်ခ်လာစ်၏ အဆင့်အတန်းကို ရရှိရသူတစ်ဦးသည် မိမိအား ပေးသနားခြင်းခံရသော(နစ်အ်မတ်–)ကျေးဇူးတော်ရရှိသည့်အတွက် ဝမ်းမြောက်ဝမ်းသာ နှစ်ထောင်းအားရဖြစ်၍ ထိုအသျှင်နှစ်သက်စေသောအလုပ်များတွင် ကြိုးစားအားထုတ်သည်ရှိသောအလ္လာဟ်အသျှင်က ၎င်းအား **(မအ်ရိဖသ်)**ခေါ် စိတ်နှလုံး၏ တံခါးပွင့်၍ အလင်းရောင်ရှိသော အဆင့်ကို ချီးမြှင့် ပေးသနားတော်မူချေမည်တည်း။

يَهْدِى اللّٰهُ لِنُوْرِهٖ مَنْ يَّشَآءُ

اللہ تعالی اس نور ہدایت تک جس کو چاہتا ہے راہ دیدیتا ہے

၄။ မအ်ရိဖွာသ် ခေါ် စိတ်နှလုံးတခါးပွင့်– အလင်းရောင်ကိုရရှိသူ တစ်ဦးသည်ရှေ့သို့တဖန် ယင်းကိစ္စများတွင် ကြိုးပမ်းသည်ရှိသော် အလ္လာဟ်အသျှင်က၎င်းအား **(မကားမိနစ်စဘသ်)** အလ္လာဟ်အသျှင်နှင့် ဆက်သွယ်မှု အဆင့်အတန်းကို ချီးမြှင့် ပေးသနားတော်မူမည်ဖြစ်၏။

၅။ ဤဆက်သွယ်မှုရရှိသော နစ်အ်မတ်တော်ကို ကျေးဇူးတင်သူအား အလ္လာဟ်အသျှင်မြတ်က **(မကားမိကုရ်ဘသ်)** ရင်းနှီးမှု၏အဆင့်ကို ချီးမြှင့်ပေးသနားတော်မူမည်ဖြစ်၏။

၆။ ဤရင်းနှီးမှု၏ နစ်အ်မတ်တော်ကို ကျေးဇူးတင်သူအား **(မကားမိအွန်စ်)** အလွန်တရာ ချစ်ခင်သဖြင့် ချစ်ခင်သူနှင့် မခွဲမခွာလိုသော၊ အရသာရှိစေသော အဆင့်ကို ပေးသနားတော်မူမည်ဖြစ်၏။

၇။ ဤအဆင့်အတန်းမှ ရှေ့သို့တိုးသည်ရှိသော် **(မကားမိမုရှာဟဒါ)**ကို ရရှိ

ချေမည်။ မုရှာဟဒါဆိုသည်မှာ မျက်မြင်ဒိဋ္ဌ တွေ့ရှိရသော အဆင့်အတန်း ဖြစ်သည်။ ဂျဟန္နမ်ကိုလည်းကောင်း၊ ဂျန္နတ်ကို လည်းကောင်း၊ ရှေ့မှောက်တွင် တွေ့မြင်နေရဘိသကဲ့သို့ အာခေရတ်ရေးရာ၏ ပြည့်စုံသော ယုံကြည်မှုဖြစ်သည်။

ထို့ကြောင့် အီမာန်ရှိရုံ၊ ပညာတော်ရုံနှင့် မပြည့်စုံ မလုံလောက်သေးချေ။

(၁) အီမာန်အဆင့်မှ
(၂) အစ်ဟ်စာန်သို့လည်းကောင်း
(၃) မအ်ရိဖွာသ်
(၄) နစ်ဘသ်
(၅) ကုရ်ဘသ်
(၆) အွန်စ်
(၇) မိုရှာဟဒါ အစရှိသော အဆင့်များသို့ ရောက်ရှိနိုင်ရန် ကြိုးစားအားထုတ်ရန်လည်း လိုအပ်ချေ၏။

ဤအကျိုးအာနိသင်များသည်ကား အလ္လာဟ်အသျှင်၏ နှစ်သက်မှုကို ရရှိရန် အတွက်–

(က) ထိုအသျှင်အားများစွာ(ဇိကေရ်ပြု) အမှတ်ရ တသခြင်းနှင့်
(ခ) ထိုအသျှင်နှစ်သက်တော်မူသည့် ဖေါ်ပြပါ ကိစ္စများကို ဆောင်ရွက်ပြုလုပ်ရာတွင် ကြိုးစားအားထုတ်ခြင်း၏ အကျိုးအာနိသင်များဖြစ်၏။

ထို့ကြောင့်**(အိလ်မိဘာတွင်န်)**ခေါ် စာရိတ္တပြုပြင်ရေး၊ အတွင်းရေး **(မအ်ရိဖွာသ်)** ပညာအတွက် ကြိုးစားအားထုတ်သည့်ခန့်မျှ အကျိုးအာနိသင်များကိုလည်း ရရှိနိုင်ကြမည်ဖြစ်၏။

## သာသနာ့ပညာရှင်၏ အဌမလက္ခဏာ

၈။ **၎င်း၏ယုံကြည်မှုသည် အားလုံးထက်ပိုစေရမည်။ယုံကြည်ချက်တွင်–**

(က) အရာတိုင်းကို ပြုလုပ်ပေးသူသည် အလ္လာဟ်အသျှင်သာ ဖြစ်ကြောင်း ယုံကြည်သဖြင့် ထိုအသျှင်အပေါ် ယုံကြည်အားကိုးခြင်း လွယ်ကူချေမည် ဖြစ်သည်။

(ခ) ယုံကြည်ချက်တွင် ကောင်းမှုသုစရိုက်များ၏ အကျိုးပေးပုံကို (အစာအဟာရ စားသုံးသူက ဝမ်းဗိုက်ပြည့်၍ အားအင်ဖြစ်ကြောင်း ယုံကြည်သကဲ့သို့) ယုံကြည်သောကြောင့် အကောင်းကိုသာ ပြုလုပ်ချေမည်တည်း။

(ဂ) မကောင်းမှုဒုစရိုက်၏ ဘေးအန္တရာယ်ကို (အဆိပ်ပါသောမြွေ ကိုက်လျှင် ဒုက္ခရောက်မည်ကို ယုံကြည်သကဲ့သို့) ယုံကြည်သောကြောင့် အပြစ်ဒုစရိုက်ကို အထူးရှောင်ကြဉ်မည်ဖြစ်၏။

၉။ ၎င်း၏ ပုံပန်းသဏ္ဌာန်၊အမူအရာကို တွေ့မြင်ခြင်းအားဖြင့် အလ္လာဟ်အသျှင်ကို အမှတ်ရလာစေရမည်။

၁၀။ ကျင့်ရန် ကြဉ်ရန်နှင့် မပတ်သက်သောအရာ၊ အာခိရတ်တွင် အကျိုးမပြုသောကိစ္စ၊ (လာယအ်နီခေါ်) အဓိပ္ပါယ်မရှိသော အရာများကို ရှောင်ကြဉ်သူ ဖြစ်ရမည်။

၁၁။ မိမိ၏အသိပညာတွင် အခြေအမြစ် သဘောတရားကို နားလည်သူ ဖြစ်စေရမည်။ **(ရှရာအ်)** တရားဥပဒေများတွင် အေမာမ်အဗူဟနီဖွာသခင်၏ စကားကို နာခံသည်မဟုတ် စင်စစ်မှာ အေမာမ်အဗူဟနီဖွာသခင်၏ လမ်းမှန်တရားပြသခြင်းကို နာခံ၍ တမန်တော်မြတ် ﷺ ၏ လမ်းစဉ်များကိုသာ နာခံခြင်းဖြစ်သည်။

၁၂။ **ဗစ်ဒ်အတ်**ခေါ် သာသနာ့လမ်းစဉ်အသစ် တီထွင်ခြင်းများကို အထူးရှောင်ကြဉ်သူ ဖြစ်ရမည်။

လူအများ၊ စုရုံးပြုလုပ်ခြင်းသည် တရားဝင်မဟုတ်။ တမန်တော်မြတ် ﷺ နှင့် စွဟာဗဟ်ကြီးများ၏ လမ်းစဉ်နှင့် ကိုက်ညီစေရမည်။

သာသနာ့လမ်းစဉ် သတ်မှတ်ခြင်းမှာ အလ္လာဟ်အသျှင်နှင့် တမန်တော်မြတ် ﷺ ၏ လုပ်ရပ်သာဖြစ်သည်။ ကျန်လူသားတို့တွင် ဤအခွင့်အာဏာ လုံးဝမရှိချေ။

စွဟာဗီသာဝကြီး အဗ်ဒွလ္လာဟ် ဗင်နမတ်စ်အူးဒ် ﷺ အမိန့်ရှိသည်မှာ ယနေ့အသင်တို့သည်၊ လူတို့၏ အလိုဆန္ဒ သာသနာ့ နောက်လိုက်ပြုနေသော အချိန်တွင် ရှိနေကြကုန်၏။ မကြာမီအချိန်တွင် သာသနာတော်၏ အမိန့်ပညတ်များကို မိမိစိတ်အလိုဆန္ဒနှင့် မကိုက်ညီက ကိုက်ညီအောင် ဆွဲဆောင်ကာ ပြုပြင်ပြောင်းလဲသူများ ပေါ်ပေါက်လာချေအံ့။

ရှိုင်တွာန်သည် ဤအွမ္မတ်ကို ဖျက်ဆီးရာ၌ **ဗစ်ဒ်အတ်**ဖြင့် အောင်မြင်မှုကို ရရှိ၏။ အကြောင်းမူကား ၎င်းကို ဒုစရိုက်ဟုပင် မထင်မြင်ပဲ အကောင်းဟု ထင်မှတ်၍ **သောင်ဘာ**ပြု အမှားဝန်ခံမှု မပြုကြသောကြောင့်ဖြစ်၏။

ဤသို့ ရှိုင်တွာန်၏ ဖျက်ဆီးရာတွင် အကြီးအကျယ် အောင်မြင်ရခြင်းသာ ဖြစ်သည်။

ဖော်ပြပါ လက္ခဏာ အရည်အချင်းများနှင့် ကိုက်ညီမှုသာ စစ်မှန်သောသာသနာ့ ပညာရှင်–အလ္လာဟ်ဘက်တော်သား ဖြစ်နိုင်မည်ဖြစ်ကြောင်း အကျဉ်းအားဖြင့် ဖော်ပြ အပ်ပေသည်။(ဖွဖ္ဖာအေလ်စွဒကာသ်) ကျမ်းများတွင် အကျယ်အားဖြင့် တင်ပြထားသည်။

အိုအသျှင် ကျွန်တော်မျိုးတို့အား ကိုယ်တော်အသျှင် နှစ်သက်တော်မူသည့် လမ်းစဉ်အတိုင်း လိုက်နာကျင့်သုံးနိုင်သော (သောင်ဖီွက်) စွမ်းအား ပေးသနားတော်မူပါ (အာမီးန်)



# تشريح الصراط المستقيم

# فصل فى بيان وجوب التقليد

# တတိယအခန်း

## ပထမပိုင်း

### အေမာမ်ကြီးများ၏ နောက်လိုက်ပြုနာခံခြင်းအကြောင်း

(အဟ်လေ့ဟဒီဆ်) ခေါ် မဇ်ဟဗ်လမ်းစဉ် လက်မခံသူတို့၏ စောဒကများကို ဖြေရှင်းခြင်း။

**အမေး**။ ။ ဟန္နဖီ မဖြစ်လျှင် မွတ်စ်လင်မ် မဖြစ်တော့ဘူးလား။ (တနည်းကား) အေမာမ် အဗူဟနီဖွာသခင် မရှိမီက မွတ်စ်လင်မ်တွေ မရှိတော့ဘူးလား။

**ဖြေရှင်းချက်**။ ။ စွဟာဗဟ်ကြီးများလည်း (သတ်က်လီဒ်) နောက်လိုက် ပြုကြကုန်၏။ မိမိတို့ထက်ပို၍ နားလည်သူတို့၏စကားကို နာခံကြကုန်၏။ ဟဒီဆ်တော်တွင် ဤအွမ္မတ်သည် (၇၃)သင်း ကွဲလွဲ၍ တစ်သင်းသာလျှင် အမှန်ပေါ်တွင် တည်ရှိချေမည်။

### ၎င်းအသင်း၏လက္ခဏာကို

مَا اَنَا عَلَيْهِ وَ اَصْحَابِىْ

ငါတမန်တော်မြတ်ﷺ နှင့် ငါ၏စွဟာဗဟ်ကြီးများ၏ လမ်းစဉ်အပေါ်တွင် ရပ်တည်နေသူများဟု ရှင်းလင်းပြသထားသဖြင့် တမန်တော်မြတ်ﷺ နှင့် စွဟာဗဟ်တို့၏ လမ်းစဉ်ကို လိုက်နာမှသာ မှန်ကန်သော အသင်းတွင် ပါဝင်နိုင်မည်ဖြစ်၏။

### အေမာမ်ကြီးများ၏ နောက်လိုက်ပြုရန် တမန်တော်မြတ်၏ မိန့်ကြားချက်

عن حذيفة قال قال رسول الله صلى الله عليه وسلم انى لا ادرى ما بقائى فيكم فاقتدوا بالذين من بعدى و اشار الى ابى بكر و عمر الحديث ﴿اخرجه الترمذى تيسير كلكته ص ٣٤٩﴾

တမန်တော်မြတ်ﷺ အမိန့်ရှိသည်မှာ ငါတမန်တော်သည် အသင်တို့တွင် မည်မျှကြာအောင် သက်တော်ထင်ရှား နေနိုင်မည်ကိုမသိရပေ။ ထို့ကြောင့် ငါတမန်တော် မရှိပြီးနောက် ဤပုဂ္ဂိုလ်(၂)ဦး (ဝါ) အဗူဗာကရ်နှင့် အုမရ်တို့၏ နောက်လိုက်ပြု နာခံကြ ကုန်လော့။ ၎င်းတို့ မိန့်ဆို ဆုံးဖြတ်သည်ကို နာခံကြကုန်ဟု မှာထားတော်မူ၏။

ဤသို့ရှေ့ဆောင်တစ်ဦးကိုသတ်မှတ်ပြီး အမိန့်နာခံစေခြင်းသည်အလ္လာဟ်အသျှင့် အမိန့်ကဲ့သို့ မခြားနားသော တမန်တော်မြတ်ﷺ ၏ အမိန့်တော်ဖြစ်သည်။ ထို့ကြောင့် စွဟာဗီသာဝကကြီးများသည်ပင်လျှင်(သတ်ကလီဒ်)နောက်လိုက်ပြု နာခံကြကုန်၏။

﴿باب میراث ابنة ابن مع ابنة﴾

عن حذیل بن شرجیل فی حدیث طویل قال سئل ابو موسی ثم سئل ابن مسعود واخبر بقول ابی موسی مخالفه ثم اخبر ابو موسی بقوله فقال لا تسئلونی مادام هذا البحر فیکم

﴿اخرجه البخاری والترمذی تیسیر کلکته﴾

ရှည်လျားသော ဟဒီဆ်တော်တခုတွင် ဤသို့ လာရှိ၏။ လူတစ်ဦးက အဗူမူစာခေါ် စွဟာဗီကြီးအား (အမွေခန်းနှင့် ပတ်သက်သောမတ်စ်အလာ) တခုကို မေးပြီးနောက် တဖန် ၎င်းကို အဗ္ဗဒုလ္လာဗင်န်မတ်စ်အူးဒ်ထံ မေးပြန်၏။ အဗ်ဒုလ္လာဟ်က၊ အဗူမူစာ၏ အဖြေနှင့် ဆန့်ကျင်သောအဖြေကို ပေးလိုက်သဖြင့် အဗူမူစာထံ တဖန်လာရောက် ပြောကြားလေသောအခါ စွဟာဗီကြီးအဗူမူစာက အသင်တို့တွင် ဤပညာရှင်ရှိနေသမျှ ကာလပတ်လုံး ကျွန်ုပ်ထံ မတ်စ်အလာ မမေးလာကြနှင့် ၎င်းစွဟာဗီထံ မေးမြန်းပြီး နာခံကြကုန်ဟု ညွှန်ကြားလိုက်၏။

သို့ညွှန်ကြားရခြင်းမှာ စွဟာဗီတိုင်းသည် မွှသတ်အဆုံးအဖြတ် ပေးနိုင်သော အရည်အချင်းမရှိကြသဖြင့်– အရည်အချင်းရှိသူတို့၏ နောက်လိုက်ပြုကြရမည်သာ ဖြစ်ကြောင်းသိရှိရ၏။

عن عطاء بن یسار قال سئل رجل ابن عمرو بن العاص عن رجل طلق امراته ثلاثا قبل ان یمسها فقال عطاء انما طلاق البکر واحدة فقال لی عبد الله انما انت قاض، الواحدة تبینها والثلاث تحرمها حتی تنکح زوجا غیره ﴿الاقتصاد فی التقلید والاجتهاد ص۱۲﴾

အတ္တာအ်သခင်ထံမှ ရေဝါယတ်လာရှိသည်မှာ အဗ်ဒုလ္လာဟ် ဗင်န် အမ်ရ်ထံ

သုံးတွလာက်၏ မတ်စ်အလာ မေးလာ၏။ မိမိဇနီးအား မပေါင်းသင်းမီ သုံးတွလာက်ကို တခါတည်းပေးမိလျှင် ရှရီအတ်တရားတော်က အဘယ်ကဲ့သို့ အမိန့်ရှိပါသနည်း။ ထိုအခါ အဗ်ဒွလ္လာဟ် အဖြေမပေးမီ အတ္တာအ်က(သည်လိုဆို မပေါင်းသင်းရသေးသည့်အတွက် တွလာက် တစ်ကြိမ်သာ အထမြောက်မည်ဟု)ကြားဝင်ဖြေကြားလိုက်၏။ ထိုအခါ အဗ်ဒွလ္လာဟ်က အသင်သည်ကား တရားဟောဆရာသာဖြစ်သည်။ ဖတ္တဝါဓမ္မသတ် အဆုံးအဖြတ်ပေးရန် အသင့်မှာ အရည်အချင်းမရှိဟုပြောပြီး ဤသို့ ရှင်းပြ၏။ တွလာက်တစ်ကြိမ်ပေး၍ ကွာရှင်းခြင်းသည် လုံးဝပြတ်စဲစေသော တွလာက်ပေးခြင်းဖြစ်သည်။ သုံးတွလာက်ပေးခြင်းအားဖြင့် အခြားလင်ယောကျ်ားနှင့် နေကာဟ်ပြု၍ မပေါင်းသင်းသမျှကာလပတ်လုံး ၎င်းအမျိုးသမီးသည် တွလာက်ပေးသူအတွက် ဟရာမ်ဖြစ်သွားချေ၏။

အတ္တာအ်သခင်သည်ကား ကျော်စောသော ဟဒီဆ် ပါမောက္ခတစ်ဦးဖြစ်လင့်ကစား ဖတ္တဝါပေးရန် အရည်အချင်း မရှိသောကြောင့်ပင်ဖြစ်သည်။

عن ابن مسعود قال قال رسول اللہ صلی اللہ علیہ وسلم نضر اللہ عبدا سمع مقالتی فحفظها ودعاها وادا ها فرب حامل فقه غیر فقیه ورب حامل فقه الی من افقه منه

﴿رواه الترمذی وابوداؤد، مشکوة ص٣٧﴾

တမန်တော်မြတ်ﷺ အမိန့်ရှိသည်မှာ ထိုသူ့အား အလ္လာဟ်အသျှင် ရွှင်လန်းသာယာစွာ ထားတော်မူပါစေ ၎င်းသူသည်ကား ငါတမန်တော်၏ ဟဒီဆ်တော်များကို မမှားမယွင်း ရလေအောင် ထိန်းသိမ်းစောင့်ရှောက် ကျက်မှတ်ပြီးနောက် အခြားသူတို့ထံ ပို့ချသူဖြစ်၏။ ထိုသို့ပို့ချသူ အမြောက်အမြားတို့သည်ကား ဖွေကာဟ် ပညာရှင်များ မဟုတ်ကြချေ။ မြောက်မြားစွာသော တဆင့်ပို့ချသူတို့သည် မိမိထက်အရည်အချင်း ပိုမိုရှိသူများထံသို့ ပို့ချကြကုန်၏။ (မစ်ရှ်ကာသ်–၂၇)

ဤသို့ ဟဒီဆ်တော်လာ အမိန့်တော်အရ စွဟာဗိကြီးများတွင် ဓမ္မသတ် အဆုံးအဖြတ်ပေးနိုင်သော စွဟာဗီတို့မှာ အနည်းငယ်သာ ရှိကြောင်းနှင့် ဖတ္တဝါ အဆုံးအဖြတ်ပေးနိုင်သူတို့၏ အဆုံးအဖြတ်ကို ကျန်စွဟာဗီအားလုံးတို့က နောက်လိုက်ပြု နာခံရကြောင်း သိရှိရသည်။

ထိုခေတ်ကာလတွင် မတ်စ်အလာ တစ်ခုသည် စာအုပ်စာတန်း၌ ရေးသားထားခြင်းမရှိသဖြင့် မတ်စ်အလာ တစ်ခုကို သိလိုသူတို့သည် ဓမ္မသတ် အဆုံးအဖြတ်ပေးနိုင်သူထံ ခရီးမည်မျှပင် ဝေးလင့်ကစား သွားရောက် မေးမြန်းကြရကုန်၏။

အေမာမ်အဗူဟာနီဖွာသခင်နှင့် ကျန် အေမာမ်ကြီးများအပေါ်၌ အလ္လာဟ်အသျှင်၏ မဟာကရုဏာတော်နှင့် မင်္ဂလာအပေါင်းကျရောက်ပါစေ၊ ထိုပုဂ္ဂိုလ်ကြီးများက လိုအပ်သော (မတ်စ်အလာ) ဥပဒေအားလုံးတို့ကို အမှားအယွင်း နည်းပါးသော အကောင်းဆုံးသောခေတ်တွင်ပင် ကြိုးစား၍ စစ်ဆေးစိစစ်ပြီး အဆုံးအဖြတ်ပေးကာ ထို(မတ်စ်အလာ) ဥပဒေများကို ကျမ်းစာအဖြစ် စာအုပ်စာတမ်း၌ ရေးသားပြုစု ထားခဲ့ခြင်းကြောင့် ကျွန်ုပ်တို့ နောင်လာနောက်သားများမှာ ချက်ပြုတ်ပြီးထမင်းဟင်းကို အဆင်သင့် စားသုံးရသကဲ့သို့ပင် လွယ်လင့်တကူ အကျိုးခံစားခွင့်ရရှိကြကုန်၏။

မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်က မိမိအလိုတော်ဖြင့် စွဟာဗဟ်ကြီးများအားလုံးအတွင်းမှ တမန်တော်မြတ်ﷺ ၏ လမ်းစဉ်ကို တသဝေမတိမ်း လိုက်နာကျင့်သုံးကြသည့် (ခလီဖွာ) သမ္မတကြီး(၄)ပါးတို့ကို ရွေးချယ်တော်မူသကဲ့သို့ (မတ်စ်အလာ) ဥပဒေထုတ်နှုတ်နိုင်သည့် အရည်အချင်းရှိသူ အပေါင်းတို့အတွင်းမှ

(၁) အေမာမ် အဗူဟာနီဖွာ

(၂) အေမာမ် မာလစ်က်

(၃) အေမာမ် ရှာဖွိအီ

(၄) အေမာမ် အဟ်မဒ်

တို့ကို ဤအွမ္မတ်သားအပေါင်းတို့အတွက် ရွေးချယ်တော်မူခဲ့၏။ ဤသည်ကား အလ္လာဟ်အသျှင်၏ အတိုင်းအဆ မရှိသော မဟာကရုဏာတော် ကျေးဇူးတော်ပင်ဖြစ်၏။

ဤမဇ်ဟဗ် (၄)ပါးကို ဂိုဏ်းဂဏ ကွဲလွဲသည်ဟု မယူဆရချေ။ တမန်တော်မြတ် ﷺ ကြီးက

## اختلاف امتی رحمة

ငါတမန်တော်ﷺ ၏ အွမ္မသ်သားများ ဥပဒေဘောင်အတွင်းမှ မတ်စ်အလာ-အယူအဆ ကွဲလွဲခြင်းသည် ရဟ်မတ်တော် ကျေးဇူးတော် တစ်ရပ်ဖြစ်ကြောင်း မိန့်ကြားတော်မူခဲ့၏။

အကြောင်းမူကား အွမ္မတ်သားများအတွက် လိုက်နာကျင့်သုံးရာတွင် လွယ်ကူမှုနှင့် ကျယ်ဝန်းမှုကို ဖြစ်စေသောကြောင့်ပင်ဖြစ်၏။ ယင်းသို့သော ကျေးဇူးတော်များကို ကျေးဇူးမှန်းမသိ၊ အလ္လာဟ်အသျှင့်အလိုတော်ကို မယုံကြည်သူတို့က ခလီဖွာ သမ္မတကြီးများကိုပင် ကဲ့ရဲ့ ရှုတ်ချ၊ မချေမငံ၊ ပြောရုံသာမက ဆဲရေးတိုင်းထွာမှုကို ပြုကြကုန်၏။ ၎င်းတို့သည် ခါရိဂျီယာ- ရာဖွိဇီယာ အစရှိသော အသင်းများဖြစ်ကြ၏။

ထိုနည်းတူ အေမာမ်ကြီးများကို ကဲ့ရဲ့ရှုတ်ချ အပြစ်တင်ကာ မကောင်းရှာဖွေသူတို့ ပေါ်ပေါက်ခဲ့ချေပြီ။ ယင်းတို့သည်ကား– အဟ်လေ့ကုရ်အာန်၊ အဟ်လေ့ဟာဒီဆ်၊ ဂိုင်ရ် မိုကလ္လစ်ဒ်၊ ပရ်ဝေဇီ အစရှိသူတို့ဖြစ်ကြကုန်၏။ စွဟာဗဟ်တို့အား ဆဲရေးပုတ်ခတ်သူ များနှင့် အေမာမ်ကြီးများအား အပြစ်ရှာဖွေ၍ ကဲ့ရဲ့ရှုတ်ချသူတို့သည် ကျွန်ုပ်တို့ အဟ်လေ့ စွန္နတ် ဝလ်ဂျမာအတ်နှင့် လားလားမျှ မသက်ဆိုင်ချေ။ ၎င်းတို့က ကျမ်းမြတ်ကုရ်အာန်ကို အကျယ်ဖွင့် ရေးသားလျှင် ၎င်းတို့၏ အာဘော်သာဖြစ်သည်။ ၎င်းတို့က ဖတ္တဝါ ဓမ္မသတ် ရေးသားလျှင်လည်း ကျွန်ုပ်တို့နှင့် လုံးဝမသက်ဆိုင်ချေ။

## သူတော်ကောင်းတို့အား အပြစ်ရှာဖွေသူတို့သည် အမျက်တော် စူးရှခြင်းခံရမည်ကို သတိပြုသင့်ကြောင်း

عن ابی عمر قال سمعت علی بن ابی طالب کرم اللہ وجھہ یقول سمعت رسول اللهِ صلی اللہ علیہ وسلم یقول اذا اعرض للہ عن العبد ورثہ الانکار علی اهل الدیانات
﴿مسلسلات صـ ٨٤﴾

**မုစလ်စလာတ်**ခေါ် ဟာဒီဆ်ကျမ်းစာတွင် တမန်တော်မြတ်ﷺ ၏ ဟာဒီဆ်တော်ကို ရေးသားထားသည်မှာ အလ္လာဟ်အသျှင်သည် လူတစ်ဦးအား (အမျက် ဒေါသထွက်၍ စိတ်ဆိုးတော်မူသဖြင့်) မျက်နှာလွှဲ၊ ရှောင်တိမ်းရန် အလိုတော်ရှိပါလျှင် ၎င်းသူကို သူတော်စင် သူတော်ကောင်းများအား (အပြစ်ရှာဖွေကာ) ငြင်းပယ်သော အလုပ်ကို ပြုလုပ်စေတော်မူ၏။ (မုစလ်စလာတ် ၈၄)

ထို့ကြောင့် အေမာမ်အဗူဟာနီဖွာသခင်နှင့် ကျန်သူတော်စင်တို့၏ အကောင်းကို မကြည့်၊ မမြင်ပဲ ချွတ်ယွင်းချက်ကိုသာ လိုက်လံရှာဖွေခြင်း၊ ကဲ့ရဲ့ရှုတ်ချခြင်းမှာ အလ္လာဟ် အသျှင်၏ အမျက်တော် စူးရှခြင်းခံရသော လက္ခဏာ တစ်ရပ်သာဖြစ်သည်။

အေမာမ်အဗူဟာနီဖွာသခင်သည်ကား သာမန် သူတော်စင်ကြီး မဟုတ်ချေ။ ထိုပုဂ္ဂိုလ်၏ (အိဗာဒသ်) ဝတ်ပြုပုံမှာ ကျမ်းမြတ်ကုရ်အာန်ကို ဖတ်ရွတ်၍ ငိုသံကြားရသူ အနီးရှိသူများပင် ဝမ်းနည်းကြေကွဲကြကုန်၏။ အေမာမ်အ(အ)ဇမ်သည် နှစ်ပေါင်း(၄၀)တိုင် အေ့ရှာနမာဇ်၏ ဝုသူဖြင့် ဖွဂျေရ်နမာဇ်ကို ဖတ်တော်မူခဲ့၏။ ဤသို့စွမ်းအား အဘယ်သို့ ရရှိပါသနည်းဟု တစ်ဦးက မေးသောအခါ ၎င်းက ကျွန်ုပ်သည် အလ္လာဟ်အသျှင့်

နာမတော်များအားဖြင့် ဒိုအာတောင်းဆို၍ ဤသို့စွမ်းအားရရှိကြောင်း ဖြေကြား၏။
(ဖွဇာအေလ်ရမဇာန်)

ထို့ထက်ပိုသော **(ကရာမတ်)** ဂုဏ်ထူးတစ်ရပ်မှာ ကမ္ဘာတဝန်းရှိ မွတ်စလင်မ် အပေါင်း အမြောက်အမြားတို့သည် အဗူဟနီဖွာသခင်ကြီး နှစ်ပေါင်း (၁၃၀၀)ကျော်က စိစစ် စစ်ဆေးကာ ပြုစုခဲ့သော ဥပဒေ၊ မတ်စ်အလာများကို ယနေ့တိုင် အကျိုးခံစားလျက် ရှိကြကုန်၏။ ထို အေမာမ်အ(အ)ဇမ်၏ မတ်စ်အလာဥပဒေများသည် မည်မျှ သဘာဝ ကျ၍ ခိုင်လုံကြောင်းကို တွဟာဝီကျမ်းရှင်က ရှင်းလင်းတင်ပြထား၏။ ဤသည်ကား အလ္လာဟ်အသျှင်က (ကိုဘူလ်ပြု) လက်ခံတော်မူကြောင်း သာဓက အထောက်အထား ကြီး **(ကရာမတ်)** ဂုဏ်ထူးကြီး တစ်ရပ်ဖြစ်ကြောင်း ပညာမျက်စိရှိသူ အပေါင်းတို့က ယုံကြည်လေးစားလျက် ကျေးဇူးဥပကာရ တင်ရှိလျက်ပင်ရှိကြ၏။

ထိုအတူ (၃၅)ခန်းကျမ်းပြု ဆရာကြီးဦးနုအား အလ္လာဟ်အသျှင်မြတ် မဟာကရုဏာပြုပါစေ။ ၎င်းဆရာကြီးက ကျွန်ုပ်တို့ ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော်အတွင်း မှီတင်းနေထိုင်ကြကုန်သော မွတ်စလင်မ်အပေါင်းတို့အား လမ်း မမှားကြစေရန် နှစ်ပေါင်းများစွာကပင် ဤသို့ သတိပေး ရေးသားထား၏။

(တရာ့သုံးဆယ်၊ ချယ်လှယ်ဖွရတ်ဇ်၊ ရေးမှတ်လွယ်ကူ၊ သိလိုသူတို့၊ စွဲယူ အီမာန် ခုနှစ်တန်နှင့် အစွလာမ်ငါး လေးပါး ကုရ်စီ၊ လေးလီ မဇ်ဟဗ်) ဟု မဇ်ဟဗ်ရှင် လေးပါးအနက် တစ်ပါးပါး၏ နောက်လိုက်ပြု နာခံခြင်းသည် အရေးကြီးသော (ဖွရတ်ဇ်) တာဝန် တစ်ရပ်ဟု ဖော်ပြခဲ့ခြင်းမှာ အခြားတိုင်းပြည် မြို့ရွာများတွင် ပေါ်ပေါက်နေသော အဟ်လေ့ဟဒီဆ်၊ ဂိုင်ရ်မို့ကလ္လစ်ဒ် အစရှိသည့် မဇ်ဟဗ် လက်မခံကြကုန်သော အသင်း တို့ကို နားမယောင်ကြစေရန် သတိပေးထားခဲ့ခြင်းဖြစ်သည်။

## မဇ်ဟဗ် လက်မခံသူ (ဂိုင်ရ်မို့ကလ္လစ်ဒ်) တို့ပြောဆိုလေ့ရှိသော စောဒကနှင့်ဖြေရှင်းချက်

စောဒက။ ။ ကျွန်ုပ်တို့သည်ကား တမန်တော်မြတ်ﷺ ၏ အမိန့်တော်ကိုသာ နာခံသူများ ဖြစ်ကြသည်။တမန်တော်မြတ်ﷺ ၏ အမိန့်ကို နာခံရမည့် အစား အဗူဟနီဖွာ၏အမိန့် နာခံသူတို့အတွက် အံ့သြစရာပင်။

ကျမ်းမြတ်ကုရ်အာန်နှင့် ဟဒီဆ်တော်တွင် အဗူဟနီဖွာ၏အမိန့် နာခံကြကုန်ဟု အဘယ်မှာပါသလဲ။

**စောဒကာ၏ဖြေရှင်းချက်။** ။ ကျမ်းမြတ်ကုရ်အာန်ကို စ–လယ်–ဆုံး သုံးသပ်ကြည့်သောအခါ ကုရ်အာန်ကို အပြည့်အစုံနာခံသူဖြစ်နိုင်ရန် အခြေခံ မူအားဖြင့် အချက်ကြီး (၄)ခုရှိကြောင်း တွေ့ရှိရ၏။ ယင်းအချက်ကြီး အားလုံးတို့သည် ကျမ်းမြတ်ကုရ်အာန်ပါ အမိန့်တော်၏ ညွှန်ကြားချက်များ ပင်ဖြစ်သည်။ ၎င်းတို့မှာ (၁) ကုရ်အာန်။ (၂) ဟဒီဆ်။ (၃) အစ်ဂျ်မာအ်နှင့် (၄) ကိယာစ်တို့ဖြစ်သည်။ ဤလေးခုလုံးကို တစ်ခုမကျန် နာခံမှ ကျမ်းမြတ်ကုရ်အာန်ကို အပြည့်အစုံ နာခံသူဖြစ်သည်။ ယင်းလေးခုအနက် မည်သည့်အချက်ကိုမဆို မနာခံပဲ ငြင်းပယ်သူသည် ကုရ်အာန်ကိုပင် လက်မခံသူ ဖြစ်သည်။

**(ကျမ်းမြတ်ကုရ်အာန်ကိုနာခံရန် အခြေခံမူ (၄)ရပ်ရှိကြောင်းရှင်းလင်းချက်)**

مَآ اٰتٰـكُمُ الرَّسُوْلُ فَخُذُوْهُ ۚ وَمَا نَهٰكُمْ عَنْهُ فَانْتَهُوْا ۔
وَاَطِيْعُوا اللّٰهَ وَالرَّسُوْلَ لَعَلَّكُمْ تُرْحَمُوْنَ ۔

**(၁) ကုရ်အာန် (၂)ဟဒီဆ်** နှင့် စပ်လျဉ်း၍ အာယတ်တော် လာရှိသည်မှာ

အသင်တို့သည် အလ္လာဟ်အသျှင်၏ အမိန့်တော်ကို နာခံကြကုန်။ ထို့နောက် တမန်တော်မြတ်ﷺ ၏ အမိန့်တော်ကို နာခံကြကုန်။ သို့မှသာလျှင် အသင်တို့သည် သနားကရုဏာ အပြုခံကြရကုန်မည်ဖြစ်သည်။ (ကုရ်အာန် ၁၃၂ ၄–ရကူ ၅)

တမန်တော်မြတ် ﷺ အသင်တို့အား ပေးသနားတော်မူသော တရားဒေသနာတော်ကို လိုက်နာကျင့်သုံးရန် စွဲမြဲစွာ ဆုပ်ကိုင်ထားကြကုန်။ ထိုအတူ တမန်တော်မြတ် ﷺ ပိတ်ပင် တားဆီးသည်ကို မပြုလုပ်ကြလေနှင့်။ (ကုရ်အာန် ၇၂၆ ၂၈–ရကူ ၄)

၃။ **အစ်ဂျ်မာအ်။** ကုရ်အာန်နှင့် ဟဒီဆ်တော်တွင် အတိအလင်း မပါရှိသဖြင့် ပြဿနာ တစ်ခုအတွက် သာသနာ့ပညာရှင်များ၏ စည်းလုံးမှုကို **အစ်ဂျ်မာအ်** ဟုခေါ်သည်။

## အစ်ဂျ်မာအ်နှင့် ပတ်သက်သော (အာယတ်)အမိန့်တော်

وَمَنْ يُّشَاقِقِ الرَّسُوْلَ مِنْ بَعْدِ مَا تَبَيَّنَ لَهُ الْهُدٰى وَيَتَّبِعْ غَيْرَ سَبِيْلِ الْمُؤْمِنِيْنَ نُوَلِّهٖ مَا تَوَلّٰى وَنُصْلِهٖ جَهَنَّمَ ؕ وَسَآءَتْ مَصِيْرًا ۝

اس آیت میں اجماع کے برحق ہونے کا ثبوت ہے اور یہ کہ اجماع کا مخالف گنہگار رہے جیسا کہ احادیث میں آیا ہے، (تفسیر حقانی جلد سوم ۲۲۶)

ဆိုလိုရင်းမှာ–

မည်သူမဆို တရားလမ်းမှန်ကို ထင်ရှားစွာ သိရှိရပြီးနောက် တမန်တော်မြတ်ﷺ၏ လမ်းစဉ်နှင့် ဆန့်ကျင်၍ မွတ်စလင်မ်တို့၏ လမ်းစဉ်ကို စွန့်လွှတ်ကာ အခြားလမ်းစဉ်ကို (အသစ်တီထွင်ပြီး) လိုက်နာကျင့်သုံးပါလျှင် ငါအသျှင်က ၎င်းအား ထိုသူကိုယ်တိုင် ဦးလှည့်သည့်ဘက်သို့ ပြန်လှည့်စေတော်မူမည်။ ထို့နောက် ၎င်းအား ဂျဟန္နမ်ငရဲသို့ ဝင်စေတော်မူမည်။ ၎င်းနေရာသည်ကား အလွန်ဆိုးရွားသော နေရာဌာနဖြစ်သည်။ (ဂျွဇ် ၅–ရကူ ၁၄)

**(ဤအာယတ်တော်တွင် အစ်ဂျ်မာအီအွမ္မတ်မှန်ကန်ကြောင်းပါရှိသည်။)**

ထို့အတူ အစ်ဂျ်မာအ်ကို မနာခံပဲ ဆန့်ကျင်သူသည် ကျမ်းမြတ်ကုရ်အာန်ပါ ညွှန်ကြားချက်ကို မနာခံပဲ ကျူးလွန်သူဖြစ်၍ အပြစ်ဒဏ်ခံရမည့်အကြောင်းပါရှိသည်။ (သဖ်စီးရ်ဟက္ကာနီ တွဲ–၃–၂[illegible]၆)

ယင်းအစ်ဂျ်မာအ်နှင့် စပ်လျဉ်း၍ ဟဒီဆ်တော် ဤသို့လာရှိ၏။

عن ابن عمر قال قال رسول اللہ صلی اللہ علیہ وسلم ان اللہ لا یجمع امتی او قال امۃ محمد علی ضلالۃ و ید اللہ علی الجماعۃ من شذ شذ فی النار وعنہ قال قال رسول اللہ صلی اللہ علیہ وسلم اتبعوا السواد الاعظم فانہ من شذ شذ فی النار وفی الحدیث دلیل علی حقیقۃ اجماع الامۃ المراد اجماع العلماء منھم ولا عبرۃ اجماع العوام

﴿رواہ الترمذی ابن ماجہ ،مشکوۃ﴾

တမန်တော်မြတ် ﷺ အမိန့်ရှိသည်မှာ အလ္လာဟ်အသျှင်မြတ်သည် ငါ၏အွမ္မတ် သားအပေါင်း (ဝါ) သာသနာ့ပညာရှင်များကို လမ်းမှားပေါ်တွင် ဘယ်သောအခါမှ စုစည်းညီညွတ် စေတော်မူမည် မဟုတ်ချေ။ အလ္လာဟ်အသျှင်၏ ကူညီစောင့်ရှောက်မှု သည် စည်းလုံးသော ဂျမာအတ်အပေါ် အမြဲတမ်းရှိ၏။ မည်သူမဆို ယင်းအစည်းအရုံးမှ အပြင်သို့ ထွက်နေလျှင် ငရဲ၌ အချုပ်ခံရမည်။ ဤဟဒီဆ်တော်အရ သာသနာ့ပညာရှင်များ ၏ စည်းလုံးညီညွတ်မှု မှန်ကန်ကြောင်းနှင့် ၎င်းကိုနာခံရန် အရေးကြီးကြောင်း သိရသည်။ **သတိ။** ကုရ်အာန်နှင့်ဟဒီဆ်တွင် အတိအလင်း မပါရှိသော ပြဿနာကိုသာ **အစ်ဂျ်မာအ်** ပြုလုပ်ရသည်။ ကုရ်အာန်နှင့် ခိုင်မာမှန်ကန်သော ဗုခါရီကျမ်းကို ဆန့်ကျင်ပြီး **အစ်ဂျ်မာအ်** အဘယ်မှာ ဖြစ်နိုင်အံ့။

၄။ စတုတ္ထအခြေခံမူသည် (ကိယာစ်)ဖြစ်သည်။ ဆိုလိုရင်းမှာ အထက်ဖော်ပြပါ ကုရ်အာန်၊ ဟဒီဆ်၊ အစ်ဂျ်မာအ်တို့တွင် အတိအလင်း အဆုံးအဖြတ် မတွေ့ရှိရသော အခါ အမျိုးအစား တူညီသော ဥပဒေတစ်ခုကို မူတည်ပြီး ထောက်ထားနှိုင်းယှဉ်၍ အဆုံးအဖြတ် ပေးခြင်းဖြစ်သည်။ ယင်းသို့ (ကိယာစ်)ပြုရာတွင် ဖော်ပြပါ ကုရ်အာန်၊ ဟဒီဆ်၊ အစ်ဂျ်မာအ်တို့ကို မဆန့်ကျင်စေရ။

## ကိယာစ်နှင့်ပတ်သက်၍ လာရှိသောအမိန့်တော်မှာ

فاعتبروا یاولی الابصار

အို အသိတရား ဉာဏ်ပညာရှိသူတို့၊ အသင်တို့သည် အဖြစ်အပျက်တစ်ခုကို မူတည်ထောက်ထားပြီး (ဥပဒေနှိုင်းယှဉ်)စာနာကြည့်ကြကုန်။ (ဂျုဇ် ၂၈-ရကူ ၄)

ولوردوه الی الرسول والی اولی الامر منهم لعلمه الذین یستنبطونه

အကယ်၍ အသင်တို့သည် မသိနားမလည်သော ကိစ္စရပ်များကို တမန်တော်မြတ် ﷺ ထံသို့လည်းကောင်း၊ အရည်အချင်းရှိသော သာသနာ့ပညာရှင်များထံသို့ လည်းကောင်း ပို့ဆောင်မည်ဆိုလျှင် ၎င်းတို့အနက်မှ ဆင်ခြင်သုံးသပ်နိုင်သူတို့သည်

အကြောင်းရင်းကို မုချအားဖြင့် စိစစ်သိရှိကြပေမည်။ (စူရာနီစာအ် ၇၂၈ ၅–ရကူ ၈)
ဤအယတ်တော်သည်ကား ကိယာစ်နှင့် သက်ဆိုင်သည်။

ထို့ကြောင့် ဖော်ပြပါ ကုရ်အာန်၊ ဟဒီဆ်၊ အစ်ဂျ်မာအ်၊ ကိယာစ်တို့သည် အခြေခံ မူရင်းအချက်ကြီးများဖြစ်ကြောင်း သိရှိရပြီးနောက် ၎င်းအခြေခံမှု (၄)ခုအနက် တစ်ခုခုကို လက်မခံ၊ မနာခံသူသည် အမှန်စင်စစ် ကုရ်အာန်ကို လက်မခံသူသာဖြစ်သည်။

## အေမာမ်ကြီး (၄)ပါးအနက် တစ်ပါးပါး၏ နောက်လိုက်ပြုခြင်းသည် အစ်ဂျ်မာအိအွမ္မတ်ဖြစ်ပြီးကြောင်း

اما الاجتهاد المطلق قالوا اقد اختتم بالائمة الاربعة حتى اوجبوا تقليد واحد من هؤلاء على امته ونقل امام الحرمين الاجماع عليه

﴿نوالهدايه ترجمه شرح وقايه﴾

(၁) ရှိုက်ခ်ဂျမာလွတ်ဒီန်း

(၂) ရှိုက်ခ်နဝဝီ

(၃) အိမာမွလ်ဟရမိုင်န် တို့က မိမိတို့ကျမ်းစာများတွင် ရေးသားဖော်ပြထားကြ၏။ မတ်စ်အလာ ဥပဒေ ထုတ်နှုတ်နိုင်သော အရည်အချင်းသည်ကား အေမာမ်ကြီး (၄)ပါးတို့၏ခေတ်တွင် ကုန်ဆုံးခဲ့လေပြီ။ ထို့နောက် ပေါ်ပေါက်လာသူတို့အတွက် အေမာမ် တစ်ပါးပါး၏ နောက်လိုက်ပြု နာခံခြင်းသည် **(ဝါဂျစ်ဗ်)** အရေးကြီးသော တာဝန်တစ်ရပ်ဖြစ်ကြောင်း။ ဤအဆုံးအဖြတ်အပေါ်တွင် **အစ်ဂျ်မာအ်** ဖြစ်ပြီးသည်မှာ ယခုတိုင်ပင်ဖြစ်သည်။

အကြောင်းမူကား ယခုခေတ်အခါတွင် မဟုတ်မမှန် လုပ်ကြံထားသော ဟဒီဆ် အမြောက်အမြား ပေါ်ပေါက်လာခဲ့သည်။ **(နာစစ်(ခ)မန်စူခ်)**ခေါ်မည်သည့် ဟဒီဆ်သည် အမိန့်ပယ်ဖျက်ပြီးဖြစ်သည်။ မည်သည့်ဟဒီဆ်သည် နောက်ဆုံး အတည်ဖြစ် သည်ကို ခွဲခြားဝေဖန်နိုင်သူတို့ မရှိသလောက် ရှားပါးချေပြီ၊ တမန်တော်မြတ် ﷺ ၏ ဟဒီဆ်တော်ကို အမှားနှင့်အမှန် အစစ်နှင့်အတုကို ခွဲခြားဝေဖန်နိုင်သူသည် မရှိတော့ချေ။

ဤအခြေအနေတွင် တမန်တော်မြတ်ﷺ နှင့် အတူနေထိုင်ခဲ့ကြသော စွဟာဗဟ်ကြီးတို့၏ လမ်းစဉ်ကို လက်တွေ့ မြင်တွေ့ခဲ့ရသဖြင့် ပညာမျက်စိ ပါရှိကြကုန်သော အေမာမ်ကြီးများ၏ နောက်လိုက် ပြုရမည့်အစား တမန်တော်မြတ်ﷺ ခေတ်နှင့် နှစ်ပေါင်း (၁၃၀၀)ကျော်မှ ပေါ်ပေါက်လာသဖြင့် ယင်းသို့ ပညာမျက်စိ မပါရှိသူတစ်ဦးဦးကို အထင်ကြီး၍ နောက်လိုက် ပြုကြပါလျှင် မျက်မမြင်သူတို့သည် မျက်မြင်သူ၏ နောက်လိုက်ပြုရမည့်အစား၊ မျက်မမြင်သူ၏ တုတ်ဆွဲရာ နောက်သို့ပင် လိုက်ကြပါလျှင် ချောက်ထဲကျမည်မှာ သေချာလှေတော့၏။

ထို့ကြောင့် တမန်တော်မြတ်ﷺ ၏ လမ်းစဉ်မှန်ကို တိကျမှန်ကန်စွာ သိကြကုန်သော အရည်အချင်းနှင့် ပြည့်စုံကြသော အေမာမ်ကြီးတို့၏ လမ်းပြခြင်းကို လိုက်နာကျင့်သုံးမှ တမန်တော်မြတ်ﷺ ၏ စစ်မှန်သော လမ်းစဉ်ကို နာခံရာ ရောက်မည်ဖြစ်၏။

အမှန်စင်စစ် အဗူဟနီဖွာသခင်၏ အမိန့် နာခံခြင်းမျိုး မဟုတ်ပေ။ ထို့ကြောင့် မဇ်ဟဗ်လမ်းစဉ် လက်မခံသူတို့သည် စင်စစ်သော် အစ်ဂျ်မာအ်နှင့် ပတ်သက်သော ကျမ်းမြတ်ကုရ်အာန်၏ အာယတ်တော်ကို မနာခံသူ၊ ငြင်းပယ်သူ၊ ၎င်းမျက်မြင်၏ လမ်းပြခြင်းကို နာခံရမည့်အစား မျက်မမြင်၏ နောက်လိုက် ပြုသူများသာ ဖြစ်ကြကုန်သည်။

## အေမာမ်ကြီးတစ်ပါး၏ နောက်လိုက်ပြုရန်ရှားဟ်ဝလီယွလ္လာဟ်၏အဆုံးအဖြတ်

ရှားဟ်ဝလီယွလ္လာဟ်သခင်က (ဟွတ်(ဂျ)သွလ္လာဟိလ်ဘာလိဃာဟ်)ကျမ်းတွင် ဤသို့ ရေးသားဖော်ပြထား၏။ ဤနေရာတွင် သတိပေးရန် လိုအပ်နေသော မတ်စ်အလာတစ်ခုမှာ– ယနေ့မြောက်မြားစွာသော အသိဉာဏ်ရှင်တို့သည် လမ်းမှားသို့ ရောက်နေကြကုန်ပြီ။ ယင်းတို့၏ ခြေများသည် လွဲချော်၍ လဲကျကုန်ပြီ။ ကလောင်များလည်း မဖြောင့်မမှန်၊ ကွေ့ကောက်ကုန်ကြပြီ။ ဤသည်ကား အခြားမဟုတ်၊ မဇ်ဟဗ်လေးပါးနှင့် စပ်လျဉ်း၍ဖြစ်သည်။ မဇ်ဟဗ်လေးပါး၏ ကိုးကားချက်များမှာ ရေးမှတ်ပြီးဖြစ်သည်။ ဂန္ထဝင်မှတ်တမ်းတင်ပြီးဖြစ်သည်။ အချို့က တမန်တော်မြတ်ﷺ ၏အမိန့် နာခံရမည့်အစား အေမာမ် တစ်ဦး၏စကားကို နာခံခြင်း မပြုပိုင် (ဟရာမ်)ဟု ဆိုသည်။

သို့ရာတွင် ယနေ့ အွမ္မတ်သား အားလုံးတို့က သို့တည်းမဟုတ် အရည်အချင်းရှိသူ (သာသနာ့ပညာရှင်) အားလုံးတို့က တညီတညွတ်တည်း မဇ်ဟဗ်တစ်ခုခုကို

လိုက်နာခြင်း မှန်ကန်ကြောင်း အဆုံးအဖြတ်ပေးပြီး (အစ်ဂျ်မာအိအွမ္မတ်) ဖြစ်သည်။

ၑင်းတွင် မြောက်မြားစွာသော အကျိုးအာနိသင်များ ပါဝင်လျက်ရှိသည်။ သို့ ပြုလုပ်ပိုင်ရုံသာမက ယခုခေတ်အခါတွင် အလွန်ပင် အရေးကြီးသည်။ အဘယ်ကြောင့် ဆိုသော် ယနေ့ လူအများစုသည် မိမိတွင်ရှိသည့် အနည်းငယ်မျှသော အသိပညာ၊ ယူဆချက်ကိုပင် အထင်ကြီးနေကြပြီ။ ၑင်းတို့သည် တရားတော်၏အမိန့် နာခံရမည့် အစား မိမိတို့၏ စိတ်ရိုင်း အလိုရှိရာကိုသာ ဦးစားပေးနေကြပြီ။

ဘာသာ–သာသနာရေး အသိပညာလည်း လျော့နည်း ခေါင်းပါးသွားချေပြီ။ ထို့ကြောင့် အေမာမ်တစ်ပါး၏ နောက်လိုက်ပြု နာခံခြင်းသည် ဟရာမ်ဖြစ်သည်ဆိုခြင်း မှားသည်၊ မမှန်ကန်၊ အဓိပ္ပါယ်မရှိ၊ အကြောင်းမဲ့သာဖြစ်သည်။

ရှားဟ်ဝလီယွလ္လာဟ်သခင်က (ဖုယူဇွလ်ဟရမိုင်းန်)ကျမ်းတွင် ရေးသားဖော်ပြ ထားသည်မှာ– ကျွန်ုပ်အား တမန်တော်မြတ်ﷺ ၏ လေးနက်သော မိန့်ကြားချက်ကြောင့် ကျွန်ုပ်သည် မိမိ၏ စိတ်အလိုဆန္ဒကို စွန့်လွှတ်ခဲ့ရသည်။

ၑင်းတို့အနက် တစ်ခုမှာ–

(ကျွန်ုပ်သည် မိမိ၏ ပညာတတ်ကျွမ်းမှုကြောင့် မိမိအတွက် အေမာမ်တစ်ပါး၏ နောက်လိုက်ပြု နာခံခြင်းကို အရေးမကြီးဟု ယူဆခဲ့လေရာ (အိပ်မက်တွင်) တမန်တော် မြတ်ﷺ က အေမာမ်(၄)ပါးအနက် တစ်ပါးပါး၏ နောက်လိုက်ပြု နာခံခြင်းမှ အပြင်သို့ ထွက်ရောက်ခြင်းကို လေးနက်စွာ တားဆီးတော်မူသဖြင့် မိမိ၏ အလိုဆန္ဒကို စွန့်လွှတ် ခဲ့ရ၏။



# ဒုတိယပိုင်း

## မဇ်ဟဗ်လမ်းစဉ်ကို လက်ခံကျင့်သုံးရန် (ဝါဂျစ်ဗ်) တာဝန်ဖြစ်ခြင်း ရှင်းလင်းချက်

اِتَّبِعۡ سَبِيۡلَ مَنۡ اَنَابَ اِلَیَّ ﴿سوره لقمان﴾

အသင်သည် ငါ(အလ္လာဟ်)အသျှင့် ဘက်တော်သို့ လှည့်နေသူတစ်ဦး၏ လမ်းစဉ်ကို နောက်လိုက်ပြု နာခံလော့ဟု ကျမ်းမြတ်ကုရ်အာန်တွင် ဗျာဒိတ်တော်ပါရှိ၏။

မည်သည့်မဇ်ဟဗ်ကိုမျှ လက်မခံလျှင် ကျမ်းမြတ်ကုရ်အာန်၏ အမိန့်တော်ကို နာခံရမည့်အစား မိမိစိတ်ဆန္ဒ အလိုရှိရာကိုသာ နာခံသူ ဖြစ်ချေမည်တည်း။

عن بن سيرين قال ان هذا العلم دين فانظروا عمن تأخذون دينكم

﴿رواه مسلم كتاب العلم ، مشكوة صـ ٣٧﴾

အစ်ဗနုစီရီးန် ﷺအမိန့်ရှိသည်မှာ ဤပညာရပ်များသည် သာသနာရေးရာဖြစ်၍ မိမိတို့သာသနာရေးကို မည်ကဲ့သို့သောသူထံမှ ရယူနေကြသည်ကို ဝေဖန်သုံးသပ်ပြီးမှ လက်ခံကြကုန်။ ဤအမိန့်တော်အရ မှားယွင်းသောအသင်း (၇၂)သင်း ပေါ်ပေါက်ခဲ့ပြီး ဖြစ်လေရာ အမှားနှင့်အမှန်ကို သာမန်လူတစ်ယောက်အနေနှင့် မဝေဖန်နိုင်လောက်အောင် အဖျက်သမားများ ပေါ်များနေသဖြင့် သာသနာတော်ကို ပြုပြင်ပြောင်းလဲ ပြင်ဆင်သူတို့၏ နောက်လိုက်ပြု နာခံခြင်းထက် ယင်း(၇၂)သင်း မပေါ်မီ အဖျက်သမား နည်းပါးသောခေတ်၊ အကောင်းဆုံးခေတ်**(ခိုင်ရွလ်ကုရူန်း)**တွင် ပေါ်ပေါက်ခဲ့သော အေမာမ်အဗူဟာနီဖွာ ﷺ သခင်နှင့် အေမာမ်ကြီးများ၏ လမ်းစဉ်ကို နောက်လိုက်ပြု နာခံမှသာလျှင် လမ်းစဉ်မှန်ကန် ချေမည်တည်း။

အထက်ဖော်ပြပါ အာယတ်တော်တွင် အလ္လာဟ်အသျှင့်အလိုတော် အမိန့်တော်ကို ဦးတည်ဆောင်ရွက်သူ၊ စစ်မှန်သော ပညာရှင်တစ်ဦး နောက်လိုက်ပြု နာခံခြင်း

အရေးကြီး လိုအပ်ကြောင်း ဖော်ပြထားပေသည်။ ဤသည်ကား အလ္လာဟ်အသျှင်၏ အမိန့်တော်တစ်ရပ်ပင်တည်း။

ရှရီအတ်တရားတော်၏ ပညတ်တော်များတွင် ဝါဂျစ်ဗ် နှစ်မျိုးနှစ်စားရှိ၏။ ၎င်းတို့မှာ (၁) ဝါဂျစ်ဗ် ဇစ်ဇာသ်၊ (၂) ဝါဂျစ်ဗ် ဗျေလ်ဂိုင်ရ် ဖြစ်သည်။

(၁) ပထမအမျိုးသည် နမာဇ် ရိုဇာတို့ကဲ့သို့သော အမိန့်မျိုးဖြစ်သည်။

(၂) ဒုတိယအမျိုးမှာ နမာဇ် ရိုဇာကဲ့သို့ မဟုတ်ငြားသော်လည်း အခြားနည်းအရ တာဝန် တက်ရောက်လာခြင်းမျိုးကို ဆိုလိုသည်။ ပမာဆိုသော် ကျမ်းမြတ်ကုရ်အာန်ကို ပျက်စီးခြင်းမှ ကာကွယ်ရန် စာအုပ်စာတမ်း၌ ရေးသားခြင်းတို့ကဲ့သို့သော တာဝန်မျိုးဖြစ်သည်။ ၎င်းသည်ကား တမန်တော်မြတ်ﷺ ခေတ်တွင် မပြုလုပ်ခဲ့ရပေ။ သို့ရာတွင် အုမရ် ﷺသခင်က အဗူဗကရ်ﷺသခင်ထံ ချဉ်းကပ်၍ ကျမ်းမြတ်ကုရ်အာန်ကို စုဆောင်းရေးသားရန် ဇိုက်ဒ်ﷺကို အမိန့်ပေးပါဟု ပြောဆိုလေရာ အဗူဗကရ်ﷺသခင်က တမန်တော်မြတ်ﷺ မပြုလုပ်ခဲ့သည်ကို ကျွန်ုပ်အဘယ်သို့ ပြုလုပ်ရမည်နည်းဟု အဖြေပေးခဲ့၏။

ထိုအခါ အုမရ်ﷺသခင်က (ယမာမဟ်)စစ်ပွဲတွင် ဟာဖွဇ်အများဆုံး ကျဆုံးလေသဖြင့် ဤနည်းအတိုင် တဖန် စစ်ဖြစ်ရလျှင် ကုရ်အာန်ပင်ပျောက်ကွယ်မည်ကို ကျွန်ုပ်မှာ အလွန် စိုးရိမ်ချက်ဖြစ်နေပြီဟု အကြိမ်ကြိမ် ပြောသဖြင့် အဗူဗကရ်ﷺသခင်လည်း နှလုံးပွင့် သဘောပေါက်လာပြီး ကျမ်းမြတ်ကုရ်အာန်ကို စုဆောင်းရေးသားရန် အမိန့်ပေးခဲ့လေသည်။

အရေးကြီးသော ကိစ္စတစ်ရပ်သည် အခြားကိစ္စတစ်ခုအပေါ် မူတည်နေပါလျှင် ၎င်းကိစ္စလည်း အရေးကြီးသောကိစ္စ ဖြစ်သွားချေ၏။ ဤသည်ကိုပင် (ဝါဂျစ်ဗ် ဗျေလ်ဂိုင်ရ်) ဟုခေါ်သည်။ မဇ်ဟဗ်တစ်ခုခုအား နောက်လိုက်ပြု နာခံခြင်းသည် ဒုတိယအမျိုး အစားတွင် ပါဝင်သည်။

## ရှင်းလင်းချက်

လူတိုင်းတွင် မိမိတို့ သာသနာရေးကိစ္စ နစ်နာဆုံးရှုံး ပျက်စီးခြင်းမှ ကာကွယ်ရန် တာဝန်ရှိ၏။ သို့ကာကွယ်နိုင်ရန် အထူးသတိပြု မှတ်သားထားရမည့် အချက်ကြီးများမှာ

၁။ မည်သည့်ကိစ္စကိုမဆို ပြုလုပ်ဆောင်ရွက်သောအခါ ၎င်းနှင့် ပတ်သက်

သော အလ္လာဟ်အသျှင့် အမိန့်တော်ကိုနာခံ၍ အလ္လာဟ်အသျှင် နှစ်သက်တော်မူစေရန် တစ်ခုတည်းသော (နီယတ်) ရည်စူးချက် မှန်ကန်စေရမည်။

၂။ မိမိစိတ်အလိုဆန္ဒနှင့် သာသနာ့အမိန့် မကိုက်ညီပဲ ဆန့်ကျင်လာလျှင် စိတ်အလိုဆန္ဒကို စွန့်ပယ်နိုင်ရမည်။ (သာသနာ့အမိန့်ကို စိတ်ဆန္ဒအလို၏ နောက်လိုက် မဖြစ်စေရ) သို့မဟုတ်က အလ္လာဟ်အသျှင်ကို ကိုးကွယ်ရမည့်အစား မိမိစိတ်ရိုင်းကိုသာ ကိုးကွယ်သူဖြစ်မည်။

၃။ မိမိ၏သာသနာရေးတွင် ချွတ်ယွင်းစေမည့် အနှောင့်အယှက် ဖြစ်မည်ကို စိုးရိမ်ရလျှင် ၎င်းကို ရှောင်ကြဉ်နိုင်ရမည်။

၄။ (အစ်ဂ်ျမာအီအွမ္မတ်) ခေါ် သာသနာ့ပညာရှင်အများစု၏ တညီတညွတ်တည်း ဆုံးဖြတ်ချက်ကို ဆန့်ကျင်မှု မပြုလုပ်ရ။

၅။ ရှရာအ် တရားတော်၏ အမိန့်ကို နာခံခြင်းမှ မိမိကိုယ်ကို အပြင်သို့ မထွက်ရောက်စေရ။

## ပါကစ္စတန်နိုင်ငံ မွတ်ဖတီချုပ်၏အဆုံးအဖြတ်

فتاوی دار العلوم دیوبند

سوال؛ شخصیکہ تقلید را گمراہی گوید آنچہ حکم دارد؟

جواب؛ آں کس کہ رتبۂ اجتہاد نہ دارد تقلید عالم و مجتہد کردن براو واجب است بنص قرآن فاسئلوا اہل الذکران کنتم لاتعلمون (سورۂ نساء) تقلید بر دو نوع مشتمل ست شخصی وغیر شخصی الخ در رسالہ الاقتصاد مذکور ست ایں حکم اصل مسئلہ ہست لیکن درین زمانہ کہ غلبہ ھوائے نفسانی عام گشتہ جمہور علماء اتفاق کردن کہ ازیں دو قسم اقتصار بر قسم اول واجب ست تا کہ تلعب بالدین۔ واتباع ھوائے نفس در پردۂ دین مذہب انسان نہ شود حاصل کلام انیست کہ تقلید امام متعین درین زمانہ نزد جمہور علماء واجب ست ترک او اثم وگناہ واللہ اعلم (محمد شفیع غفرلہ ۱۳۵۱)

အေမာမ်ႀကီးမ်ား၏ ေနာက္လိုက္ျပဳျခင္းကို လမ္းမွားဟု ေျပာဆိုသူတို႔ကို ေအာက္ပါအတိုင္း အေျဖေပးထား၏။

## ေျဖ႐ွင္းခ်က္

အစ္(ဂ္)ေသ့ဟာဒ္၏ အရည္အခ်င္း အဆင့္အတန္း မ႐ွိသူတို႔အတြက္ အာလင္မ္ မြတ္ဂ်္သဟစ္ဒ္ တစ္ပါးပါး၏ ေနာက္လိုက္ျပဳနာခံျခင္းသည္ (ႆူရဲ ၁၄-ရကူ ၁၂) ပါ အာယတ္ေတာ္ (အကယ္၍ အသင္တို႔သည္ အစၥလာမ္တရားဥပေဒကို မသိနားမလည္ ၾကလွ်င္ တရားဥပေဒ တတ္ကၽြမ္းေသာ သာသနာ့ပညာ႐ွင္မ်ားထံ ေမးျမန္းၾကရန္) ဟူေသာ အာယတ္ေတာ္အရ **(ဝါဂ်စ္ဗ္)** တာဝန္ျဖစ္သည္။

ယခုေခတ္ကာလတြင္ လူတိုင္းသည္ မိမိ၏ စိတ္ဆႏၵကို လိုက္စားလိုေသာစိတ္ လႊမ္းမိုးေနခ်ိန္ျဖစ္သျဖင့္ သာသနာ့ပညာ႐ွင္ အေပါင္းတို႔က အေမာမ္တစ္ပါးပါ၏ ေနာက္လိုက္ျပဳျခင္းကို **ဝါဂ်စ္ဗ္** တာဝန္ျဖစ္သည္ဟု ဆုံးျဖတ္ၾက၏။ အေၾကာင္းမူကား

(က) သာသနာေတာ္အမိန္႔ လိုက္နာက်င့္သုံးရာတြင္ ကေလးကစားသကဲ့သို႔ (ယခု တမ်ိဳး ခဏေနတဖုံ) ကစားစရာ ျပဳလုပ္ရာ မေရာက္ေစရန္ႏွင့္

(ခ) သာသနာ့ပုံသဏၭာန္ကို အေျခခ်ကာ မိမိစိတ္အလိုဆႏၵ လိုက္စားေသာ လမ္းစဥ္၊ ဝါဒသည္ လူသားတို႔၏ ဝါဒလမ္းစဥ္ မျဖစ္ေစရန္အတြက္ ပင္ျဖစ္သည္။

ထို႔ေၾကာင့္ အြမ္မတ္၏ ေခါင္းေဆာင္ သာသနာ့ပညာ႐ွင္ အေပါင္းတို႔က အေမာမ္ တစ္ပါးပါး၏ ေနာက္လိုက္ျပဳျခင္းကို **ဝါဂ်စ္ဗ္** မလုပ္မေနရေသာ တာဝန္ျဖစ္ေၾကာင္း၊ ၎င္းကို စြန္႔လႊတ္ျခင္းသည္ မေကာင္းမႈဒုစ႐ိုက္ အျပစ္က်ဴးလြန္ျခင္း ျဖစ္ေၾကာင္း ဆုံးျဖတ္ ၾကသည္။

ေမာ္လာနာ မိုဟမၼဒ္႐ွဖီအ္
ဖတ္သာဝါ ဒါ႐ုလ္အိုလူမ္-အတြဲ ၂ စာမ်က္ႏွာ ၈



# တတိယပိုင်း

## မဇ်ဟာဗ်လမ်းစဉ် လက်မခံခြင်း၏ ဘေးအန္တရာယ်များ

ယနေ့အခြေအနေအရ တစ်ဦးတစ်ယောက်က ငါတို့သည်လည်း ကုရ်အာန် အဓိပ္ပါယ်ကို နားလည်ကြသည်၊ မစ်ရှ်ကာသ်၏ အဓိပ္ပါယ်ကို သိကြသည်ဟု မိမိကိုယ်ကို (မွတ်ဂျ်သဟစ်ဒ်) ထင်မှတ်ကာ ထင်ရာမြင်ရာ ယူဆပါက အမှောက်မှောက် အမှားမှား ဖြစ်ချေမည် မလွဲတည်း။

ဥပမာ။ ။

(၁) ယနေ့ ကုလားအုတ်ခေတ်မဟုတ်၊ ဒုံပျံခေတ်ဖြစ်သဖြင့် ခရီးသည် အတွက် နမာဇ်ကို ကစွရ်ဖတ်ရန်မလိုဟု ယူဆမည်။

(၂) ဝိုသူပြုခြင်းမှာ နွား၊ ဆိတ်၊ ကုလားအုတ် အစရှိသည်တို့နှင့် အတူနေ၊ လူးပေနေခြင်းကြောင့်သာဖြစ်သည်။ ငါတို့သည်ကား တိုက်အိမ် ဂေဟာများတွင် သန့်ရှင်းစွာ နေထိုင်သူများဖြစ်သဖြင့် ဝိုသူမပြုပဲ နမာဇ် ဖတ်ပိုင်သည်ဟု ယူဆမည်။ ယင်းသို့ အယူအဆမျိုးသည် ကုရ်အာန်နှင့် **အစ်ဂျ်မာအ်**ကို ဆန့်ကျင်စေသည်။

(၃) ထို့အတူ အချိန် ကန့်သတ်ခြင်းမရှိသော တွလာက် ကွာရှင်းခြင်းကို အချိန်ကန့်သတ်ချက်ရှိသော (နမာဇ်၊ ရိုဇာ၊ ဟဂ်ျ)တို့နှင့် (ကိယာစ်လုပ်) နှိုင်းယှဉ်ကြပါလျှင် ဤသည်ကား ရှရာအ်တရားတော် ဖော်ပြပါ နည်းဥပဒေများကို ဆန့်ကျင်စေသဖြင့် ဥပဒေ နားမလည်သူတို့ကို လမ်းမှားစေသည့် လုပ်ရပ်မှား တစ်မျိုးပင်။

(၄) တစ်ဦးတစ်ယောက်က တခါတရံ အေမာမ်တစ်ပါး၏ နောက်လိုက်ပြုပြီး တခါတရံ အခြားအေမာမ်၏ နောက်လိုက်ပြုမည်ဆိုလျှင် လေ့နှံနှစ်ဘက်နင်းသူဖြစ်မည်။ စိတ်အလိုဆန္ဒရှိရာကိုသာ နာခံသူဖြစ်မည်။ ပမာဆိုသော် ဝိုသူပြုပြီးနောက် သွေးယိုစီး ထွက်လာပါက အေမာမ် အဗူဟနီဖွာသခင်ထံ ဝိုသူပျက်စေ၍ အေမာမ်ရှာဖွေအီထံတွင် ဝိုသူ မပျက်သဖြင့် ၎င်းက အေမာမ်ရှာဖွေအီ မဇ်ဟာဗ်ကို နာခံသည်ဆိုကာ ဝိုသူပြန် မပြုပဲနေ၏။ ထို့နောက် မိမိဇနီးကို (ရှဟ်ဝတ်)စိတ်နှင့် ထိကိုင်လိုက်၏။ ဤသို့ ထိကိုင်ခြင်း သည် အေမာမ်ရှာဖွေအီထံတွင် ဝိုသူပျက်စေ၍ အေမာမ်အဗူဟနီဖွာထံတွင် ဝိုသူ မပျက် ပေ။ ထိုအခါ ၎င်းက ဝိုသူ ပြန်မပြုချင်သဖြင့် ဤမတ်စ်အလာတွင် အေမာမ် အဗူဟနီဖွာ သခင်၏ မဇ်ဟာဗ်ကို လိုက်နာသည်ဟုဆိုလျှင် အေမာမ်နှစ်ပါးလုံးထံတွင် ဝိုသူ ပျက်ပြီး

ဖြစ်သဖြင့် တစ်ဦးတစ်ယောက်ထံတွင်မျှ ၎င်း၏နမာဇ် မပိုင်တော့ချေ။

ဤသို့ ပြုလုပ်သူသည်ကား (အစ်ဂျ်မာအ်)ကို ဆန့်ကျင်မှု ပြုရုံသာမက စိတ်ဆန္ဒ၏အမိန့် နာခံသူသာဖြစ်သည်။ အလ္လာဟ့်အမိန့် နာခံရာ မရောက်တော့ချေ။ ယင်းသို့ မဇ်ဟဗ်ရှင် တစ်ပါးပါး၏ လမ်းစဉ်ကို တည်တံ့စွဲမြဲစွာ လိုက်နာကျင့်သုံးရမည့်အစား မိမိစိတ်၏ဆန္ဒ စေခိုင်းရာကိုသာ နာခံသူဖြစ်မည်။

## စိတ်အကြိုက်လိုက်စားသူသည် မိမိစိတ်ကိုသာ ကိုးကွယ်သူဖြစ်ကြောင်း ရှင်းလင်းချက်

اَفَرَأَيْتَ مَنِ اتَّخَذَ اِلٰهَهٗ هَوَاهُ وَاَضَلَّهُ اللّٰهُ عَلٰى عِلْمٍ

سو کیا آپ نے اس شخص کی حالت نہیں دیکھی جس نے اپنا خدا اپنی خواہش نفسانی کو بنا رکھا ہے اور خدائے تعالیٰ نے اس کو باوجود علم اور سمجھ کے گمراہ کر دیا ہے (تفسیر حقانی)

قال رسول اللہ صلی اللہ علیہ وسلم الھوی عند اللہ ابغض من جمیع الالھۃ

جن خداؤں کو زمین میں لوگ پوجتے ہیں اللہ کے نزدیک ان سب میں بدتر ان کی خواہش ہے افرایت من اتخذ الاھہ ھواہ یعنی کیا نہیں دیکھتے ہو تم اسے محمد صلی اللہ علیہ وسلم اسے جس نے اپنے خواہش کو اپنا خدا ٹھرایا ہے۔ اور وہ بیچارہ سمجھتا ہے کہ خدا کا بندہ ہوں اور حدیث شریف میں آیا ہے تعس عبد الدرھم وتعس عبد الزوجہ یعنی ہلاکت میں پڑا سونے چاندی کا بندہ زن فرزند کا بندہ بے شک جو جس کا بندہ ہوتا ہے اسی چیز کو پوجتا ہے، (تفسیر قادری ج ۱۔ ۷۳)

အာယတ်တော်တွင် ဤသို့လာရှိ၏။

အသင်သည် ဖန်ဆင်းတော်မူသောအသျှင် (အလ္လာဟ်)ကို ကိုးကွယ်ရမည့်အစား မိမိ၏စိတ်ရိုင်းကို ကိုးကွယ်နေသူအား မြင်ဖူးတွေ့ဖူးပါသလား။၎င်းကို အလ္လာဟ်အသျှင်က အသိပညာ ပေးသနားတော်မူပြီးနောက် လမ်းမှားသို့ ရောက်စေတော်မူ၏။ (ကုရ်အာန်)

စွဟာဗီကြီး အဒီဗင်နှ်ဟာတင်မ်ﷺသည် ခရစ်ယာန် ဘာသာဝင်တစ်ဦးဖြစ်ခဲ့၏။ ၎င်းသည် အလ္လာဟ်အသျှင့်အလိုတော်ဖြင့် မွတ်စလင်မ်ဖြစ်လာသောအခါ

اِتَّخَذُوْا اَحْبَارَهُمْ وَرُهْبَانَهُمْ اَرْبَابًا مِّنْ دُوْنِ اللّٰهِ ﴿سورۃ توبہ﴾

ယဟူဒီ၊ နစ္စာရာတို့က သာသနာ့ပညာရှင်များကို ကိုးကွယ်ခြင်း ခံထိုက်သော အသျှင်အဖြစ် ပြုလုပ်ကြသည်ဟူသော အာယတ်တော်၏ အလိုသဘောကို မရှင်းလင်းသဖြင့် ဤသို့မေးလျှောက်၏။

**အဒီ–** ယာ ရစူလလ္လာဟ် ﷺ ကျွန်တော်တို့ ခရစ်ယာန် ဘာသာဝင်တို့သည် အလ္လာဟ်အသျှင်ကို ကိုးကွယ်ရမည့်အစား မိမိတို့ သာသနာ့ ပညာရှင်များကို မကိုးကွယ်ကြပါ။ ထို့ကြောင့် အထက်ပါ အာယတ်တော်သည် အဘယ်သို့ မှန်ကန်နိုင်ပါမည်နည်း။

**တမန်တော်မြတ်–** ﷺ က ဖြေကြားရာတွင် အသင်တို့၏ ပညာရှင်များသည် အလ္လာဟ်အသျှင်မြတ်က စားသုံးပိုင်ခွင့် ပြုထားသော ဟလာလ်ကို (ဟရာမ်) စားသုံးပိုင်ခွင့်မရှိဟု ဆုံးဖြတ်ပြောဆိုသောအခါ အသင်တို့က ၎င်းတို့၏ ဆုံးဖြတ်ချက်ကို နာခံကြသည် မဟုတ်ပါသလော ဟု မေးတော်မူ၏။

**အဒီ–** ထိုအခါ အဒီဗင်န် ဟာတင်မ် ﷜က ဟုတ်ကဲ့၊ ဒီလိုတော့ နာခံကြပါသည်ဟု ဖြေကြား၏။

**တမန်တော်မြတ်–** ထိုအခါ တမန်တော်ﷺက ဤသည်ပင်လျှင် ၎င်းတို့ကို ကိုးကွယ်ရာရောက်သည်ဟုမိန့်ကြားတော်မူ၏။

(မအာရေ့ဖွလ်ကုရ်အာန်–၂၉)

ထို့ကြောင့် အလ္လာဟ်အသျှင်၏ အမိန့်တော်ဥပဒေနှင့် ဆန့်ကျင်ပြီး တစ်ဦးတစ်ယောက်၏ အမိန့်ကိုနာခံခြင်းသည် ၎င်းအား ကိုးကွယ်ရာ ရောက်သကဲ့သို့– အလ္လာဟ်အသျှင့် အမိန့်တော်ကို နာခံရမည့်အစား စိတ်၏အလိုဆန္ဒရှိရာ နာခံလိုက်စားခြင်းသည်လည်း စိတ်ကို ကိုးကွယ်ရာရောက်၏။

အချုပ်အားဖြင့် ဆိုလိုသည်မှာ မတ်စ်အလာ ဥပဒေထုတ်နုတ်နိုင်သော အရည်အချင်းသည် အေမာမ်ကြီးလေးပါးခေတ်တွင် ကုန်ဆုံးခဲ့လေပြီဟု အဆုံးအဖြတ် ရှိနေပါလျက် ယနေ့တစ်ဦးတစ်ယောက်က မည်သည့်အေမာမ်၏ အဆုံးအဖြတ်ကိုမှ မနာခံဟုဆိုလျှင် လမ်းမှားကြမည်သာတည်း **(၎င်း၏ဘေးအန္တရာယ်များမှာ)**

(၁) အစ်ဂျမာအိအွမ္မတ်–ခေါ် သာသနာ့ပညာရှင်တို့၏ တညီတညွတ်တည်းသော အဆုံးအဖြတ်ကို ငြင်းပယ်သူ ဖြစ်မည်။

(၂) ကျမ်းမြတ်ကုရ်အာန်ပါ အမိန့်တော်ကို နာခံခြင်းမှ အပြင်သို့ ထွက်ရောက်မည်။

(၃) အလ္လာဟ်အသျှင်အမိန့် သာသနာအမိန့် နာခံရမည့်အစား မိမိစိတ်၏ အမိန့်ကိုသာ လိုက်နာသူဖြစ်မည်။ စိတ်အကြိုက်လိုက်စားသူသည် ဖော်ပြပါ အာယတ်တော်အရ ၎င်းသူ၏ကိုးကွယ်သောအရှင်သည်ကား အလ္လာဟ်အသျှင် မဟုတ်၊ သူ၏ စိတ်ရိုင်းသာဖြစ်သည်။

(၄) ထိုအခါ ၎င်းသူက ကျွန်ုပ်၏ (**နီယတ်**) ရည်စူးချက်သည် အလ္လာဟ်အသျှင်နှစ်သက်စေရန် ဖြစ်ပါသည်ဟု ပြောဆိုလို့မရတော့ချေ။ ပြောဆိုလျှင်လည်း အဓိပ္ပါယ်မရှိချေ။

ဤသည်ကား သာသနာရေးတွင် ကြီးလေးသော ချွတ်ယွင်းချက် ဖြစ်သဖြင့် လူတိုင်းတွင် မိမိတို့ယုံကြည်လေးစား ပြုလုပ်သော သာသနာရေးရာ ဆုံးရှုံးနစ်နာခြင်း၊ ပျက်စီးခြင်းမှ ကာကွယ်ရန် တာဝန်ရှိသည်။

**ထိုသို့တာဝန်ရှိကြောင်းကို သာသနာ့ပညာရှင်များက မဇ်ဟဗ်လေးပါး အနက် တစ်ပါးပါး၏ နောက်လိုက်ပြုခြင်းကို (ဝါဂျစ်ဗ်) တာဝန်ဖြစ်သည်ဟု အဆုံးအဖြတ် ပေးထားခြင်းဖြစ်သည်။**

## (အထူးသတိပြုရန်)

တမန်တော်မြတ်ﷺ ခေတ်နှင့် နှစ်ပေါင်း(၁၃၀၀)ကျော်မှ ပေါ်ပေါက်လာသူတို့တွင် တမန်တော်မြတ်ﷺ ၏ လမ်းစဉ်၊ စစ်မှန်သောတရားကို တိကျမှန်ကန်စွာ ဝေဖန်သုံးသပ်နိုင်သော ပညာမျက်စိ မပါရှိနိုင်ချေ။ အကြောင်းမူကား ဟဒီဆ်တော်များတွင် လုပ်ကြံသောဟဒီဆ်၊ လွဲချော်တိမ်းစောင်း မှားယွင်းသော ဟဒီဆ်တု အမြောက်အမြား ပေါ်ပေါက်လာသဖြင့် အမှားနှင့်အမှန် အစစ်နှင့်အတုကို ခွဲခြားဝေဖန်ရန် ခဲယဉ်းသည်က တကြောင်း၊ တမန်တော်မြတ်ﷺ ၏ ဟဒီဆ်တော်မြတ်တွင် (နာစစ်ခ်နှင့် မန်စူးခ်)ရှိသဖြင့် နောက်ဆုံးဟဒီဆ်တော်သာ အတည်ဖြစ်၍ မည်သည့်ဟဒီဆ်သည် နောက်ဆုံးအတည် ဖြစ်သည်ကို နှစ်ပေါင်း (၁၃၀၀) ကျော်မှ ပေါ်ပေါက်လာသူတို့တွင် ဝေဖန်နိုင်စွမ်း မရှိတော့သောကြောင့်ပင်ဖြစ်သည်။

ဤသို့အခြေအနေတွင် တမန်တော်မြတ်ﷺ ၏ စစ်မှန်သော လမ်းစဉ်ကို တွေ့မြင်ခဲ့ရသည့် စွဟာဗီကြီးများကို တွေ့မြင်ခဲ့ရသဖြင့် အမှားနှင့်အမှန် အစစ်နှင့်အတုကို တိကျစွာ ခွဲခြားနိုင်သည့် ပညာမျက်စိပါရှိသော အေမာမ်ကြီး(၄)ပါးအနက် (အေမာမ် အအ်ဇမ်)၏ အဆုံးအဖြတ်ကိုနာခံမှ တမန်တော်မြတ် ﷺ ၏ တရားစစ် တရားမှန်ကို လိုက်နာကျင့်သုံးရာ ရောက်မည်ဖြစ်၏။ ဤသို့ယုံကြည်စိတ်ချရသော အေမာမ်ကြီးများ၏ စစ်မှန်သော တရားလမ်းစဉ်ကို ဆန့်ကျင်ပြီး ယနေ့တမန်တော်မြတ်ﷺ ခေတ်နှင့် နှစ်ပေါင်း (၁၃၀၀)ကျော်မှ ပေါ်ပေါက်လာသူတို့မှ တစ်ဦးဦး၏ အဆုံးအဖြတ်ကို (ပညာတော်လှသည် ဟု) ထင်မှတ်ကာ နောက်လိုက်ပြု နာခံမည်ဆိုလျှင် မျက်မမြင်တို့သည် မျက်မြင်တစ်ဦး၏ နောက်လိုက်ပြုရမည့်အစား မျက်မမြင်တဦး၏ တုတ်ဆွဲရာသို့ လိုက်ပါကြပါက ချောက်ထဲ ကျမည်မလွဲ ဖြစ်သကဲ့သို့ လမ်းမှားကြမည်မှာ သေချာလှပေတော့၏။

ဤသို့ စစ်မှန်သော အခြေခံ သဘောတရားကို နားလည်သဘောပေါက်ကြကုန်သဖြင့် တလောကလုံးတွင် (မဇ်ဟဗ်လမ်းစဉ်)လိုက်နာကျင့်သုံးသူ ဟနဖီ–စွန္နီ ဦးရေမှာ အများဆုံးဖြစ်၏။

ဤသည်ကား သာသနာတော်ကို ပျက်စီးစေသည့် ဘေးအန္တရာယ်များ ကင်းရှင်းသော မဇ်ဟဗ်လမ်းစဉ်၏ မှန်ကန်ကြောင်း ကွက်ကွက်ကွင်းကွင်း မြင်သိရလေအောင် ထင်ထင်ရှားရှား ပြသလျက်ရှိသော ဝိသေသ အထောက်အထား တရပ်ဖြစ်၏။

**သတိ**။ ။ အေမာမ်အဗူဟနီဖွာ رحمه الله သခင်၏ အဆုံးအဖြတ်ကို ကျွန်ုပ်တို့ ဟနဖီများ နောက်လိုက်ပြု နာခံခြင်းသည် တုတ်အဆွဲခံ မျက်ကန်းပမာ ဆွဲလိုရာဆွဲတိုင်း လိုက်ပါကြသည့် အနေမျိုးမဟုတ်ပေ။

ယခုသုံးတွဲလားက်ပြဿနာကို ကုရ်အာန်၊ဟဒီဆ်နှင့် မည်သို့ ကိုက်ညီကြောင်း ရှင်းလင်းတင်ပြသည့်အတိုင်း အေမာမ်အဗူဟနီဖွာ رحمه الله ခေါ် အေမာမ်အအ်ဇမ် رحمه الله ၏ ကျန်အဆုံးအဖြတ်များသည်လည်း ကုရ်အာန်ဟဒီဆ်နှင့် အကိုက်ညီဆုံး ဖြစ်ကြောင်း၊ မည်သို့ ကိုက်ညီကြောင်းကို သဘာဝကျကျ တွဟာဝီကျမ်းရှင်က အစအဆုံး ရှင်းလင်း တင်ပြထား၏။

မဇ်ဟဗ်လမ်းစဉ် လက်ခံကျင့်သုံးခြင်း၏ အရေးကြီးပုံ လိုအပ်ပုံကို ရှေးဦးစွာ တင်ပြရခြင်းမှာ မဇ်ဟဗ်လမ်းစဉ်ကို လက်မခံပဲ ဆန့်ကျင်ကြကုန်သော အသင်းအပင်း

အဖွဲ့အစည်းတို့၏ သတ်ဖ်စီရ်၊ ဟဒီဆ်တု၊ ဖတွာဝါ အစရှိသည်တို့ကို အကိုးအကား တင်ပြပြီး ဓမ္မသတ် အဆုံးအဖြတ်ဟု ရေးသားတင်ပြလာလျှင် နားမယောင် လမ်းမမှားကြ စေရန်နှင့် မိမိတို့ လက်ခံကျင့်သုံးနေသော (မဇ်ဟဗ်လမ်းစဉ်) လက်ခံကျင့်သုံးခြင်း၏ အရေးကြီး လိုအပ်ကြောင်း အခြေခံ သဘောတရားကို ပိုင်နိုင်စွာ သိရှိထားမှသာ အမှားနှင့်အမှန်ကို ခွဲခြားဝေဖန်၍ အမြင်မှန်ရနိုင်မည်ဟု ယုံကြည်သောကြောင့် အတိုးချုပ် အကျဉ်းရုံးကာ အနည်းငယ် တင်ပြရခြင်းပင် ဖြစ်ပေသည်။ အကျယ်လေ့လာ သိရှိလိုသူ တို့အနေနှင့် မော်လာနာ ထာနဝီသခင်ကြီး ရေးသားပြုစုသော (အလ်အစ်က်တေ့ စွာဒ် ဖွစ်သတ်က်လီးဒ္ဒေ ဝလ်အစ်ဂ်ျသေဟာဒ်)ကျမ်းကို လေ့လာနိုင်ကြပါသည်။

## အမှားပေါ်တိုင်း အမှန်တရား တင်ပြမည့်သူ ရှိခြင်းသည် ဤအွမ္မတ်၏ ထူးခြားချက် တစ်ရပ်ဖြစ်ခြင်း

عن معاوية قال سمعت النبى صلى الله عليه وسلم يقول لا يزال من امتى امة قائمة

بامر الله لا يضرهم من خذلهم ولا من خالفهم حتى يأتى امر الله وهم على ذلك

متفق عليه ﴿باب ثواب هذه الامة مشكوة﴾

وفى رواية لا يزال طائفة من امتى منصودين لا يضرهم من خذلهم حتى تقوم الساعة

မစ်ရှ်ကာသ်ကျမ်းတွင် ဤသို့ ဟဒီဆ်တော် ရေးသားဖော်ပြထား၏။ တမန် တော်မြတ်ﷺ အမိန့်ရှိသည်မှာ ငါတမန်တော်ﷺ ၏ အွမ္မတ်တွင် အသင်းတစ်သင်းသည် အလ္လာဟ်အသျှင်၏ မှန်ကန်သော သာသနာ့ လမ်းစဉ်အပေါ်တွင် (ကေ့ယာမတ်) ကမ္ဘာ ပျက်သည်အထိ အမြဲ တည်ရှိနေမည်ဖြစ်၏။ ယင်းတို့အား ကဲ့ရဲ့ရှုတ်ချသူ အတိုက်အခံ ပြုသူတို့က အတိုက်အခံ ပြုငြားသော်လည်း အလေးမမူ ဂရုမစိုက်ကြပဲ အမှန်ပေါ် ရပ်တည်နေကြမည်ဖြစ်သည်။ ယင်းတို့၏ ကဲ့ရဲ့ရှုတ်ချခြင်းက ၎င်းတို့ကို တစုံတရာ မထိခိုက်ချေဟူ၏။ (မစ်ရှ်ကာသ်)

## သာသနာ့အန္တရာယ်ကာကွယ်ရန် ကြိုးစားသူတို့၏ အကျိုးစဝါဒ်

عن عبدالله بن العلاء الحضرمی قال حدثنی من سمع النبی صلی اللهُ علیه وسلم یقول
انه سیکون فی اخر هذه الامة قوم لهم مثل اجرا ولهم یأمرون بالمعروف وینهون
عن المنکر ویقاتلون اهل الفتن وفی الحاشیة قوله یقاتلون ای بایدیهم او بالسنتهم
وقوله اهل الفتن ای من البغاة والخوارج والروافض وسائر اهل البدع ﴿مشکوة ص ٥٨٤﴾

တမန်တော်မြတ် ﷺ အမိန့်ရှိသည်မှာ များမကြာမီ ဤအုမ္မတ်၏ နောက်ပိုင်းခေတ်ကာလတွင် အသင်းတစ်သင်း အုပ်စုတစ်စု ပေါ်ပေါက်မည်ဖြစ်၏။ ယင်းတို့သည် ပထမပိုင်းခေတ်ရှိ စွဟာဗဟ်ကြီးများကဲ့သို့ အကျိုးစဝါဒ်ကို ရရှိကြမည်ဖြစ်၏။ ယင်းတို့သည်ကား ကောင်းရာလမ်းမှန်ကို ညွှန်ကြားပြသ၍ မကောင်းမှု ဒုစရိုက်နှင့် လမ်းမှားခြင်းအပေါင်းမှ တားဆီးပိတ်ပင်ကြကုန်အံ့၊ ထို့နောက်တဖန် သာသနာတော်ကို ပျက်လိုပျက်စီးဖျက်စီးသူတို့အား ခုခံကာကွယ်ကာ ရင်ဆိုင်တိုက်ခိုက်ကြလတံ့။ (မစ်ရှ်ကာသ်-၅၈၄)

အောက်ခြေ မှတ်စုတွင် ရင်ဆိုင်တိုက်ခိုက်ခြင်းပြုအံ့ ဆိုသည်မှာ ကိုယ်ထိလက်ရောက်ဖြစ်စေ၊ စာအုပ်စာတမ်းရေးသား ပြုစု၍ဖြစ်စေ အားလုံး အကျုံးဝင်သည်။ သာသနာတော်ကို ပျက်လိုပျက်စီး ဖျက်စီးသူဆိုသည်မှာ ခါရိဂျီ၊ ရာဖိဇ္ဇီနှင့် အသစ်ပေါ်ပေါက် လာကြကုန်သော (ဗစ်ဒ်အတ်သမား) များယွင်းသောအသင်း (၇၂) သင်းအားလုံးကို ဆိုလိုသည်။

၎င်းတို့နှင့် ရင်ဆိုင်တိုက်ခိုက်ရန်မှာ မိမိတို့ လိုက်နာလျက်ရှိသော သာသနာ့လမ်းစဉ်၏ အခြေအမြစ် သဘောတရားကို ပိုင်နိုင်ကောင်းမွန်စွာ သိရှိနားလည်ထားမှသာ ဖျက်စီး နှောင့်ယှက်သူတို့၏ အကိုးအကား တင်ပြချက်များကို နားမယောင်ပဲ ပြန်လည်ဖြေရှင်း ချေပနိုင်ကြမည် ဖြစ်ပေသတည်း။

# تشريح الصراط المستقيم

## စတုတ္ထအခန်း

### ဗစ်ဒ်အတ်ဟူသည်

လမ်းမမှားကြစေရန် ဗစ်ဒ်အတ်ကို ရှောင်ကြဉ်ရမည်ဖြစ်သည်။ ဗစ်ဒ်အတ် ဆိုသည်မှာ လောက၏ အသစ်တီထွင်ထားသော ပစ္စည်းများကိုလည်းကောင်း၊ အသစ် ပေါ်ပေါက်လာသော အလုပ်အကိုင်များကိုလည်းကောင်း ခေါ်ဆိုသည် မဟုတ်ချေ။ ၎င်းနှင့်ပတ်သက်၍ တမန်တော်မြတ် ﷺ က အဓိပ္ပါယ် ပြည့်စုံသော မိန့်ခွန်းကို မိန့်ကြား ညွှန်ကြားခဲ့ပြီး ဖြစ်လေသည်။ ၎င်းကို သဘောပေါက် နားလည်ရန်သာလိုအပ်၏။

عن عائشة قالت قال رسول الله صلى الله عليه وسلم من احدث فى امرنا هذا ماليس منه فهوردٌّ متفق عليه ﴿مشكوة﴾

တမန်တော်မြတ် ﷺ အမိန့်ရှိသည်မှာ မည်သူမဆို ငါတို့၏ ဤသာသနာတော် တွင် သာသနာရေးကိစ္စနှင့် မသက်ဆိုင်သော ကိစ္စတစ်ခုခုကို (သာသနာရေးကိစ္စတွင် ပါဝင်သည်ဟု ယူဆထင်မှတ်၍) အသစ်တီထွင် ပြုလုပ်ပါလျှင် (၎င်းကိစ္စကို အလ္လာဟ် အသျှင်က လက်မခံ) ၎င်းကိစ္စ ပယ်ဖျက်ခြင်းကို ခံရမည်သာ ဖြစ်သည်။

(မစ်ရှ်ကာသ်)

သာသနာရေးနှင့် မသက်ဆိုင်သောကိစ္စ ဆိုသည်မှာ အစ္စလာမ်သာသနာတော် သည် ကျမ်းမြတ်ကုရ်အာန်၏ ညွှန်ကြားချက်အရ အခြေခံမှု (၄)ခု၊ ကုရ်အာန်၊ ဟဒီဆ်၊ အစ်ဂျ်မာအ်နှင့် ကိယာစ်တို့အပေါ် တည်ရှိနေသဖြင့် ၎င်းအခြေခံမှု လေးခုအနက် တစ်ခုခုနှင့် လုံး၀ မသက်ဆိုင်သောကိစ္စကိုလည်းကောင်း၊ ယင်းအခြေခံမှုများကို အထောက်အကူ မပြုသောကိစ္စကိုလည်းကောင်း ဆိုလိုသည်။

ဤအခြေခံမှု လေးခုနှင့် မပတ်သက်သော ကိစ္စတစ်ခုခုကို ပြုလုပ်သောအခါ ၎င်းကို သာသနာရေးကိစ္စ ထင်မှတ်ပြီး သာသနာတော်တွင် ထည့်သွင်းဖြည့်စွက်၍

အကျိုးစဝါဗ် ရရှိရန်အတွက် ပြုလုပ်မှသာ တရားတော်က (ဗစ်ဒ်အတ်) ဟု သတ်မှတ်သည်။ သို့တည်းမဟုတ်က ဗစ်ဒ်အတ်ဟု မခေါ်ဆိုပေ။

တမန်တော်မြတ် ﷺ မရှိပြီးသည့် နောက်ပိုင်းတွင် သာသနာတော်တွင် အသစ်ကိစ္စပေါင်း အပြောင်းအလဲများ ပေါ်ပေါက်ခဲ့သည်။ ၎င်းတို့သည် အစ်ဂျမာအီအွမ္မတ်နှင့် ကိယာစ် ခေါ်အခြေခံမူ ဥပဒေအရပင်ဖြစ်သည်။

အလ္လာဟ်အသျှင်က ဤအွမ္မတ်သားအပေါင်းအား လမ်းမှားပေါ်တွင် (အစ်ဂျမာအ်) စုစည်းညီညွတ်ခြင်းမှ ကေယာမတ်တိုင် စောင့်ရှောက်တော်မူရန် ကတိပြုထားတော်မူ၏။ ဤသို့ သာသနာ့ပညာရှင်တို့၏ စည်းလုံးညီညွတ်မှု မရှိပဲ မည်သည့်ကိစ္စကိုမဆို ဤသာသနာတော်တွင် ဖြည့်စွက်ထည့်သွင်းကာ အကျိုးစဝါဗ် ရရှိရန်အတွက် ပြုလုပ်ပါလျှင် ၎င်းတို့သည် အကျိုးစဝါဗ်ရရှိရန် ဝေးလေစွ၊ တမန်တော်မြတ် ﷺ က (ဗစ်ဒ်အတ်ပြုလုပ်သူသည်) မိမိအွမ္မတ်သားများတွင် မပါဝင်ဟုလည်းကောင်း-

وَشَرُّ الْاُمُوْرِ مُحْدَثَاتُهَا

ဗစ်ဒ်အတ်သည် ဒုစရိုက်များတွင် အဆိုးရွားဆုံးဟုလည်းကောင်း မိန့်ကြားတော်မူခဲ့၏။

## ဗစ်ဒ်အတ်သည်ကြီးလေးသောပြစ်မှုဖြစ်ကြောင်းတမန်တော်မြတ် ﷺ ၏ မိန့်ကြားချက်

عن ابراهيم بن ميسرة قال قال رسول الله صلى الله عليه وسلم من وقر صاحب بدعة فقد اعان على هدم الاسلام ﴿رواه البيهقى مشكوة ط ٣١﴾

တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်မှာ မည်သူမဆို ဗစ်ဒ်အတ်ကိစ္စ ပြုလုပ်သူ တစ်ဦးအား ဂုဏ်ပြုလေးစားပါက ၎င်းသူသည် အစ္စလာမ်ဘာသာကို ဖြိုခွဲဖျက်ဆီးရာတွင် ကူညီအားပေးသူဖြစ်သည်။ (မစ်ရှ်ကာသ်)

အထူးသတိပြုရန်မှာ ဟရာမ်ကို ကျူးလွန်သဖြင့် အစ္စလာမ်ဘာသာကို ဖျက်ဆီးရာ မရောက်ချေ။ ဗစ်ဒ်အတ်ကိစ္စ ကျူးလွန်သူအား ကူညီအားပေး လေးစားသဖြင့် ဤသို့ အပြစ်ဖြစ်ရလျှင် ကိုယ်တိုင် ကျူးလွန်သူသည် မည်မျှ ဆိုးရွားသည်ကို နားလည်သဘောပေါက်နိုင်၏။

ဤသို့ ဆိုးရွားရခြင်း၏ အခြေခံသဘောတရားမှာ စွန္နတ်တော်ဖြစ်သော တမန်တော်မြတ်ﷺ နှင့် စွဟာဗီသာဝကကြီးတို့၏ လမ်းစဉ်သည် ခေတ်မမီ၊ သဘာဝမကျ၊ မပြည့်စုံဟု နှုတ်လျှာက ထုတ်ဖော် မပြောကြားသော်လည်း ထိုသို့ပင် စွန္နတ်တော်တရားဒေသနာများကို မပြည့်စုံ၊ ခေတ်မမီဟု ကဲ့ရဲ့ရှုတ်ချပြစ်တင်ရာ သဘော သက်ရောက်စေသောကြောင့် ဆိုးရွားရခြင်းဖြစ်သည်။

ဗစ်ဒ်အတ်ကိစ္စ ဆိုးရွားသည်ခန့်မျှ ၎င်းမှ ရှောင်ကြဉ်သူများအတွက် အကျိုးစဝါဗ်လည်း များပြားကြောင်း ဤသို့ အမိန့်တော်လာရှိ၏။

عن ابی هریرة قال قال رسول الله صلی الله علیه وسلم
من تمسك بسنتی عند فساد امتی فله اجر مأة شهید ﴿ مشكوة ﴾

တမန်တော်မြတ် ﷺ မိန့်တော်မူသည်မှာ မည်သူမဆို ငါတမန်တော်၏ အုမ္မတ် ပျက်စီးနေချိန် (ဝါ) ဗစ်ဒ်အတ်ကိစ္စများ ပြုလုပ်သူတို့ လွှမ်းမိုးနေချိန်နှင့် မိုက်မှားနေချိန်တွင် ငါတမန်တော်၏ စွန္နတ်တော် လမ်းစဉ်ကို စွဲမြဲစွာ လိုက်နာ ကျင့်သုံးနေပါလျှင် ၎င်းသူအတွက် ရှဟီဒ်ပေါင်း (၁၀၀)တစ်ရာ၏ အကျိုးစဝါဗ် ပေးသနားခြင်း ခံရမည် ဖြစ်သည်။ (မစ်ရှ်ကာသ် ၃၀)

အကြောင်းမူကား ဗစ်ဒ်အတ်ပြစ်မှု ကြီးလေးသလောက် ၎င်းမှ ရှောင်ကြဉ်သူတို့အတွက် ဆဝါဗ်သည်လည်း များပြားရခြင်းဖြစ်သည်။ ထို့ကြောင့် ဗစ်ဒ်အတ်သည် ကြီးလေးသော ဒုစရိုက်ဖြစ်ကြောင်းနှင့် (စွန္နတ်တော်ခေါ်) တမန်တော်မြတ်ﷺ နှင့် စွဟာဗီတို့၏ လမ်းစဉ်အတိုင်း လိုက်နာကျင့်သုံးခြင်းသည် မည်မျှခန့် တန်ဖိုးရှိကြောင်း ဤဟာဒီဆ်တော်ဖြင့် သိရှိရသည်။

ရှိုင်တွာန်မာရ်နတ်သည် ဤအုမ္မတ်ကို ဖျက်စီးရာ၌ ဗစ်ဒ်အတ်ဖြင့် အောင်မြင်မှုကို အကြီးအကျယ်ရရှိ၏။ အကြောင်းမူကား ဗစ်ဒ်အတ်ကို အပြစ်ဒုစရိုက်ဟုပင် မအောက်မေ့ မယူဆသဖြင့် (သောင်ဘာ) အမှားဝန်ခံခြင်းလည်း မပြုကြသောကြောင့်ပင်ဖြစ်သည်။

ဟဒီဆ်တော်တစ်ခုတွင် တစ်နေ့သောအခါ လူ(၃)ဦးတို့သည် တမန်တော်မြတ် ﷺ ထံ လာရောက်ပြီး တမန်တော်မြတ် ﷺ ၏ အေဘာဒတ် ဝတ်ပြုပုံကို စုံးစမ်း မေးမြန်းကြရာ တမန်တော်မြတ် ﷺ ၏ ဝတ်ပြုပုံကို ကြားသိရပြီးနောက် တစ်ဦးနှင့်တစ်ဦး ဆွေးနွေးရာတွင် တမန်တော်မြတ် ﷺ သည်ကား အပြစ်ဟူသမျှ ချမ်းသာပေးသနားခြင်း ခံရပြီးဖြစ်သဖြင့် သာမန် အိဘာဒသ်ဖြင့် လုံလောက်နိုင်သည်။

ကျွန်ုပ်တို့မှာ ထိုသို့ချမ်းသာ မရရှိသေးသဖြင့် တမန်တော်မြတ် ﷺ ထက်ပို၍ အိဘာဒတ် ပြုလုပ်သင့်သည်ဟု ဆွေးနွေးပြောဆိုပြီး တစ်ဦးက ကျွန်ုပ်သည် ယနေ့မှစ၍ တညဉ့်လုံး အိဗာဒသ်ပြုတော့မည် မည်သည့် ညဉ့်တွင်မျှ မအိပ်တော့ပါ ဟုဆို၏။ ဒုတိယလူက ကျွန်ုပ်သည် နေ့စဉ် အမြဲတမ်း ရိုဇာစောင့်မည်၊ ဘယ်သော်အခါမျှ ရိုဇာကို မလွှတ်တော့ ဟုဆို၏။ တတိယလူက ကျွန်ုပ်သည် အိဗာဒသ်ပြုရာတွင် အနှောင့်အယှက်မရှိပဲ လွတ်လပ်စွာ ပြုလုပ်နိုင်ရန် အမျိုးသမီးနှင့် လုံးဝ နေကာဟ် မပြုတော့ ဟုဆို၏။

ထိုသို့ ပြောဆိုကြကြောင်း တမန်တော်မြတ် ﷺ ကြားသိရလေသောအခါ အသင်တို့ တွင် ငါတမန်တော်သည် အလ္လာဟ်အသျှင်ကို အကြောက်ဆုံး၊ ၎င်းအပြစ်ကို အရှောင်ကြဉ်ဆုံးဖြစ်သည်။

ငါတမန်တော်သည် တညဉ့်လုံး အိဗာဒသ် မပြုလုပ်၊ အိပ်လည်းအိပ်တော်မူသည်။ နေ့စဉ်အမြဲတမ်း ရိုဇာကိုလည်း မစောင့်၊ အမျိုးသမီးများနှင့် နေကာဟ်ရှာဒီလည်း ပြုတော်မူသည်။

(ဤသည် ငါတမန်တော် ﷺ ၏ စွန္နတ်တော် လမ်းစဉ်ဖြစ်သည်။) မည်သူမဆို ငါတမန်တော် ﷺ ၏ စွန္နတ်တော်လမ်းစဉ်ကို မလိုက်နာပဲ မျက်နှာလွှဲရှောင်ကာ ဗီလာဆန့်ကျင် ပြုလုပ်ပါလျှင် ထိုသူသည် ငါ၏အွမ္မတ်တွင် မပါဝင်ချေဟု မိန့်ကြားတော်မူ၏။

(မစ်ရှ်ကာသ် ၂၇)

ရှရီအတ်တရားတော်က မအိပ်မနေ အိဗာဒတ်ပြုရန် တာဝန်မပေး၊ လူတိုင်းသည် မိမိကိုယ်ကာယ၏ ကျန်းမာရေး စောင့်ရှောက်ရန်အတွက် တာဝန်ပေးခြင်းခံရသည်။ ထို့အတူ တစ်နှစ်လုံး ရိုဇာစောင့်ခြင်းကို တားမြစ်သည်။ ထိုနည်းအတိုင်း နေကာဟ်ပြုရန် အင်အားစွမ်းအားရှိပါလျက် နေကာဟ် မပြုပဲနေခြင်းသည် အပြစ်ဖြစ်သည်။

ဤသို့ တရားတော်၏အမိန့်၊ တမန်တော်မြတ် ﷺ ၏လမ်းစဉ်၊ စွန္နတ်တော်ကို ဗီလာဆန့်ကျင်စေလျှင် အမြင်အားဖြင့် ကောင်းမြတ်သည်ဟု ထင်မြင်ရသော်လည်း

ကောင်းမှုမဖြစ်၊ ဒုစရိုက်သာဖြစ်ကြောင်း အစ္စလာမ်တရားဥပဒေက သတ်မှတ်သည်။

အထက်ဖော်ပြပါ သုံးဦးတို့သည် သာမန်အမြင်အားဖြင့် ဒုစရိုက်ကို ပြုလုပ်ကြသည်မဟုတ်ဟု ထင်မြင်ရ၏။ တညဉ့်လုံး မအိပ်မနေ အေဗာဒတ်ပြုခြင်း၊ နေ့စဉ်ဆက်တိုက် ရိုဇာစောင့်ခြင်း၊ လွတ်လပ်စွာ အေဗာဒတ်ပြုနိုင်ရန်အတွက် အမျိုးသမီးနှင့် နေကာဟ် မပြုလုပ်ခြင်းတို့သည် ကောင်းမြတ်သော ကိစ္စများဟု ထင်မြင်စရာ အကြောင်းရှိသော်လည်း တမန်တော်မြတ် ﷺ ၏ စွန္နတ်တော်လမ်းစဉ်ကို ဖီလာဆန့်ကျင်စေသဖြင့် ကောင်းမှုကုသိုလ် ရရှိနိုင်စေရန် ဝေးလေစွ။ တမန်တော်မြတ် ﷺ က (ငါ၏ စွန္နတ်လမ်းစဉ်ကို ဖီလာဆန့်ကျင်ပြုသူသည် ငါ၏ အွမ္မတ်သားများ စာရင်းတွင် မပါဝင်)ဟုလည်းကောင်း၊ (ဗစ်ဒ်အတ်သည် မကောင်းမှုများတွင် အဆိုးရွားဆုံးဖြစ်သည်)ဟု လည်းကောင်း မိန့်ကြားတော်မူခြင်းသည် မည်မျှ ကြီးလေးသော ဒုစရိုက်ဖြစ်ကြောင်းကို သဘောပေါက် နားလည်ရန်လိုအပ်၏။

ထို့ကြောင့် လမ်းစဉ် အသစ်တစ်ခုသည် ကောင်းမြတ်သောလမ်းစဉ် ဖြစ်နိုင်စေရန် ကုရ်အာန်၊ ဟဒီဆ်၊ အစ်ဂျ်မာအ်၊ ကေယာစ်တို့နှင့် ကိုက်ညီစေရမည်။ စွန္နတ်တော်ဖြစ်သော တမန်တော်မြတ် ﷺ ၏လမ်းစဉ်၊ စွဟာဗဟ်တို့၏လမ်းစဉ်နှင့် ကိုက်ညီမှသာ ကောင်းမြတ်သော လမ်းစဉ်ဖြစ်မည်။ သို့မဟုတ်က အမြင်အားဖြင့် အကောင်းဟု ထင်မြင်ရသော်လည်း မကောင်းသောလမ်းစဉ် မကောင်းမှု ဒုစရိုက်သာဖြစ်ကြောင်း ရှရာအ်– တရားတော်က ဆုံးဖြတ်သည်။

ရှရီအတ်တရားတော်က မလုပ်မနေရ တာဝန်ရှိသည့် ကိစ္စများနှင့် တာဝန်မရှိသည့် မွတ်စ်တဟာဗ် ကိစ္စများကို ခွဲခြားပြသထားပြီးဖြစ်ရာ ရှရီအတ် တရားတော်၏ အသိပညာ နည်းပါးသူတို့က (တာဝန်မရှိသည့်ကိစ္စ) မွတ်စ်တဟာဗ် တစ်ခုခုကို တာဝန်တစ်ရပ်အနေနှင့် သတ်မှတ်ထားသော (ဖွရတ်ဇ်၊ ဝါဂျစ်ဗ်)တို့ကဲ့သို့ ကျင့်သုံးပြုလုပ်ကြလျှင် တရားတော်၏ ပညတ်သည်လည်း ပြောင်းလွဲသွားချေ၏။

ထိုသို့ အလွဲသုံးစား ပြုလုပ်ရာတွင် (မွတ်စ်တဟာဗ်)ကိစ္စတစ်ခုခုကို မပြုလုပ်သူအား ကဲ့ရဲ့ရှုတ်ချခြင်း၊ အပြစ်တင်ခြင်း၊ ရန်ငြိုးထားခြင်းတို့သည် ယင်းမွတ်စ်တဟာဗ်ကို ဖွရတ်ဇ်၊ ဝါဂျစ်ဗ်တို့ကဲ့သို့ ထင်မှတ်စေသောကြောင့် ကောင်းမှုတစ်ခုသည် ဒုစရိုက်နှင့် မွတ်စ်တဟာဗ်တစ်ခုသည် ဗစ်ဒ်အတ်နှင့် တရားတော်၏အမိန့် ပြောင်းလွဲသွားချေ၏။

ဤသို့ တရားတော်၏ အမိန့်ပညက်ကို အလွဲသုံးစားပြုလုပ်သော မကောင်းမှု တစ်စုံတရာကို တွေ့ရှိရသောအခါ ၎င်းကို ကိုယ်ထိလက်ရောက်သော်လည်းကောင်း၊

နူတ်လျှာဖြင့် ပြောဆိုဆုံးမ၍သော်လည်းကောင်း၊ ပိတ်ပင်တားဆီး၍ တရားလမ်းမှန်ကို လိုက်နာကျင့်သုံးစေရန် တွေ့မြင်သိရှိသူတိုင်းတွင် တာဝန်ရှိသည်။ ဤသို့တာဝန် ကျေပွန်အောင် ဆောင်ရွက်ပါသော်လည်း တားဆီး၍ မရရှိသောအခါမှသာလျှင် ၎င်းကို စိတ်နှလုံးက မကောင်းမှုဟု ယူဆ အောင့်မေ့ရပေမည်။ ဤတတိယ အဆင့်သည်ကား အီမာန် သက်ဝင် ယုံကြည်မှု၏ အားအနည်းဆုံး နောက်ဆုံးအဆင့်ဖြစ်သည်ဟု ဟဒီဆ်တော် လာရှိသဖြင့် သာသနာ့အတွက် သောကရှိကြကုန်သော သူတော်စင်များနှင့် သာသနာ့ ပညာရှင်များတွင် တာဝန်မသေးလှချေ။

မိမိတို့တာဝန်ကို မဆောင်ရွက်ပဲ လူ့အကြိုက်ကို လိုက်ရော၍ မရတော့ချေ။ အကယ်၍သာ အမိန့်တော်ကို အလေးမမူ ဂရုမစိုက်ပဲ စီးပွားရေးကြောင့် လူတို့အကြိုက်ကို လိုက်ရောမည်ဆိုပါက ဖော်ပြပါ ဟဒီဆ်တော်အရ သာသနာ့ပညာရှင် သူတော်စင်ဖြစ်နိုင်ရန် ဝေးလေစွ။ အီမာန်၏ အားအနည်းဆုံး နောက်ဆုံးအဆင့်ကိုပင် ရရှိနိုင်ရန် မလွယ်ကူလှချေသတည်း။

ဤအကြောင်းအရာများကို ရေးသား ဖော်ပြရခြင်း အကြောင်းမှာ ဗစ်ဒ်အတ်သည် သာမန် ဒုစရိုက်မဟုတ်ကြောင်း သဘောပေါက်ကြ၍ သာသနာတော်တွင် အသစ်တီထွင် ခဲ့ကြကုန်သော (၇၂)သင်းကို အထူးဂရုပြု ရှောင်ကြဉ်ကြစေရန်နှင့် (တွလာကီဗစ်ဒ်အတီ) ခေါ် ဒုစရိုက်ဖြစ်သော (တစ်ကြိမ်တည်းသုံးတွလာက်)ကို အထူး ရှောင်ကြဉ်ကြစေရန်ဖြစ်သည်။



# ဒုတိယပိုင်း

# တွလာက်အကြောင်း

ဎင်းတွင် (၅)ခန်းပါရှိသည်။

## ပထမအခန်း

### (တွလာက်) ကွာရှင်းရေးဆိုင်ရာ သိမှတ်ဖွယ်ရာ မတ်စ်အလာများ

**တွလာက်**ဆိုသည်မှာ တရားဝင် နေကာဟ်ပြုလုပ် ရရှိထားသော အမျိုးသမီး၏ နေကာဟ်ကို ပယ်ဖျက် ရုပ်သိမ်းခြင်းကိုခေါ်သည်။

**နေကာဟ်**ဆိုသည်မှာ ပေါင်းသင်းပိုင်ခွင့်ရှိသော အမျိုးသမီးတစ်ဦးနှင့် တရားစည်းကမ်းနှင့်အညီ လက်ထပ်ခြင်းကို ခေါ်သည်။

**နေကာဟ်၏အမိန့်။** ။ နေကာဟ်ပြုခြင်းသည် မိမိ၏ ကာမတဏှာစိတ်ကို ကျူးလွန်ဖောက်ပြန်ခြင်းမှ ချုပ်တည်းနိုင်သောအချိန်တွင် **စွန္နတ်မိုအက္ကဒါ** ဖြစ်သည်။ မိမိ၏ကာမတဏှာစိတ်ကို မချုပ်တည်းနိုင်သောအချိန်တွင် **ဝါဂျစ်ဗ်**ဖြစ်သည်။ အမျိုးသမီးတစ်ဦး၏ စား၊ဝတ်၊နေရေးကို ပြေလည်အောင် ဆောင်ရွက်မပေးနိုင်သူအတွက်**မကရှူဟ်** ဖြစ်သည်။ (ဤသို့ ဟေဒါယဟ်ကျမ်း အိုင်နီကျမ်းတွင်ပါရှိသည်။)

### နေကာဟ်ပြုရာတွင် အရေးကြီးသော ပညတ်များမှာ

(၁) နေကာဟ်ပြုရာတွင် **အီဂျာဗ်နှင့် ကိုဘူးလ်** သည် အရေးကြီးသော **ရကွန်** နှစ်ခု ဖြစ်သည်။
ပထမ တောင်းဆိုခြင်းကို **အီဂျာဗ်** ဟုခေါ်သည်။ ထိုတောင်းခံချက် လက်ခံသဘောတူခြင်းကို **ကိုဘူးလ်** ဟုခေါ်သည်။ ပထမ တောင်းဆိုခြင်းသည် အမျိုးသမီးဘက်မှလည်းကောင်း၊ အမျိုးသားဘက်မှ လည်းကောင်း နှစ်မျိုးလုံးဖြစ်နိုင်သည်။

(၂) နေကာဟ်တွင် (အီဂျာဗ်နှင့်ကိုဘူလ်)ပြုသူတို့သည်–

(က) အသိဉာဏ်ကောင်းသူ ဖြစ်စေရမည်။

(ခ) အရွယ်ရောက်သူ ဖြစ်စေရမည်။ ရှရီအတ် တရားဥပဒေတွင် အရွယ်ရောက်ကြောင်း မသိရသော အမျိုးသမီးများအတွက် (၁၂)နှစ်၊ အမျိုးသားများအတွက် (၁၅)နှစ် နောက်ဆုံး သတ်မှတ်သည်။ အရွယ်ရောက်ကြောင်း တစုံတရာ လက္ခဏာဖြင့် သိရှိရလျှင် ထိုအချိန်မှ အရွယ်ရောက်ကြောင်း သတ်မှတ်သည်။

(၃) ထို(အီဂျာဗ်) နှင့် (ကိုဘူးလ်)ကို သက်သေ (၂) ယောက်၏ ရှေ့တွင် တစ်ကြိမ်တည်း ဖြစ်စေရမည်။

(၄) ထိုအီဂျာဗ် နှင့် ကိုဘူလ်ကို သက်သေ (၂) ဦးတို့က တစ်ချိန်တည်း ကြားစေရမည်။

တစ်ယောက်တခြားစီ မဖြစ်စေရ။ (ခိုလာစွတွလ်မစာအေလ်)

**မှတ်ချက်**။ ။ ခိုလာစွတွလ်မစာအေလ်ကျမ်းသည် ခိုင်မာသော ကျမ်းပေါင်းစုံမှ ကောက်နုတ်တင်ပြသောကျမ်းစာဖြစ်သည်။

## တွလာက် အထမြောက်စေရန် စည်းကမ်းချက်များ

တွလာက်ပေးသူသည်–

(၁) အရွယ်ရောက်ပြီးသူဖြစ်စေရမည်။ (ကလေးမဖြစ်စေရ။)

(၂) အသိဉာဏ်ကောင်းသူဖြစ်စေရမည်။ (အရူးမဖြစ်စေရ။)

(၃) အိပ်ပျော်၍ သတိလစ်နေသူမဖြစ်စေရ။

ဤသို့အရွယ်ရောက်ပြီးသူ အသိဉာဏ်ကောင်းသူတစ်ဦးက အိပ်ပျော်နေချိန် သတိလစ်နေချိန် မဟုတ်ပဲ တွလာက်ကို တစ်ကြိမ်ပေးက တွလာက်တစ်ကြိမ် အထမြောက်သည်။

ထို့အတူ(၂)ကြိမ်ပေးက(၂)ကြိမ်၊ (၃)ကြိမ်ပေးက (၃)ကြိမ်အထမြောက်သည်။

ဤသို့ပေးသော တွလာက်သည် တနေရာတွင် ပေးသည်ဖြစ်စေ၊ နေရာအသီးသီး၌ ပေးသည်ဖြစ်စေ၊ တစ်ကြိမ်တည်း ပေးသည်ဖြစ်စေ၊ အလီလီ ပေးသည်ဖြစ်စေ၊ တစ်ချိန်တည်း ပေးသည်ဖြစ်စေ၊ အားလုံး အထမြောက်သည်။ (ခိုလာစွာ–၂၂)

ဖွတ်အတင်းအကြပ်ကိုင်၍ စေခိုင်းသဖြင့် ပေးလိုက်လျှင်လည်း တွလာက် အထမြောက်သည်။ ဖွတ်အတင်းအကြပ် စေခိုင်းသဖြင့် နှုတ်လျှာက တွလာက်မပေးပဲ စာဖြင့် လက်မှတ်ရေးထိုးပေးသဖြင့် တွလာက်အထမမြောက်ချေ။ (ခိုလာစွာ–၂၂)

အရက်၊ ဘိန်း၊ ဆေးခြောက်တို့ကို စားသုံးသဖြင့် မူးရစ်နေချိန်တွင် တွလာက်ပေးက အထမြောက်သည်။ မြင်းနို့ကိုလည်းကောင်း၊ မတည့်သောအစားအစာကို စားသုံးမိသဖြင့် မူးရစ်နေချိန်တွင် တွလာက်ပေးက အထမမြောက်ချေ။ (သဟ်ဗီ(ဗ)ကျမ်း–ခိုလာစွာကျမ်း)

မိမိဇနီးကို ပြောင်လှောင်ပြက်ရယ်သည့် သဘောနှင့် တွလာက်ပေးလိုက်လျှင် တွလာက် အထမြောက်သည်။ (ခိုလာစွာ၂၂)

ကွျနုပ်သေလျှင် တွလာက်ဟုလည်းကောင်း၊ အသင်မ သေလျှင် တွလာက်ဟုလည်းကောင်း၊ အသင်မကို တွလာက် (အင်နှ်ရှာအောလ္လာဟ်)ဟုလည်းကောင်း ပြောခြင်းဖြင့် တွလာက် အထ မမြောက်ချေ။ (ဖွသာဝါ ကာဇီခါန်–ခိုလာစွာ–၂၂)

မိမိဇနီးအား အသင်မကို တွလာက်ဟု ပြောသောအချိန်တွင် ၎င်းအမျိုးသမီးဘက်သို့ လက်ကို တစ်ချောင်း ထောင်ပြ၍ ပြောဆိုလျှင် တွလာက်တစ်ကြိမ်၊

လက်ကို (၂)ချောင်း ထောင်ပြ၍ ပြောလျှင် တွလာက် (၂)ကြိမ်။

လက်ကို (၃)ချောင်း ထောင်ပြ၍ ပြောလျှင် တွလာက် (၃)ကြိမ်။

လက်ကို (၅)ချောင်း (၆)ချောင်း ထောင်ပြ၍ ပြောလျှင် တွလာက် (၃)ကြိမ်သာ အထမြောက်သည်။

တွလာက်သည် (၃) ကြိမ်ထက်ပို၍ မရှိချေ။ (ခိုလာစွာ)

တစ်ဦးတစ်ယောက်က မိမိဇနီးအား တွလာက်ပေး၏။ ပေးသော သွလာက်သည် **ရပ်(ဂျ)အီ** ပြန်လည် ရပ်သိမ်းပိုင်ခွင့်ရှိသော တွလာက်ဖြစ်စေ၊ **ဘာယင်န်** မရုပ်သိမ်းနိုင်သော တွလာက်ဖြစ်စေ **အစ်ဒတ်** ရက်အတွင်း (ဝါ) ၁။ ရာသီလာလျှင် (၃)သုံးကြိမ်လာပြီးသည့်အထိ၊ (၂) ရာသီမလာလျှင် သုံးလ၊ ၃။ ကိုယ်ဝန်ဆောင်ရှိလျှင် သားဖွားပြီးသည်အထိ ၎င်းရက်အတွင်း တွလာက်ပေးသော ယောကျာ်းသေဆုံးပါက ကွာရှင်းခြင်းခံရသော အမျိုးသမီးသည် ၎င်း၏ အမွေကို ရထိုက်၏။

အစ်ဒတ်ရက် ကုန်လွန်ပြီးမှ တွလာက်ပေးသော ယောကျာ်းသေဆုံးလျှင် ၎င်း၏ အမွေကို မရထိုက်ချေ။ (ခိုလာစွာ ၂၃)

# တွလာက်ကို ပြန်လည် ရုပ်သိမ်းခြင်းအကြောင်း

တွလာက် (ရပ်(ဂျ)အီ)ကို ပြန်လည် ရုပ်သိမ်းရာတွင် အောက်ပါ စည်းကမ်းချင်းချက်များနှင့် ကိုက်ညီစေရမည်။

(၁) တွလာက်ပေးရာတွင် လင်ယောကျ်ားသည် ဇနီးထံမှ တစုံတရာ ပစ္စည်းကို တွလာက်ပေးရသည့်အစား ယူထားသည် မဖြစ်စေရ။ **(မှတ်ချက်)** ၎င်းအစားယူခြင်းကို (ရှရာအ်) တွင် **ခိုလာအ်** ဟုခေါ်သည်။ **ခိုလာအ်**ကို ပြန်လည် ရုပ်သိမ်းပိုင်ခွင့် မရှိချေ။

(၂) နေကာဟ်ပြုပြီးနောက် ကာယကံသဂ္ဂအမှုပြုပြီး ဖြစ်စေရမည်။ ဤသို့ ကာယကံမြောက် မပေါင်းသင်းရသေးသော အမျိုးသမီးအား တွလာက်ပေး ကွာရှင်းလျှင် ပြန်လည်ရုပ်သိမ်းပိုင်ခွင့် မရှိချေ။

(ခိုလာစွာ–၃၁)

(၃) မိမိဇနီးအား တွလာက်ကို (၁) တစ်ကြိမ်ဖြစ်စေ။ (၂) ကြိမ်ဖြစ်စေ ပေးပြီးသော်လည်း အစ်ဒတ်ရက် မကုန်မီအတွင်း အမျိုးသမီး သဘောတူသည်ဖြစ်စေ၊ သဘောမတူသည်ဖြစ်စေ ပြန်လည်ရုပ်သိမ်း ပိုင်ခွင့်ရှိသည်။

(၄) တွလာက် သုံးကြိမ်ကို တစ်ကြိမ်တည်း တစ်ချိန်တည်း ပေးသည်ဖြစ်စေ၊ အလီလီ ပေးသည်ဖြစ်စေ၊ ပေးပြီးပါက အခြားယောကျ်ားတစ်ဦးနှင့် နေကာဟ်ပြု ပေါင်းသင်းခြင်းမပြုသရွေ့ ပြန်လည်ပေါင်းသင်းပိုင်ခွင့် မရှိတော့ချေ။

(၅) ပြန်လည်ရုပ်သိမ်း ပိုင်ခွင့်ရှိသော တွလာက်ကို ရုပ်သိမ်းရာတွင် အစ်ဒတ်ရက် ကုန်လွန်ပြီးနောက်မှ လင်ယောကျ်ားက ကျွန်ုပ်သည် အသင်မကို အစ်ဒတ်ရက်အတွင်း ရုပ်သိမ်းခဲ့ပြီးဖြစ်ပါသည်ဟု ပြောဆိုလျှင်၊ ထိုစကားကို အမျိုးသမီးက လက်ခံလိုက်ပါက ရုပ်သိမ်းခြင်းပိုင်သည်။ လက်မခံပါက ရုပ်သိမ်းခြင်းမပိုင်ပါ။ (ခိုလာစွာ–၃၁)

 **တွလာက်ရပ်(ဂျ)အီ** ကို ပေးပြီးသော်လည်း ကာယကံသဂ္ဂအမှု ပြုခြင်းဟရာမ် မဖြစ်၊ အစ်ဒတ်ရက်အတွင်း ပြုလုပ်ပိုင်ခွင့်ရှိသည်။

- သို့ရာတွင် သုံးတွလာက် အပေးခံရသော အမျိုးသမီးကိုမူကား အခြား ယောကျ်ားတစ်ဦးနှင့် နေကာဟ်ပြု ပေါင်းသင်းပြီးနောက်ကွာရှင်းပေးခြင်း မပြုလုပ်သရွေ့၊ သို့တည်းမဟုတ် မသေသရွေ့ ကာလပတ်လုံး ပထမ လင်ယောကျ်ားအတွက် (ဟလာလ်) မဖြစ်ချေ။

(ဟေ့ဒါယာ–ခိုလာစွာ ၃၂)

- အမျိုးသမီးတစ်ယောက်ကို နေကာဟ်ပြုသောအခါ (ဟလာလဟ်)၏ ချွင်းချက်ဖြင့် နေကာဟ်ပြုခြင်းသည် မက္ကရူဟ်ဖြစ်သည်။
- ဟလာလဟ်၏ ချွင်းချက်ဆိုသည်မှာ (အီဂျာ(ဗ)နှင့်ကိုဘူလ်) ပြုလုပ်စဉ် ယောကျ်ားဖြစ်သူက အသင်မကို ပထမ လင်ယောကျ်ားအတွက် ဟလာလ်ဖြစ်စေရန် ကျွန်ုပ်က မဟာရ်ငွေ ဤမျှနှင့် နေကာဟ် ပြုလိုသည် ဆိုမှ မက္ကရူဟ်ဖြစ်သည်။
- ဤသို့ ဟလာလဟ်၏ ချွင်းချက်နှင့်ပြုလုပ်သော နေကာဟ်သည် မက္ကရူဟ် ဖြစ်လင့်ကစား နေကာဟ်ပိုင်သည့်၊ ပေါင်းသင်းခြင်းလည်း ပိုင်သည်။ ပေါင်းသင်းပြီးနောက် တွလာက် ပေးလိုက်ပါက ပထမ ယောကျ်ားအတွက်လည်း ဟလာလ်ဖြစ်စေသည်။

(ရှရာဟ်ဝေကာယဟ်+ဂျာမေ့အွတ်ရှိမူးဇ်–ခိုလာစွာ–၃၂)

- ဟလာလဟ်၏ ချွင်းချက်ကို ပြောဆိုဖော်ပြခြင်း မပြုပဲ၊ မိမိစိတ်တွင် နီယတ်ပြု ရည်စူးလျက် နေကာဟ်ပြုရာတွင် တစုံတရာ မက္ကရူဟ် မဖြစ်စေ။

ဤမျှမက တစ်ဦးတစ်ယောက်၏ ဘေးဒုက္ခကို ကယ်တင်ရန် ရည်စူးချက်ဖြင့် ပြုလုပ်ဆောင်ရွက်ပေးက ကောင်းမြတ်သော အကျိုးစဝါးဗ်ကို ရရှိမည် ဖြစ်သည်။

بنیت اصلاح حلالہ پر اجر وثواب ملنا

قيل المكروه اشتراط الزوج التحليل في القول لا في النية بل قد قيل انه مأجور بالنية لقصد الاصلاح «باب المطلقة ثلاثا مشكوة ص ٢٨٤ حاشيه ص ١٢»

(မစ်(ရှ)ကာသ်ကျမ်း၊ ဟာရှိယာ–ဒွတ်ရေမွတ်(ခ)သာရ်–ခိုလာစွာ–၃၂)

 သုံးတွလာက်၏နောက် ဤသို့တဖန် ပြန်၍နေကာဟ် ပြုလုပ်ပိုင်ခွင့်ကိုရရှိလာသော လင်ယောက်ျားအတွက် တဖန်တွလာက် သုံးကြိမ်အခွင့်အရေးကို အသစ် ပြန်လည် ပိုင်ဆိုင်ခွင့် ရရှိပြန်၏။ ဤအခွင့်အရေးကို တခါတည်း အသုံးချလိုက်သည် ဖြစ်စေ၊ အလီလီ အသုံးချသည်ဖြစ်စေ၊ သုံးစွဲပိုင်ခွင့်ရှိ၏။

ဤမျှခန့်သာ–လင်ယောက်ျားတစ်ဦးအတွက် ရှရီအတ်တရားတော်က အခွင့်အရေး ပေးထားချေ၏– (ခိုလာစွာ–၃၂)



# ဒုတိယအခန်း

# သုံးတွလာက်အကြောင်း

## (ပထမပိုင်း)

### တွလာက်နှင့်ပတ်သက်သော ကျမ်းမြတ်ကုရ်အာန်၏ အာယတ်တော်များ

### ရှင်းလင်းချက်

### အမျိုးသမီးတစ်ဦးကို ဒုက္ခပေးထားခြင်းမှ ကာကွယ်ရန် ကျမ်းမြတ်ကုရ်အာန်၏ ဥပဒေသတ်မှတ်ခြင်း

اَلطَّلَاقُ مَرَّتَانِ فَاِمْسَاكٌ بِمَعْرُوْفٍ اَوْ تَسْرِيْحٌ بِاِحْسَانٍ

جاہلیت میں مرد کے رجوع کی کوئی حد مقرر نہ تھی تین کیا دس بیس کے بعد بھی مرد کا عورت پر دعوٰی رہتا تھا اس عورت کو بڑی دقت پیش آتی تھی چنانچہ ایک عورت نے حضرت عائشہ صدیقہؓ سے یہی شکایت کی تب یہ آیت نازل ہوئی جسکا مطلب یہ ہے کہ دو طلاقوں تک رجوع کرنے کا اختیار ہے۔(تفسیر حقانی ۵۷)

**ဂျာဟီလီယတ်** ခေါ် အမိုက်အမှောင် ခေတ်ဆိုးတွင် လင်ယောကျ်ား တစ်ယောက်သည် မိမိ၏ဇနီးအား တွလာက်ပေး ကွာရှင်းရာ၌ အကန့်အသတ် မရှိသော အခွင့်အရေးကို ရရှိကြသဖြင့် တွလာက် (၁၀)ကြိမ် သာမက အကြိမ်(၁၀၀) ပေးလျှင်လည်း မပြတ်စဲချေ။ ပြန်လည်း ရုပ်သိမ်းပိုင်ခွင့် ရရှိသေး၏။ အမျိုးသမီး တစ်ဦးသည် လင်ယောကျ်ားနှင့် မသင့်မတင့် ဖြစ်ရလျှင် လင်ယောကျ်ားက အခြားအမျိုးသမီးနှင့် ပျော်ပါး နေထိုင်နိုင်စွမ်းရှိ၏။ သို့သော် ၎င်းအမျိုးသမီးသည်ကား ထိုယောကျ်ားက ပေါင်းလည်းမပေါင်း စွန့်လည်း မစွန့်သဖြင့် ရင်လေးဖွယ်ရာ ဒုက္ခနှင့် ရင်ဆိုင်နေရရှာ၏။

ဤသို့ အမိုက်အမှောင်ခေတ်တွင် လင်ယောက်ျားများ ရရှိထားသော အခွင့်အရေးကြောင့် မချိမဆန့် ခံနေရသော အမျိုးသမီးတစ်ဦးက အာအေရှာသခင်မထံ လာရောက်ပြီး ကျွန်မလင်ယောက်ျားသည် ကျွန်မကို စွန့်လည်းမစွန့် ပေါင်းလည်းမပေါင်း၊ တွလာက်အကြိမ်ပေါင်း အမြောက်အမြား ပေးလျှင်လည်း မပြတ်ဖူးတဲ့ ဒုက္ခမှာတော့ ရင်လေးဖွယ်ရာ ခံနေရပါသည်ဟု တိုင်ကြားလေရာ အထက်ပါ အာယတ်တော် ကျရောက်လာ၏။

လင်ယောက်ျား တစ်ဦးအတွက် ပြန်လည် ရုပ်သိမ်းပိုင်ခွင့်ရှိသော တွလာက်ကွာရှင်းခြင်းသည် နှစ်ကြိမ်သာဖြစ်သည်။ (၉)ကြိမ်၊ (၁၀)ကြိမ် အခွင့်အရေး မရရှိကြောင်း အမှောင်အမိုက်ခေတ်၏ ဓလေ့ထုံးစံဥပဒေကို ကျမ်းမြတ်ကုရ်အာန်က ပယ်ဖျက်ခဲ့၏။ ယင်းသို့ တွလာက်နှစ်ကြိမ် ပေးပြီးသော်လည်း လင်ယောက်ျားသည် အလိုရှိက ကောင်းမွန်စွာဖြင့် သိမ်းပိုက်၍ ပေါင်းသင်းနိုင်သည်။ သို့တည်းမဟုတ်က ကောင်းမြတ်စွာဖြင့် စွန့်ခွာပေးရမည်ဖြစ်၏။

## ကျမ်းမြတ်ကုရ်အာန်တွင် ပြန်လည် ရုပ်သိမ်းပိုင်ခွင့် မရှိသော တွလာက်ပါရှိခြင်း

**တွလာက်** ကွာရှင်းခြင်းသည် နှစ်ကြိမ် နှစ်ခါဖြစ်သည်။ ထို့နောက် ရုပ်သိမ်းလိုက ကောင်းမွန်စွာဖြင့် ပြန်လည် သိမ်းပိုက်ရန်ဖြစ်သည်။ သို့တည်းမဟုတ် ကောင်းမွန်စွာဖြင့် စွန့်လွှတ် ကွာရှင်းရန်သာဖြစ်သည်။

فَإِنْ طَلَّقَهَا فَلَا تَحِلُّ لَهُ مِنْ بَعْدُ حَتَّىٰ تَنْكِحَ زَوْجًا غَيْرَهُ
فَإِنْ طَلَّقَهَا فَلَا جُنَاحَ عَلَيْهِمَا أَنْ يَتَرَاجَعَا

ဤသို့ တွလာက် နှစ်ကြိမ်၏နောက် ကောင်းမွန်စွာ စွန့်လွှတ်ကွာရှင်းခြင်းကို တမန်တော်မြတ်ﷺ က တတိယ တွလာက်ဖြစ်ကြောင်း ညွှန်ကြား မိန့်တော်မူခဲ့သည်။ (သိရ်မိဇီ)

ထိုတွလာက် နှစ်ကြိမ် ပေးပြီးနောက် မဆိုင်းငံ့ပဲ ဆက်လက်ပြီး အကယ်၍

၎င်းသူက (တတိယ) တွလာက်ပေးလိုက်လျှင် ထိုအခါ အခြားယောကျ်ား တစ်ဦးနှင့် နေကာဟ်ပြု ပေါင်းသင်းခြင်း မပြုသရွေ့ ထိုအမျိုးသမီးသည် ၎င်းအတွက် လုံးဝမပိုင်တော့ချေ။ (ဝါ) ပြန်လည်ရုပ်သိမ်းပိုင်ခွင့် မရှိတော့ချေ။ (ဂျွဲဇ်အမှတ် ၂-ရကူ ၁၃)

ကုရ်အာန်တွင် လာရှိသမျှသော တွလာက်သည် ပြန်လည်ရုပ်သိမ်းပိုင်ခွင့် ရှိသော တွလာက်မျိုးချည်သာဟု ဆိုခြင်းသည် ဤအာယတ်တော်ကို ထိန်ချန်ဖုံးကွယ်ထားပြီး ပြောဆိုခြင်းမျိုးသာဖြစ်သည်။ ဤသည်ကား ကျမ်းမြတ်ကုရ်အာန်၏ အမိန့်တော် အဆုံးအဖြတ်ဖြစ်သည်။ တွလာက်သုံးကြိမ်ကို တစ်ချိန်တည်း တစ်ခါတည်းပေးသဖြင့် တွလာက်တစ်ကြိမ်သာ အထမြောက်သည်ဟုဆိုလျှင် တွလာက်နှစ်ကြိမ် အထမြောက်စေရန်အတွက် တွလာက်ပေါင်း (၆) ကြိမ်ကို ပေးနိုင်မည်၊ ပိုင်ဆိုင်မည်ဖြစ်သည်။ ထိုနည်းတူ တွလာက် (၃) ကြိမ် အထမြောက်စေရန်အတွက် တွလာက်ပေါင်း (၉) ကြိမ်ပေးနိုင်မည်၊ ပိုင်ဆိုင်မည်ဖြစ်သည်။

ဤသည်ကား အမိုက်ခေတ် အမှောင်ခေတ်ဆန်ဆန် ဥပဒေ သတ်မှတ်ရာရောက်သည်။ အမျိုးသမီးတစ်ဦး၏ ရင်လေးဖွယ်ရာဘဝကို ကာကွယ်ရာ မရောက်၊ အမျိုးသမီးများအတွက် ဘေးအန္တရာယ်ကို ကာကွယ်ပေးသော ကျမ်းမြတ်ကုရ်အာန်၏ အမိန့်တော်ကို အတိအလင်း ပြောင်ပြောင်ကြီး ဆန့်ကျင်ပြုလုပ်ရာရောက်သည်။

## (ထပ်ဆင့်ရှင်းလင်းရမည်ဆိုလျှင်)

၎င်းတို့ယူဆချက်အတိုင်း တစ်ချိန်တည်း တွလာက်သုံးကြိမ်သည် တစ်ကြိမ်သာဖြစ်၍ တွလာက်ပေါင်း(၆) ကြိမ်ပေးမှ တွလာက်(၂) ကြိမ်သာဖြစ်ချေမည်။ ထိုအခါ ကျမ်းမြတ်ကုရ်အာန်က လင်ယောကျ်ားများအတွက် ရုပ်သိမ်းပိုင်ခွင့်ရှိသော တွလာက်သည် (၂) ကြိမ်သာဖြစ်သည်ဟု ဆုံးဖြတ်သော်လည်း ၎င်းတို့က လင်ယောကျ်ားများအတွက် ပြန်လည်ရုပ်သိမ်းပိုင်ခွင့်ရှိသော တွလာက်သည် (၂)ကြိမ်မက (၆)ကြိမ်ဖြစ်သည်ဟု ဆိုရာ ရောက်နေလေတော့၏။ တစ်ကြိမ်တည်း သုံးတွလာက်သည် တွလာက်တစ်ကြိမ်သာဟု ပြောဆိုယူဆခြင်း၏ အဓိပ္ပါယ်သဘောတရားမှာ ဤသို့သက်ရောက်စေကြောင်း ကွက်ကွက်ကွင်းကွင်း တွေ့မြင် သိရှိကြစေရန်အတွက် ရှင်းလင်းတင်ပြရန်မှာ ကျွန်ုပ်တို့၏ တာဝန်ဖြစ်သည်။

## အလီလီဖြစ်စေ တစ်ကြိမ်တည်းဖြစ်စေ သုံးတွလာက်ပေးလျှင် တွလာက်သုံးကြိမ် အထမြောက်ကြောင်း ကျမ်းမြတ်ကုရ်အာန်တွင် ပါရှိခြင်း

اَلْيَوْمَ اَكْمَلْتُ لَكُمْ دِيْنَكُمْ وَاَتْمَمْتُ عَلَيْكُمْ نِعْمَتِيْ وَرَضِيْتُ لَكُمُ الْاِسْلَامَ دِيْنًا ط

﴿سورہ مائدہ ج ٦ ع ٥﴾

ကျမ်းမြတ်ကုရ်အာန်တွင် ယနေ့ ငါအသျှင်မြတ်က အသင်တို့၏ သာသနာတော်ကို လိုလေးသေးမရှိ ပြည့်စုံအောင် ပြုလုပ်ပြီးပြီးဟူသော ဗျာဒိတ်တော်အရ တွလာက်နှင့်ပတ်သက်၍ အလီလီခွဲပေးသည်ဖြစ်စေ၊ တစ်ကြိမ်တည်းပေးသည်ဖြစ်စေ၊ နှစ်မျိုးလုံးကို လိုလေးသေးမရှိအောင် ညွှန်ကြားတော်မူပြီးဖြစ်သည်။ သုံးတွလာက်ကို ခွဲ၍ အလီလီပေးခြင်းနှင့်ပတ်သက်၍ အာယတ်တော် လွန်ခဲ့လေပြီ၊ ၎င်းမှာ–

ပြန်လည် ရုပ်သိမ်းပိုင်ခွင့်ရှိသော တွလာက်သည် နှစ်ကြိမ်သာဖြစ်သည်။ အဆုံးတိုင်။ (ကုရ်အာန်)

ဤအာယတ်တော်သည် သုံးတွလာက်ကို ခွဲ၍ခွဲ၍ အလီလီပေးခြင်းကို ဖော်ပြသည်။ ထို့နောက် အောက်ပါ အာယတ်တော်တွင် သုံးတွလာက်ကို အလီလီ မဟုတ်ပဲ တစ်ကြိမ်တည်း ပေးသောအမိန့်ကို ညွှန်ပြသည်။

فَاِنْ طَلَّقَهَا فَلَا تَحِلُّ لَهٗ مِنْۢ بَعْدُ حَتّٰى تَنْكِحَ زَوْجًا غَيْرَهٗ
فَاِنْ طَلَّقَهَا فَلَا جُنَاحَ عَلَيْهِمَآ اَنْ يَّتَرَاجَعَآ اِنْ ظَنَّآ اَنْ يُّقِيْمَا حُدُوْدَ اللّٰهِ

قرآنی آیت کی تشریح ملاحظہ کیجئے

اس آیت میں حرف فاء کے ساتھ جو اکثر تعقیب بلا مہلت کیلئے آتا ہے، یہ بیان فرمایا کہ اگر دو مرتبہ طلاق دے چکنے کے بعد فوری طور پر تیسری طلاق دے دے تو اب وہ عورت اس مرد کیلئے حلال نہیں، تاوقتیکہ وہ شرعی قاعدہ کے مطابق کسی اور مرد سے نکاح نہ کرلے اور وہ اپنی مرضی سے طلاق دے اور عدت گزر جائے،

اس جگہ اگر حرف ثم یا اس قسم کا کوئی حرف ہوتا جو مہلت اور تاخیر پر دلالت کرتا ہے تو اس کا مطلب متعین طور پر یہ ہوسکتا تھا کہ ایک طہر میں ایک طلاق پھر دوسرے طہر میں دوسری طلاق یہی متعین ہے، مگر واقعہ یوں نہیں ہے یہاں حرف فاء ہے جس کا مطلب بظاہر یہ ہے کہ دو طلاق کے بعد اگر فی الفور تیسری طلاق بھی کسی نادان نے دیدی تو اب اسکی بی بی اسکے لئے حلال نہیں جبتک کسی اور مرد سے نکاح نہ کر لے، یہ اس صورت میں ہوسکتا ہے کہ ایک ہی مجلس میں ایک ہی جگہ تین طلاقیں دی جائیں، علامہ ابن حزم نے اس آیت سے استدلال کیا کہ یہ قول اکھٹی تین طلاقوں پر اور جدا جدا دونوں پر صادق آتا ہے، الغرض تین طلاقوں کا ایک ہی کلمہ اور ایک ہی مجلس میں واقع ہونا قرآن کریم کی اس آیت سے ثابت ہے،

عمدۃ الاثاث فی حکم طلقات الثلاث ۴۶

**ရှင်းလင်းချက်**

၎င်းဗျာဒိတ်တော်တွင် (ဖွအင်တွာလ္လကဟာ)ဟု (ဖွေ)အက္ခရာကို အသုံးပြုထား ၏။ အရဗီဘာသာစကားတွင် (ဖွေ)၏ အနက်အဓိပ္ပါယ်မှာ– ထို့နောက် အချိန်မကွာခြားဘဲ ဆက်၍ဟုရသည်။ (ဆွမ္မ)၏ အဓိပ္ပါယ်သာ ထို့နောက် အတန်ကြာပြီးမှဟုရသည်။ (နူရွလ်အန်ဝါရ်ကျမ်း–၁၁၉)

الفاء للوصل والتعقيب اى لكون المعطوف موصلا بالمعطوف عليه متعقبا له بلا مهلة و ثم للتراخى ﴿نور الانوار ص ۱۱۹﴾

၎င်းနေရာတွင် (ဆွမ္မအင်တွလ္လကဟာ)ဟု ပါရှိမှသာ ပထမသန့်ရှင်းချိန်တွင် ပထမတွလာက်၊ ဒုတိယ သန့်ရှင်းချိန်တွင် ဒုတိယတွလာက်၊ တတိယလတွင် တတိယ တွလာက်ကို ခွဲ၍ အသီးသီးပေးလျှင်ဟု အဓိပ္ပါယ်ကို အတည်ကောက်ယူ၍ ရနိုင်ချေမည်။

သို့ရာတွင် ၎င်းနေရာ၌ ၎င်းသို့ မပါရှိချေ။ (ဖွအင်တွာလ္လကဟာ)ဟု (ဖွေ)အက္ခရာကို အသုံးပြုထားသဖြင့် ၎င်း၏ ထင်ရှားသောအဓိပ္ပါယ်မှာ တွလာက်နှစ်ကြိမ်ပေးပြီးနောက် အကယ်၍ တတိယ တွလာက်ကို မဆိုင်းငံ့ပဲ ဆက်လက်၍ ပေးလိုက်လျှင် ထိုအခါ ၎င်းသူအတွက် ထိုအမျိုးသမီးသည် လုံးဝ ပြတ်စဲသွားသဖြင့် အခြားယောကျ်ားတစ်ဦးနှင့် နေကာဟ်ပြု ပေါင်းသင်းခြင်း မပြုပဲ ပြန်လည်ပေါင်းသင်းပိုင်ခွင့် မရှိတော့ချေ။ (ကုရ်အာန်)

၎င်းအဓိပ္ပါယ်သည် သုံးတွလာက်ကို တစ်နေရာတည်း တစ်ချိန်တည်းပေးမှသာ ဖြစ်နိုင်သည်။ ခွဲ၍ အလီလီပေးလျှင် အထက်ပါ အာယတ်တော်၏ ထင်ရှားသောအဓိပ္ပါယ် နှင့် မကိုက်ညီတော့ချေ။

ဤသို့ အရဗီဘာသာစကား၏ အနက်အဓိပ္ပါယ်ကို ထောက်ထား၍ အလ္လာမဟ် အစ်ဗ်နုဟာဇမ်က ဤအာယတ်တော်ကို အကိုးအကားတင်ပြကာ အဆုံးအဖြတ် ပေးထားသည်မှာ ကျမ်းမြတ်ကုရ်အာန်၏ ဤအာယတ် ဖျာဒိတ်တော်သည် သုံးတွလာက်ကို တစ်ကြိမ်တည်း တစ်ချိန်တည်းပေးသည်ဖြစ်စေ၊ ခွဲ၍ အလီလီပေးသည်ဖြစ်စေ နှစ်နည်း နှစ်မျိုးလုံးဖြင့် သုံးတွလာက် အထမြောက်ကြောင်းကို ဖော်ပြသည်။

ထို့ကြောင့် သုံးတွလာက်ကို တစ်ချိန်တည်း တစ်ကြိမ်တည်းပေး၍ သုံးတွလာက် အထမြောက်ခြင်းသည် ကျမ်းမြတ်ကုရ်အာန်၏ အထက်ပါ အာယတ်တော်ဖြင့် အတည်ဖြစ်ကြောင်းသိရှိရသည်။ (အွမ်ဒတွလ်အဆာဆ်ကျမ်း)

ဤအာယတ်တော်၏ ရှင်းလင်းချက်အရ ကုရ်အာန်တွင် လာရှိသမျှသော တွလာက်သည် ပြန်လည် ပေါင်းသင်းပိုင်ခွင့်ရှိသော တွလာက်မျိုးချည်သာဟု ဆိုခြင်း မမှန်ကန်ကြောင်း ထင်ရှား၏။

အထက်ပါ အာယတ်တော်တွင် တွလာက်ဆိုက ပြတ်ကြောင်း ပါရှိပါလျက် (ကျားကျားမီးယတ် တွလာက်ဆိုပြတ် ဆိုသော အမည်ခံပညာရှင်ကြီးများသည် အစ္စလာမ်ကို လက်တစ်လုံးခြား အလွဲသုံးစား ပြုနိုင်ရန်အတွက် တနည်း) ဟု ပြောဆိုခြင်းမှာ ဤသို့ပြောဆိုသူသာလျှင် အစ္စလာမ်ကို အလွဲသုံးစား စော်ကားသူ ကျမ်းမြတ်ကုရ်အာန်၏ အထက်ပါအာယတ်တော်ကို ငြင်းပယ်သူသာဖြစ်ရမည်။ ဤနည်းအတိုင်း ပါကစ္စတန်နိုင်ငံ မွတ်ဖ်တီချုပ် မော်လာနာ ရှဖီးကလည်း အောက်ပါအတိုင်း ရေးသားထား၏။

مفتی اعظم پاکستان مولانا محمد شفیع کا فیصلہ

قرآن اور سنت کی رو سے ہر طلاق زبان سے یا قلم سے نکلتے ہی مؤثر ہو جاتی ہے، اسکے مؤثر ہونے میں (۹۰) نوے دن کی مفروضہ شرط لگانا وہ بالکل قرآن اور سنت کی تحریف ہے، اور ان سے کھلا تصادم ہے، اسلئے کہ جب کسی نے تین طلاقیں دے دی تو خود بخود فوراً مؤثر بھی ہو گئی، ان کے بعد بغیر دوسری شادی کے آپس میں نکاح نہیں ہو سکتا، امام نووی نے شرح مسلم میں اس پر صحابہ کرام کا اجماع نقل کیا ہے، اور امت کے چاروں امام اس پر متفق ہیں، بلکہ بہت سے اہل ظاہر اور اہل حدیث بھی اس میں متفق ہیں،

جواھر الفقہ ج دوم ۳۸

# မော်လာနာ မွတ်ဖ်တီရှဖီး မွတ်ဖ်တီချုပ် ပါကစ္စတန်နိုင်ငံ၏ အဆုံးအဖြတ်

ကျမ်းမြတ်ကုရ်အာန်နှင့် ဟဒီဆ်တော်အရ မည်သည့်တွလာက်မဆို နှုတ်နှင့်ဖြစ်စေ၊ စာနှင့်ဖြစ်စေ၊ ပေးသည်နှင့်တပြိုင်နက် အထမြောက်သွားချေ၏။ ၎င်းတွင် ရက်ပေါင်း (၉၀) ကိုးဆယ်ကြာမှ အထမြောက်သည်ဟု၎င်း (အခြားမည်သည့် ချွင်းချက်ကိုလည်းကောင်း) မိမိတို့ဘက်မှ အပိုထည့်သွင်းခြင်းသည် ကျမ်းမြတ်ကုရ်အာန်နှင့် ဟဒီဆ်တော်ကို အတိအလင်း ဆန့်ကျင်ရုံသာမက ၎င်းကို ပြုပြင် ပြင်ဆင်ရာရောက်၏။

ထို့ကြောင့် မည်သူမဆို သုံးတွလာက်ပေးလိုက်လျှင် ပေးသည်နှင့် တပြိုင်နက် မဆိုင်းငံ့ပဲ သုံးတွလာက် အထမြောက်သွားချေ၏။ ထို့နောက် အခြားယောက်ျား တစ်ဦးနှင့် နေကာဟ်ပြု ပေါင်းသင်းခြင်း မပြုပဲ အချင်းချင်း နေကာဟ်ပြုလုပ်ပိုင်ခွင့် မရှိတော့ချေ။

ဤအဆုံးအဖြတ်သည် စွဟာဗဟ်ကြီးဘို့၏ တညီတညွတ်တည်းသော **အစ်ဂျ်မာအ်** ဖြစ်ရုံသာမက ဤအွမ္မတ်၏ ခေါင်းဆောင် အေမာမ်ကြီး လေးပါးလုံး၏ တစ်ခုတည်းသော အဆုံးအဖြတ်ဖြစ်သည်။ မပြောပလောက်သည့် လူတစုမှအပ တလောကလုံးရှိ မွတ်စလင်မ်အပေါင်း (၉၈)ရာခိုင်နှုန်းတို့သည်ကား အေမာမ်ကြီး(၄)ပါးတို့၏ အဆုံးအဖြတ်ကို ကျမ်းမြတ်ကုရ်အာန်၏ အလိုသဘောနှင့် အကိုက်ညီဆုံး အသိအမှတ်ပြု ယုံကြည်ကြသည်။

ထိုနည်းတူ ကျမ်းမြတ်ကုရ်အာန်ကို ပြုပြင်ရန် ဝေးလေစွ၊ အနည်းငယ် ထိခိုက်မည် ကို လက်မခံနိုင်ကြပေ။ (ဂျဝါဟေ့ရွလ်ဖွေကဟ်၊တွဲ ၂-၃၈)

**မှတ်ချက်။** တွလာက်ပေး ကွာရှင်းရာတွင် ဂဏန်းအရေအတွက်ကို ထည့်၍ ပြောဆိုပါက–ပြောဆိုသည့်အတိုင်းပင် တွလာက်အထမြောက်ချေ၏။ တွလာက်တစ်ကြိမ်ဆိုပါက တစ်ကြိမ်၊ နှစ်ကြိမ်ဆိုပါက နှစ်ကြိမ် အထမြောက်သည်။ ထို့ကြောင့် သုံးတွလာက်ဟု ပြောဆိုရာ၌ သုံးဆိုသော ဂဏန်းပါသည့်အတွက် တွလာက်သုံးကြိမ်လုံးပင် အထမြောက်သည်။

ဝေါဟာရတွင် သွားသွားသွား။ စားစားစား–ဆိုခြင်းမှာ စာလုံးသုံးလုံးမကပြောငြားသော်လည်း တစ်ကြိမ်သာဖြစ်သကဲ့သို့ တွလာက်တစ်ကြိမ် ပေးသည်ဟု လူအပေါင်း အမြောက်အမြားကို အကြိမ်ပေါင်းများစွာ ပြောသော်လည်း တစ်ကြိမ်တည်းသာဖြစ်သည်။ အချို့စာလုံးအသုံးအနှုန်းမှာ ဂဏန်းအရေအတွက် အတိအလင်း မပါရှိ

သဖြင့် ပြောဆိုသူ၏ ရည်စူးချက်ပေါ်တွင် မူတည်နေချေ၏။

ဤနည်းအတိုင်း (အလ်ဗတ္တား) ခေါ် အရဗီ အက္ခရာစာလုံးသည် ပြတ်စဲစေသော ဟု အဓိပ္ပာယ်ရရှိသဖြင့် ပြောသူ၏ရည်စူးချက်အပေါ် မူတည်နေချေ၏။

## တစ်ကြိမ်တည်းသုံးတွလာက်အထမမြောက်၊ တွလာက်တစ်ကြိမ်သာ ဟုဆိုခြင်းသည် ကျွန်ုပ်တို့အဟ်လေ့ စွန္နတ်၏ လမ်းစဉ်မဟုတ်ကြောင်း

فرقہ باطلہ کارد

داؤداورابن حزم وغیرہ ظاہری تو یہاں تک کہتے ہیں کہ اگر تین طلاقیں ایک بار دے گا تو ایک ہی واقع ہوگی، چونکہ شارع نے منع کیا ہے، اور ممنوع فعل کے وجود کا شرعاً معتبر نہیں، مگر ائمہ اربعہ اور جمہور اہل سنت والجماعت اسکے خلاف ہیں، وہ کہتے ہیں ممنوع فعل کے وجود کا انکار محسوس کا انکار کرنا ہے، زنا، چوری ہر چند ممنوع ہے مگر جو انکو عمل میں لائیگا اس پر زنا، چوری کی ضرور سزا شرعاً واقع ہوگی، احادیث صحیحہ سے بھی پایا گیا ہے کہ تین طلاقیں ایک بار دینے سے وہ تین ہی سمجھی گئیں اور حلالہ بغیر چارہ نہ ہوا

تفسیر حقانی جلد سوم ۵۸

တတ်(ဖ)စီရ်ဟက္ကာနီကျမ်းတွင် ရေးသားဖော်ပြထားသည်မှာ ဇွာဟိရီယာအသင်း နှင့် ၎င်းတို့ကဲ့သို့ ယူဆသူများထံတွင် တွလာက်သုံးကြိမ်ကို တစ်ခါတည်း ပေးလျှင် တွလာက်တစ်ကြိမ်သာ အထမြောက်သည်။ ၎င်းတို့၏ အကြောင်းပြချက်မှာ သုံးတွလာက် ကို တစ်ကြိမ်တည်းပေးခြင်းသည် ဟရာမ်ဖြစ်သည်။ စွန္နတ်တော်နှင့် ဆန့်ကျင်သည်။ ဗစ်ဒ်အတ်ဖြစ်သည်။ ထို့ကြောင့် တရားတော်က တားဆီးထားသောအရာသည် တရား မဝင် အထမမြောက်ချေဟူ၏။ အေမာမ်ကြီးလေးပါးနှင့် အဟ်လေ့စွန္နတ် ဝလ်ဂျမာအတ် ပညာရှင်အားလုံးတို့က ၎င်းတို့၏ ယင်းယူဆချက်ကို လက်မခံကြချေ။ အကြောင်းမူကာ အလုပ်တစ်ခုသည် ဟရာမ်ဟုလည်းကောင်း၊ ဗစ်ဒ်အတ်ဟုလည်းကောင်း၊ ပိတ်ပင် တားဆီးထားသဖြင့် ၎င်းကို ကျူးလွန် ပြုလုပ်လျှင် တရားမဝင် အထမမြောက်ဟု တလောကလုံးတွင် မည်သည့်ဥပဒေမျှ ဤသို့ မရှိချေ။ အသိဉာဏ်နှင့် လက်တွေ့ အတွေ့အကြုံက ၎င်းယူဆချက် မှားယွင်းကြောင်း ထောက်ခံသည်။ ဥပမာ– သူတစ်ဦး၏ ပစ္စည်းကို မခိုးနှင့်၊ ခိုးခြင်းသည် ကြီးလေးသောအပြစ်ဖြစ်သည်ဟု ထားဆီးထား၏။

သို့တားဆီးထားသဖြင့် နိုးငြားသော်လည်း အထမမြောက် (နိုးရာမရောက်)ဟု မည်သူ တစ်ဦးကမျှ မဆိုချေ။ သို့တည်းမဟုတ် သုံးကြိမ်နိုးမှ တစ်ကြိမ်သာ အထမြောက် သည်ဟု ဉာဏ်ရှိသူ မည်သူတစ်ဦးကမျှ မယူဆချေ။

တစ်ကြိမ်နိုးလျှင်တစ်ကြိမ်၊ သုံးကြိမ်နိုးလျှင်သုံးကြိမ် အပြစ်ဒဏ် ခံရမည်ဖြစ်သည်။ ထိုနည်းတူ သုံးတွလာက်ကို တစ်ကြိမ်တည်းပေးခြင်း ဟရာမ်ဖြစ်သည်ဟု ပိတ်ပင်တားဆီး ထားသည်။ သို့ရာတွင် ပေးလိုက်ပါက အထမြောက်မည်မှာ အထက်ပါ လက်တွေ့ဥပဒေ အတိုင်း တစ်ကြိမ်ပေးက တစ်ကြိမ်၊ သုံးကြိမ်ပေးက သုံးကြိမ် အထမြောက်မည်ပင်ဖြစ် သည်။

ဤသည်ကို မှန်ကန်သော ဟဒီဆ်တော်များက ထောက်ခံလျက်ရှိသည်။ ထို့ ကြောင့် သုံးတွလာက်ပေးပြီးသူသည် ဟလာလဟ်မပြုပဲ ပြန်လည်ပေါင်းသင်းနိုင်ရန် လမ်းမရှိတော့ချေ။ (တတ်(ဖ)စီရ်ဟက္ကာနီ- အတွဲ ၃- စာမျက်နှာ ၅၈)

## ကွာရှင်းခြင်းခံရသော အမျိုးသမီး၏ ဒုတိယနေကာဟ်ကို ရှက်ဖွယ်ကောင်းလှသည်ဆိုခြင်းမှာ ကျမ်းမြတ်ကုရ်အာန်၏ ဗျာဒိတ်တော်ကို အတိုက်အခံ ပြုလုပ်ရာရောက်ကြောင်း

قرآنی آیت کی تشریح

اذا طلقتم النسآء فبلغن اجلهن فلا تعضلوهن ان ينكحن ازواجهن اذا تراضوا بينهم بالمعروف ذلك يوعظ به من كان منكم يؤمن بالله واليوم الآخر ذلكم ازكى لكم واطهر والله يعلم وانتم لا تعلمون

اب ہم اس آیت کا صحیح محل بیان کرتے ہیں جاہلیت میں اکثر دستور تھا کہ لوگ اپنی بیویوں کو طلاق دیتے تھے اور اس غیرت سے کہ جو عورت انکے ہمبستر رہ چکی ہے دوسرے کے آغوش میں نہ جانے پائے اس عورت کو دوسرا نکاح بھی نہیں کرنے دیتے تھے اس بری رسم کو اللہ تعالی نے مٹایا اور یہ آیت نازل کی جسکا ترجمہ جب تم طلاق دو عورتوں کو اور وہ اپنی عدت کو پہونچیں تو انکو اس بات سے مت روکو کہ اپنے شوہروں سے نکاح کریں.(سیرت النعمان علامہ شبلی ۱۴۳)

အထက်ပါ အာယတ်တော် ကျရောက်လာရသော နောက်ခံအကြောင်းမှာ အမှောင်အမိုက်ခေတ်တွင် မိမိ၏ဇနီးမိန်းမများကို တွလာက်ပေး ကွာရှင်းပြီးသော်လည်း

မိမိတို့ ပေါင်းသင်းပြီးသော မိန်းမများကို အခြားယောကျ်ားတစ်ဦးနှင့် နေကာဟ်ပြု ပေါင်းသင်းနေထိုင်ခြင်းမှာ ရှက်စရာကောင်းလှသည်ဟု ထင်မြင်ယူဆကြသဖြင့် အခြား လင်ယောကျ်ားတစ်ဦးနှင့် နေကာဟ်ပြု ပေါင်းသင်းနေထိုင်ခွင့် မပြုကြချေ။

ယင်းအမျိုးသမီးမှာ ယောကျ်ားတစ်ဦးနှင့် နေကာဟ်ပြု ပေါင်းသင်းမိပြီးနောက် အဆင်မပြေ အကြောင်းမညီညွတ်သဖြင့် ကွာရှင်းခြင်းခံရလျှင် ရာသက်ပန် အခွင့်အရေး ဆုံးရှုံးရလေတော့၏။

ဤသို့ ပျက်စီးဆုံးရှုံးနေသော အခွင့်အရေးကို ပြန်လည်ပေးရန်အတွက် ကျမ်း မြတ်ကုရ်အာန်တွင် အထက်ပါ အာယတ်တော်ကို ချပေးတော်မူ၏။

**အဓိပ္ပာယ်မှာ** အသင်တို့သည် အမျိုးသမီးများကို တွလာက်ပေး ကွာရှင်းပြီးနောက် အစ်ဒတ်ရက် ကုန်လွန်ပြီးသောအခါ ယင်းအမျိုးသမီးများကို မိမိတို့ လင်ယောကျ်ားများနှင့် နေကာဟ်ပြု ထိမ်းမြားရန် နှစ်ဦးသဘောတူညီ ကြလျှင် ပိတ်ပင်တားဆီးခြင်း မပြုလုပ်ကြလေနှင့်။ ဤသို့ မတားဆီးကြ ရန် အသင်တို့အနက်မှ အလ္လာဟ်အသျှင်မြတ်နှင့် (ကိယာမတ်နေ့) နောက်ဆုံး တရားစီရင်မည့်နေ့ကို အီမာန် ယုံကြည်သူတို့အား ဆုံးမ ဩဝါဒပေးခြင်း ခံကြရသည်။ ဤသည်အသင်တို့အတွက် အပြစ်ဒုစရိုက် မှ သန့်ရှင်းစင်ကြယ်မှုဖြစ်သည်။ ဤသို့ အကြောင်းတရားကို အလ္လာဟ် အသျှင် သိတော်မူသည်။ အသင်တို့ မသိကြကုန်။ (ကုရ်အာန်)

ဤသို့ အမိုက်ခေတ်တွင် တွလာက်အပေးခံရသော အမျိုးသမီးများ၏ ဒုတိယ နေကာဟ်ကို ရှက်စရာကောင်းလှသည်ဟု ထင်မြင်ယူဆသူများ ရှိခဲ့ကြသဖြင့် ယင်းကိစ္စ ကို ဤသို့ မယူဆကြစေရန် ကျမ်းမြတ်ကုရ်အာန်က ပိတ်ပင်တားဆီးခြင်းဖြစ်သည်။

ယနေ့ထိုအမိုက်ခေတ်၏ ထင်မြင်ယူဆချက်အတိုင်း မည်သူမဆို ကွာရှင်းခြင်း ခံရသော အမျိုးသမီးအား အခြားယောကျ်ားနှင့် ချွင်းချက်မထားပဲ ဒုတိယ နေကာဟ် ပြုပေးခြင်းကို ရှက်ဖွယ်ကောင်းလှသည်၊ လူမဆန်လှသည့် လုပ်နည်းဟု ပြောဆို၍ ပိတ်ပင်တားဆီးပါလျှင် အထက်ပါ အာယတ်တော်ကိုပင် ရှက်ဖွယ်ရာကောင်းလှသော အာယတ်တော်ဟု ဆိုရာရောက်ချေမည်။ ကျမ်းမြတ်ကုရ်အာန်ကို အတိုက်အခံပြုရာ ရောက်ချေမည်တည်း။

## ကျမ်းမြတ်ကုရ်အာန်ကို မိမိသဘောနှင့် အလိုကောက်ယူသူ၏ ဖြစ်အင်

သုံးတွလာက်ကို တစ်ကြိမ်တည်းပေးသဖြင့်တွလာက်တစ်ကြိမ်သာ အထမြောက်သည်ဆိုခြင်း လုံးဝ မှားကြောင်း အာယတ်တော် ( ဂျွဇ်အမှတ် ၂– ရကူ ၁၃) နှင့် ဆန့်ကျင်ကြောင်းကို–

(၁) အေမာမ်ဗုခါရီကမြင်၍ ဗုခါရီကျမ်းတွင် တင်ပြထားသည်။

(၂) အေမာမ်အဗူဟနီဖွာသခင်ကလည်း ဆန့်ကျင်ကြောင်းကို မြင်သည်။

(၃) အေမာမ်မာလစ်ကလည်း ဆန့်ကျင်ကြောင်းကို မြင်သည်။

(၄) အေမာမ်ရှာဖိအီကလည်း ဆန့်ကျင်ကြောင်းကို မြင်သည်။

(၅) အေမာမ်အဟ်မဒ်ကလည်း ဆန့်ကျင်ကြောင်းကို မြင်သည်။

မည်သူမဆို အေမာမ်ကြီးများ၏ ယူဆချက်နှင့်ဆန့်ကျင်ပြီး ကျမ်းမြတ်ကုရ်အာန်ကို မိမိသဘောနှင့် အလိုကောက်ယူပါက ၎င်းနှင့်ပတ်သက်၍ တမန်တော်မြတ် ﷺ မိန့်တော်မူသည်မှာ–

عن ابن عباس قال قال رسول اللهِ صلى اللهُ عليه وسلم من قال فى القرآن برأيه ﴿اى من غير تتبع اقوال الائمة﴾ فليتبوأ مقعده من النار وفى رواية من قال فى القرآن بغير علم فليتبوأ مقعده من النار ﴿رواه الترمذى مشكوة صـ٣٥﴾

ကျမ်းမြတ်ကုရ်အာန်ကို မည်သူမဆို မိမိသဘောနှင့်(ဝါ)မတ်စ်အလာ ထုတ်နုတ်နိုင်စွမ်းရှိသော (အေမာမ်ကြီး) ပုဂ္ဂိုလ်များ၏ ယူဆပုံကို မလေ့လာ မသိရှိပဲ အဓိပ္ပါယ်ပြန်ဆိုပါလျှင် ထိုသူသည် မိမိနေရာဌာန(ဂျဟန္နမ်)ငရဲ၌ ပြုရမည်ဖြစ်သည်။

ဟဒီဆ်တော်တစ်ခုတွင် အတိအလင်း လာရှိသည်။

တမန်တော်မြတ် ﷺ အမိန့်ရှိသည်မှာ မည်သူမဆို ကျမ်းမြတ်ကုရ်အာန်ကို မိမိသဘောနှင့် ယူဆပြောဆိုလျှင် မှန်ကန်ငြားသော်လည်း အမှားပြုသူဖြစ်၏။ (ဤအမိန့်သည် **ရှရာအ်** တရားဥပဒေ၏ အမိန့်ဖြစ်သည်။)

عن جندب قال قال رسول اللهِ صلی اللہُ علیه وسلم من قال فی القرآن برأیه فاصاب فقد اخطاء ای مخطیٔ یحسب الحکم الشرعی ﴿مشکوة﴾

တမန်တော်မြတ် ﷺ မိန့်တော်မူသည်မှာ ကျမ်းမြတ်ကုရ်အာန်နှင့် ပတ်သက်၍ အတိုက်အခံပြုလုပ်ခြင်းသည် ကု(ဖ္ဖ)ရ် အမိန့်မနာခံခြင်း၊ ငြင်းပယ်ခြင်းတစ်ရပ်ပင်ဖြစ်သည်။

ကျမ်းမြတ်ကုရ်အာန်ကို အတိုက်အခံပြုခြင်းဆိုသည်မှာ အေမာမ်ကြီးများက အတိအလင်း သတ်မှတ်ချက် ချထားသောအရာကို မိမိယူဆချက်နှင့် မကိုက်ညီသဖြင့် ပယ်ဖျက် ငြင်းပယ်ခြင်းကို ဆိုလိုသည်။

عن ابی هریرة قال قال رسول اللهِ صلی اللہُ علیه وسلم المرء فی القرآن کفر رواه احمد وابوداؤد وفی الحاشیة المراء الجدال فی القرآن ان یرد الحکم المنصوص علیه لشبهة یجدها فی نفسه ﴿مشکوة ص ۳۵﴾



# တတိယအခန်း

## သုံးတွလာက်နှင့်ပတ်သက်သော ဟဒီဆ်တော်များ၏ ရှင်းလင်းချက် အေမာမ်ပုခါရီ၏ အဆုံးအဖြတ်

بخاری شریف

باب من اجاز طلاق الثلاث لقوله تعالٰی اَلطَّلَاقُ مَرَّتَانِ فَاِمْسَاكٌۢ بِمَعْرُوْفٍ اَوْ تَسْرِيْحٌۢ بِاِحْسَانٍ ﴿بخاری جلد۲ ص۷۹۱﴾ وضح البخاری هذه الترجمة اشارةً الٰی انَّ من لم یجز وقوع طلاق الثلاث فهو شاذ مخالف لاهل السنة انما تعلق به اهل البدع و من لا یلتفت الیه لشذوذه عن الجماعة انتهی ﴿حاشیه بخاری ص۲﴾

تین طلاقوں کو ایک سمجھنے والے فرقہ باطلہ کے رد میں امام بخاریؒ نے اس باب کو قائم کیا اور فرمایا کہ تین طلاقوں کا واقع و جائز ہونا اس آیت سے ثابت ہے.

### သုံးတွလာက်ကို တစ်ကြိမ်တည်းပေးလျှင်အထမြောက်ကြောင်းတင်ပြသူအခန်း

#### ပုခါရီကျမ်း၏ရှင်းလင်းချက်

သုံးတွလာက်ကို တစ်ကြိမ်တည်း ပေးခြင်းဖြင့် တွလာက်သုံးကြိမ် အထမြောက်သည်ဆိုခြင်းမှာ အထက်ဖော်ပြပါ အာယတ်တော်ကြောင့် ဖြစ်သည်။ (တစ်ကြိမ်သာ အထမြောက်သည်ဆိုခြင်းမှာ အထက်ပါ အာယတ်တော်နှင့် ဆန့်ကျင်သည်။)

(ပုခါရီကျမ်း တွဲ ၂- စာမျက်နှာ ၇၁၉)

အေမာမ်ပုခါရီသည် မိမိပညာမျက်စိဖြင့် ကျမ်းမြတ်ကုရ်အာန်၏ အဓိပ္ပါယ်အလိုသဘောကို သဘောပေါက်မှုကြောင့် သုံးတွလာက်ကို တွလာက်တစ်ကြိမ်သာဟု ဆိုရာ၌ (လင်ယောကျ်ားများအတွက် ပြန်လည်ရုပ်သိမ်းပိုင်ခွင့်ရှိသော တွလာက်သည် (၂)ကြိမ်သာဖြစ်သည်)ဟူသော အာယတ်တော်ကို ဆန့်ကျင်စေကြောင်း (ဆန့်ကျင်ပုံမှာ (၂)ကြိမ် အစား (၆)ကြိမ်ဟုဆိုရာ ရောက်ကြောင်းကို မြင်တော်မူသည်။

ထို့ကြောင့် တစ်ကြိမ်တည်း သုံးတွလာက်ကို တွလာက်သုံးကြိမ် အထမြောက်ကြောင်း လက်ခံ၊ နာခံ၊ ကျင့်သုံးမှသာ အထက်ပါ အာယတ်တော်၏ အမိန့်တော်ကို နာခံရာ လက်ခံကျင့်သုံးရာ ရောက်ချေမည်ဟု ရှင်းလင်းတင်ပြတော်မူ၏။

**ရှင်းလင်းချက်။** ။ တွလာက်သည် နှစ်ကြိမ် နှစ်ခါသာဖြစ်သည်။ ၎င်း၏အဓိပ္ပါယ်မှာ တစ်ကြိမ်ပြီး တစ်ကြိမ်ဟုရသည်။ သို့အဓိပ္ပါယ်ရသော်လည်း နှစ်ကြိမ်လုံး စုပေါင်းပြီး တခါတည်း ပေးလိုက်ပါက နှစ်ကြိမ်လုံးပင် အထမြောက်သည်။

ထိုနည်းတူ သုံးကြိမ်ကို စုပေါင်းပြီး တခါတည်း ပေးလိုက်လျှင်လည်း သုံးကြိမ်လုံး ပင် အထမြောက်မည်သာဖြစ်၏။

ထို့ထက်ကောင်းမွန်သော အကြောင်းပြချက်မှာ (သို့တည်းမဟုတ် တတိယ တွလာက်ပေး၍ ကောင်းမွန်စွာ စွန့်လွှတ်ရမည်။) ဟူသော အာယတ်တော်သည် ဥပဒေ အရ အများနှင့်သက်ဆိုင်သည်။ ၎င်းကို **အာမ်** ဟုခေါ်သည်။ ထို **အာမ်** ခေါ် ဝေါဟာရ တွင် သုံးတွလာက်ကို တစ်ကြိမ်တည်း ပေးခြင်းသည်လည်း ပါဝင်အကျုံးဝင်သည်။ ယင်းအများနှင့် သက်ဆိုင်သော **အာမ်**ကို **ခါစ်** ပြုလုပ်ခြင်း(ဝါ) အချို့ပါသည်၊ အချို့ မပါဟုဆိုခြင်းမှာ ကျမ်းမြတ်ကုရ်အာန်ကို ပြုပြင် ပြင်ဆင်ရာ ရောက်သည်။ န**အူးသို့ ဗေလ္လာဟိမင်မ်သာလစ်က်** ယင်းသို့ ကုရ်အာန်ကျမ်းတော်မြတ်ကို ပြုပြင် ပြင်ဆင်သူများ တွင် ပါဝင်ခြင်းမှ ကင်းရန် ဆုပန်ပါ၏။

(၁) ဤသို့ အိုင်နီကျမ်းက ရေးသားဖော်ပြထားသည်။

(၂) ဤသို့ပင် ခိုင်ရှလ်ဂျာရီကျမ်း၌လည်း ပါရှိသည်။

(၃) ထို့အတူ ကိရ်မာနီကျမ်းတွင်လည်း ပါသည်။

(ဗုခါရီကျမ်း တွဲ ၂-၇၉၁ အောက်ခြေမှတ်စု)

သာဗေ့အီတို့ခေတ်မှစ၍ သာသနာ့ပညာရှင် အများစု၊ ထို့ပြင် အေမာမ် နခအီ၊ အေမာမ်ဆောင်ရီ၊ အေမာမ်အဗူဟနီဖွာနှင့် နောက်လိုက်များ၊ အေမာမ်မာလစ်က်- အေမာမ်ရှာဖေအီနှင့် နောက်လိုက်များ၊ အေမာမ်အဟ်မဒ်နှင့်နောက်လိုက်များ၊ ထို့ပြင် များစွာသော-

သာသနာ့ပညာရှင်တို့က တညီတညွတ်တည်း ဆုံးဖြတ်ချက် ချမှတ်ကြသည်မှာ (တစ်ကြိမ်တည်း သုံးတွလာက်ပေးလျှင် တွလာက်သုံးကြိမ်ပင် အထ မြောက် ၏။)သို့သော် ပြစ်မှုကျူးလွန်သူဖြစ်၍ အပြစ်ဒဏ်ခံရမည် ဖြစ်သည်။

ဤဆုံးဖြတ်ချက်ကို ဆန့်ကျင်သူတို့သည် အဟ်လေ့စွန္နတ်ဝလ် ဂျမာ အတ်ကို ဆန့်ကျင်သူများဖြစ်ကြသည်။ ဤဆုံးဖြတ်ချက်ကို လက်မခံသူတို့သည် လမ်းမှား သော **(ဗစ်ဒ်အသီ)**တို့သာ ဖြစ်ကြသည်။ ယင်းတို့ကို အဟ်လေ့စွန္နတ်လမ်းစဉ် လိုက်နာသူ တို့က ဂရုမစိုက်ကြချေ။

ထို့နောက် တမန်တော်မြတ် ﷺ ခေတ်နှင့် အဗူဗကရ်သခင်တို့ ခေတ်များတွင် သုံးတွလာက်ကို တစ်ချိန်တည်း ပေးခြင်းသည် တွလာက်တစ်ကြိမ်သာ ဖြစ်ခဲ့သည်ဟု အချို့က တင်ပြယူဆခြင်းမှာ လုံး၀ မှားကြောင်း အေမာမ်ဗုခါရီက အောက်ပါဟဒီဆ်တော်ကို တင်ပြထား၏။

بعض لوگوں کا یہ خیال ہے کہ حضور اکرم صلی اللہ علیہ وسلم اور حضرت ابوبکرؓ کے زمانہ میں تین طلاق ایک سمجھی جاتی تھی اس باطل اور غلط خیال کو امام بخاری نے حدیث ذیل سے رد فرمایا کہ حضور اکرم صلی اللہ علیہ وسلم کے سامنے ایک صحابی عویمر نامی نے بیک وقت تین طلاقیں دی آپ ﷺ نے اس پر انکار نہ فرمایا تو اس حدیث تقریری سے وقوع ثابت ہوا. (بخاری جلد ثانی ۷۹۱)

**حدثنا عبد اللہ بن یوسف الخ فقال رسول اللہ صلی اللہ علیہ وسلم قد انزل فیک وفی صاحبتک فاذھب فأت بھا قال سھل فتلاعنا وانا مع الناس عند رسول اللہ صلی اللہ علیہ وسلم فلما فرغا قال عویمر کذبتُ علیھا یا رسول اللہ ان امسکتھا فطلقھا ثلاثا قبل ان یأمرہ رسول اللہ صلی اللہ علیہ وسلم قال ابن شھاب فکانت تلک سنۃ المتلاعنین ﴿بخاری جلد ثانی ص ۷۹۱﴾**

အိုဝိုင်မိရ်ခေါ် စွဟာဗီတစ်ဦးက တမန်တော်မြတ် ﷺ ထံ လာရောက်၍ ဤသို့ လျှောက်ထား၏။ ယာရစူလလ္လာဟ် ﷺ လူတစ်ဦးသည် မိမိဇနီးအား အခြားယောကျ်ား တစ်ဦးနှင့် ပေါင်းသင်းနေထိုင်သည်ကို တွေ့ရလျှင် သတ်ပစ်နိုင်ပါသလား၊ သို့တည်း မဟုတ် အဘယ်ပြုလုပ်ရပါမည်နည်း။

ထိုအခါ တမန်တော်မြတ်ﷺ က အသင်နှင့်ပတ်သက်၍ (ဝဟီ)ဗျာဒိတ်တော်ကျရောက်ခဲ့ပြီးဖြစ်၏။ အသင့်ဇနီးကို ခေါ်ယူလာပါဟု မိန့်တော်မူ၏။ (ရာဝီကတဆင့်ပြောပြသည်မှာ)ကျွန်ုပ်သည် တမန်တော်မြတ်ﷺ ထံရှိနေစဉ် အိုဝိုင်မိရ်နှင့်ဇနီး လာရောက်ကြပြီး **လိအာန်ပြု** ကျမ်းကျိန်ကြကုန်၏။ ပြီးစီးသောအခါ အိုဝိုင်မိရ်က (ယာရစူလလ္လာဟ်ﷺ ) အကယ်၍ ထိုဇနီးအား ပြန်လည်သိမ်းပိုက်ထားမည်ဆိုလျှင် ကျွန်တော်မျိုး မုသားပြောရာရောက်ချေမည်ဆို၍ မိမိဇနီးအား တမန်တော့်ရှေ့မှောက်တွင်ပင် ခွင့်ပြုချက်မရသေးပဲ သုံးတွလာက်ကို တစ်ကြိမ်တည်းပေးလိုက်၏။ (အိဗ်နုရှိဟာဗ်အမိန့်ရှိသည်မှာ) အိုဝိုင်မိရ်၏

တွလာက်ပေးပုံ၊ ပြုလုပ်ပုံသည် အချင်းချင်းကျိန်ဆိုသူ၊ အားလုံးအတွက် စံနမူနာ (စွန္နတ်လမ်းစဉ်) စတင်ဖြစ်ခဲ့ချေ၏။ (ဗုခါရီ)

ဤသို့ စွဟာဗီတစ်ဦးက တမန်တော့်ရှေ့မှောက်တွင် တစုံတရာပြုလုပ်၍ တမန်တော်မြတ် ﷺ က တွေ့မြင်သိရှိပါလျက် ၎င်းကို ပိတ်ပင်တားဆီးမှု မပြုလုပ်လျှင် အတည်ဖြစ်သည်ဟု သိရှိရ၏။ အကယ်၍ ခွင့်ပြုချက် မရှိလျှင် မုချ တားဆီးတော်မူမည်ဖြစ်သည်။ ဤသည်ကို **ဟဒီဆ်သတ်ကရီရီဟု** ခေါ်၏။ (ဗုခါရီ တွဲ ၂-၇၉၁)

## صحيح مسلم

ان ابا الصهباء قال لابن عباس هات من هناتك الم يكن الطلاق الثلاث على عهد رسول الله صلى الله عليه وسلم وابى بكر واحدة فقال فقد كان ذلك فلما كان فى عهد عمر تتابع الناس فى الطلاق فاجازه عليهم فاختلف العلماء فى تاويله فالاصح انَّ معناه انه كان فى اول الامر اذا قال لها اَنتِ طَالِقٌ اَنتِ طَالِقٌ اَنتِ طَالِقٌ ولم ينو تاكيدًا ولا استينافا يحكم بوقوع طلقة لقلة ارادتهم الاستيناف بها بذالك فحمل على الغالب الذى هو ارادة التاكيد فلما كان فى زمن عمر كثر استعمال الناس بهذه الصيغة وغلب منهم ارادة الاستيناف بها حملت عند الطلاق على الثلاث عملًا بالغالب السابق الى الفهم منها وصار الناس فى زمن عمر يوقعون الثلاث دفعة فنفذه عمر وعلى هذا يكون اخبارا عن اختلاف عادة الناس لا عن تغير حكم فى مسئلة واحدة ﴿حاشيه صحيح مسلم﴾

## မွတ်စလင်မ်ကျမ်းရှင်၏ရှင်းလင်းချက်

တမန်တော်မြတ် ﷺ သည် တစ်ကြိမ်တည်း သုံးတွလာက်ကို တွလာက်တစ်ကြိမ်သာ သတ်မှတ်တော်မူသည် ဆိုခြင်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း ဖော်ပြထား၏။

အဗူစွဟ်ဗာက အဗ်ဒွလ္လာဟ်ဗင်န်အဗ်ဗားစ်အား တွလာက်သုံးခါသည် တမန်တော်မြတ် ﷺ ခေတ်နှင့် အဗူဗကရ်သခင်တို့ခေတ်တွင် တစ်ကြိမ်သာဖြစ်ခဲ့ပါသလားဟု

မေးရာ ထိုစွဟာဗဟ်က ဟုတ်ကဲ့ပါ၊ ဖြစ်ခဲ့ပုံမှာ အုမရ်သခင်၏ခေတ် ရောက်သောအခါ လူ အပေါင်းတို့သည် တွလာက်နှင့်ပတ်သက်၍ ဆက်ကာဆက်ကာ ပေးလာကြသဖြင့် ၎င်းကို အုမရ်သခင်က ခွင့်ပြု အတည်ပြုလိုက်ခြင်း ဖြစ်ပါသည်ဟု အဖြေပေးခဲ့၏။

## ရှင်းလင်းချက်

အုမရ်သခင်၏ လက်ထက်ရောက်မှ လူအပေါင်းတို့က တွလာက်ပေးခြင်းကို တစ်ကြိမ်တည်း ဆက်ကာဆက်ကာ ပေးလာကြသည်ဆိုခြင်းမှာ တမန်တော်မြတ် ﷺ ခေတ်နှင့် အဗူဗကရ်သခင်တို့ခေတ်တွင်ရှိသော စွဟာဗီတို့သည်ကား တွလာက်ကို ဆက်ကာဆက်ကာ ပေးလေ့မရှိကြောင်းသိရ၏။

ထိုခေတ်တွင်ရှိသော စွဟာဗီတို့သည် အဘယ်သို့လျှင် သုံးတွလာက်ကို တစ်ကြိမ်တည်း ပေးနိုင်အံ့၊ စွဟာဗီတို့သည်ကား သိက္ခာသမာဓိနှင့်ပြည့်စုံသူ၊ အပြစ်ဒုစရိုက်ကို ရှောင်ကြဉ်သူများဖြစ်ကြသည်၊ အရှင်တော်တုန်လှုပ်စေအောင် ဆိုးရွားသော (ဟရာမ်) ပြစ်မှု၊ ဗစ်ဒ်အတ်ပြစ်မှုတစ်ခုကို အဘယ်သို့ ပြုလုပ်နိုင်ကြအံ့။

ထို့ကြောင့် ပညာရှင်များက ဖြစ်ပျက်ပုံကို ဤသို့ ရှင်းပြကြ၏။

اَنتِ طَالِقٌ اَنتِ طَالِقٌ اَنتِ طَالِقٌ

တမန်တော်မြတ် ﷺ ခေတ်နှင့် အဗူဗကရ်သခင်တို့ခေတ်တွင် (မင်းကိုတွလာက်၊ မင်းကိုတွလာက်၊ မင်းကိုတွလာက်၊)ဟု ပြောဆိုခြင်းအားဖြင့် လေးနက်စေခြင်းကို ရည်စူးခြင်းနှင့် အသစ်တဖန် ရည်စူးခြင်းတို့အနက် မည်သည့် ရည်စူးခြင်းကိုမျှ မရည်စူးပဲ ပြောဆိုခဲ့သော် တွလာက်တစ်ကြိမ်သာ အထမြောက်ကြောင်း ဆုံးဖြတ်လေ့ရှိ၏။

အကြောင်းမူကား ဤသို့ ရည်စူးပိုင်ခွင့်ရှိသော စာလုံးအက္ခရာကို အသုံးပြု ပြောဆိုပြီး သုံးတွလာက် ရည်စူးသူတို့သည် တမန်တော်မြတ် ﷺ ခေတ်နှင့် အဗူဗကရ်သခင်တို့ခေတ်တွင် လုံးဝ မရှိခဲ့ပေ။

ဝေါဟာရတွင် (သွား၊ သွား၊ သွား) (စား၊ စား၊ စား)ဟု ပြောဆိုခြင်းမှာ တစ်ကြိမ်သာ ဖြစ်သကဲ့သို့ပင်ဖြစ်၏။ အထက်ဖော်ပြပါ အသုံးအနှုန်းကို ပြောဆို၍ နောက်ထပ်တစ်ကြိမ်ဟု ရည်စူးခြင်းမျိုးကို စွဟာဗီများ မပြုလုပ်ကြချေ။

အုမရ်သခင်လက်ထက် ရောက်သောအခါ တွလာက်နှင့်ပတ်သက်၍ ပိတ်ပင်တားဆီးထားသော (သုံးတွလာက်)ကို ကျူးလွန်သူများ ပေါ်ပေါက်လာချေ၏။ (မင်းကိုတွလာက်၊ မင်းကိုတွလာက်၊ မင်းကိုတွလာက်၊)ဟု ပြောဆိုနည်းတွင် လေးနက်စေရန်ရည်စူးခြင်းကို မပြုတော့ပဲ သီးသန့်ဟုလည်းကောင်း၊ နောက်ထပ်ဟုလည်းကောင်း၊ ယူဆလာသောအခါ အုမရ်သခင်က ၎င်းရည်းစူးခြင်းကို စုံးစမ်းသိရှိရသဖြင့် အထက်ပါတွလာက်ပေးနည်းဖြင့် သုံးတွလာက် အထမြောက်ကြောင်း အတည်ပြု သတ်မှတ်ပေးခြင်းဖြစ်သည်။

သို့ရှိရာ တမန်တော်မြတ်ﷺ ခေတ်တွင် တွလာက်သုံးကြိမ် ရည်စူးသူကား လုံးဝ မရှိခဲ့ပေ။ အုမရ်သခင်ခေတ်တွင် သုံးတွလာက်ကို တစ်ကြိမ်တည်းပေးသူများ ပေါ်ပေါက်လာသဖြင့် ၎င်းကို အတည်ပြုခြင်းသာဖြစ်သည်။

ထို့ကြောင့် အုမရ်သခင်က တမန်တော်မြတ်ﷺ နှင့် အဗူဗကရ်သခင်တို့၏ လမ်းစဉ်နှင့် ဆန့်ကျင်ပြီး ဥပဒေကို ပြုပြင် ပြင်ဆင်ခြင်း မဟုတ်ပေ။ လူအများ၏ ဓလေ့အသုံးအနှုန်း ပြောင်းလွဲလာခြင်းကို ဖော်ပြခြင်းသာဖြစ်သည်။

## အဗူဒါဝူဒ်ကျမ်း၏ရှင်းလင်းချက်

### ابوداؤد

ان ركانة بن عبديزيد طلق امرأته سهيمة البتة فاخبر النبی صلی اللہ علیہ وسلم بذالك وقال واللہ ما اردت الا واحدة فقال رسول اللہ صلی اللہ علیہ وسلم واللہ ما اردت الا واحدة فقال ركانة واللہ ما اردت الا واحدة فردها اليه رسول اللہ صلی اللہ علیہ وسلم فطلقها الثانية في زمان والثالثة في زمان عمرؓ

چونکہ کنایہ کی طلاق میں نیت کا دخل بھی ہوتا ہے اور لفظ بتہ تین کا احتمال بھی رکھتا ہے اسلئے تو آپ نے انکو قسم دی اگر تین کے بعد رجوع کا حق ہوتا اور تین ایک سمجھی جاتی تو آپ ﷺ انکو قسم نہ دیتے کیونکہ مراجعت کا حق تو بہرحال باقی تھا اور اس سے یہ بھی ثابت ہوا کہ ایک ہی مجلس اور ایک ہی کلمہ سے تین طلاقیں واقع ہو جاتی ہیں اگر ایسا نہ ہوتا تو آپ ﷺ انکو قسم نہ دیتے۔ (عمدۃ الاثاث فی حکم طلقات الثلاث ابوداؤد جلد اول ۳۰۰)

ရုကာနပ်ခေါ် စွဟာဗီက မိမိဇနီး စိုဟိုင်မာအား **(အလ်ဗတ်သား)** ပြတ်စဲစေသော စာလုံးကို အသုံးပြု၍ တွလာက်ပေးခဲ့၏။ ထို့နောက် တမန်တော်မြတ်ﷺ ထံ လာရောက်ပြီး 'ကျွန်တော်မျိုးသည် တွလာက်တစ်ကြိမ်ကိုသာ ရည်စူးပေးခဲ့ပါသည်'ဟု လျှောက်ထား၏၊ ထိုအခါ တမန်တော်မြတ်ﷺ က 'ကျိန်စေတော်မူပြီး အသင်သည် တွလာက်ကို တစ်ကြိမ်သာ ရည်စူးပေးခဲ့ခြင်း မှန်ကန်ပါသလား'ဟု ထပ်ဆင့်မေးလေရာ စွဟာဗီ ရုကာနပ်က 'ဟုတ်ကဲ့ပါ တမန်တော်၊ ကျွန်တော်မျိုးသည် တွလာက်တစ်ကြိမ်ကိုသာ ရည်စူးပေးခဲ့ခြင်း မှန်ကန်ကြောင်း ကျိန်ဆိုပြောပါသည်'ဟု ပြန်လည် လျှောက်ထားသဖြင့် တမန်တော်မြတ်ﷺ က စိုဟိုင်မာခေါ် ဇနီးနှင့် ပြန်လည် ပေါင်းသင်းစေတော်မူခဲ့၏။

တမန်တော်မြတ်ﷺ က တွလာက်တစ်ကြိမ်ကို တစ်ကြိမ် သတ်မှတ်တော်မူခြင်း ဖြစ်သည်။ တွလာက်သုံးကြိမ်ကို တစ်ကြိမ် သတ်မှတ်ခြင်း မဟုတ်ချေ။

(အဗူဒါဝူဒ် တွဲ ၁-စာမျက်နှာ ၃၀၀)

## ယင်းဟဒီဆ်၏ ရှင်းလင်းချက်

**(အလ်ဗတ်သား)**ဆိုသော စာလုံးသည် ပြတ်စဲစေသောဟု အဓိပ္ပါယ်ရရှိသဖြင့် တွလာက်ကို တစ်ကြိမ် ရည်စူးလျှင်လည်း ဖြစ်နိုင်သည်။ သုံးကြိမ် ရည်စူး၍လည်းရသည်။ ဤသို့ အဓိပ္ပါယ် ကောက်ယူနိုင်သော စာလုံးဖြစ်၍ ပြောသူ၏ ရည်စူးချက်အပေါ် မူတည်နေချေ၏။

ထို့ကြောင့် တမန်တော်မြတ်ﷺ က ကျိန်ဆိုစေကာ မေးတော်မူရခြင်းဖြစ်သည်။

အကယ်၍ သုံးတွလာက်ကို တစ်ကြိမ်တည်း ပေးသဖြင့် တွလာက်တစ်ကြိမ်သာ အထမြောက်ကြောင်း ဥပဒေ သတ်မှတ်ပြီးဖြစ်မည်။ သို့တည်းမဟုတ် တွလာက် သုံးကြိမ် ပေးပြီးသော်လည်း ပြန်လည် ပေါင်းသင်းပိုင်ခွင့် ရှိမည်ဆိုလျှင် တမန်တော်မြတ်ﷺ က ၎င်းအား ကစမ် ကျိန်ဆိုစေ၍ ထပ်မံမေးရန် လုံးဝ မလိုချေ။ အဘယ်ကြောင့်ဆိုသော် တစ်ကြိမ်တည်း သုံးတွလာက်သည် တစ်ကြိမ်တည်းသာဖြစ်သည်ဟု ဥပဒေ သတ်မှတ်ပြီး ဖြစ်၍ တွလာက်ကို တစ်ကြိမ်ရည်စူးသည်ဖြစ်စေ၊ သုံးကြိမ်ရည်စူးသည်ဖြစ်စေ၊ တွလာက်တစ်ကြိမ်သာ အထမြောက်ကြောင်း သိရှိရပြီးဖြစ်သဖြင့် ကစမ်ကျိန်ဆိုစေ၍ ထပ်ဆင့်မေးရန် လုံးဝမလိုချေ။

သို့ရာတွင် ဖော်ပြပါ ဥပဒေသတ်မှတ်ချက် လုံးဝမရှိ၊ တွလာက်တစ်ကြိမ် ရည်စူးလျှင်တစ်ကြိမ်၊ သုံးကြိမ်ရည်စူးလျှင် သုံးကြိမ် အထမြောက်စေသောကြောင့်သာလျှင် လေးနက်စွာ ကျိန်ဆိုစေ၍ မေးမြန်းတော်မူခြင်းဖြစ်သည်။

(တွလကာတွတ်ဆလာ(ဆ)ကျမ်း–၅၆)

ထို့ကြောင့် အထက်ပါ ဟဒီဆ်တော်၏ ရှင်းလင်းချက်အရ တစ်ကြိမ်တည်း သုံးတွလာက်ကို တွလာက်တစ်ကြိမ်သာ သတ်မှတ်တော်မူသည်ဟု ၊ ဤဟဒီဆ်တော်ကိုပင် အကိုးအကားတင်ပြခြင်းမှာ လုံးဝ မှားသည်။ ဟဒီဆ်တော်၏ အဓိပ္ပါယ် အလိုသဘောကို သဘောမပေါက်ကြောင်း ထင်ရှား၏။

အဘယ်ကြောင့်ဆိုသော် တွလာက်ပေးခဲ့သော စွဟာဗီကိုယ်တိုင်က ကျွန်ုပ်သည် တွလာက်ကို သုံးကြိမ် မပေးခဲ့ပါ။ တစ်ကြိမ်သာ ပေးခဲ့ပါသည်ဟု ကျိန်ဆိုပြောနေပါလျက် ဤဟဒီဆ်တော်ကိုပင် အကြောင်းပြု၍ **(တမန်တော်မြတ်ﷺ သည် သုံးတွလာက်ကို တွလာက်တစ်ကြိမ်သာ သတ်မှတ်တော်မူသည်)**ဟုဆိုခြင်းမှာ ဟဒီဆ်တော်၏အလိုကို သဘောမပေါက် နားမလည်၍သော်လည်းကောင်း၊ သို့တည်းမဟုတ် စွဟာဗီအား စွတ်စွဲခြင်းသာဖြစ်သည်။ စင်စစ် တမန်တော်မြတ်ﷺ က တွလာက်တစ်ကြိမ်ကို တစ်ကြိမ်သာ သတ်မှတ်တော်မူခြင်းဖြစ်သည်။

**မှတ်ချက်။** ။ **(အလ်ဗတ်သား)**ဆိုသော စာလုံး၏ အဓိပ္ပါယ်ကို သုံးဖြစ်သည်ဟု မယူဆနိုင်၊ပြတ်စဲစေသောဟု အဓိပ္ပါယ်ရသဖြင့် ရုကာနဟ်က မိမိဇနီးကို ပြတ်စဲစေသော တွလာက် တစ်ကြိမ် ပေးခဲ့ခြင်းဖြစ်သည်။

သုံးကြိမ်ပေးမှ ပြတ်စဲစေသည်မဟုတ်၊ တစ်ကြိမ်ပေးလျှင်လည်း ပြတ်စဲစေသည်။ သုံးကြိမ်ဟု မပါပဲ (ရာဝီ)က မိမိသဘောအထင်အမြင်နှင့် သုံးဆိုသောစာလုံးကို ထည့်သွင်းဖော်ပြခြင်းသာဖြစ်သည်။

ဤသို့ ရာဝီ၏ မှားယွင်းခြင်းကြောင့် အခြား ဟဒီဆ်တော်များနှင့် မကိုက်ညီပဲ ကွဲလွဲလာရသည်။ (အောက်ခြေမှတ်စု–အဗူဒါဝူဒ်ကျမ်း တွဲ ၁–၁၉၉)

## တွဟာဝီကျမ်းရှင်း၏ရှင်းလင်းချက်

طحاوى

ثم هذا ابن عباس قد كان بعد ذلك يفتى من طلق امراته ثلاثا هنا ان طلاقه قد لزمه

وحرمهاعليه انماذكرمن عقدالنكاح كذلك العقودكلهاالتى يدخلل العبادبها فى الاشيءلا يدخلون فيهاالامن حيث امروا به بالدخول فيهاواماالخروج منها فقديجوز بغيرماامروا بالخروج به فكذالك الدخول فى النكاح لا يكون الامن حيث امرالعبادو بالدخول فيه والخروج به منه و بغيرذلك فهذاكله قول ابى حنيفة وابى يوسف ومحمدحمةاللهِ عليهم اجمعين ﴿طحاوى صـ٣٠ ج ٢﴾

درجات نعمةالاسلام الايمان ثم الاحسان ثم المعرفة ثم الوصول والنسبت ثم القربة ثم الانس ثم المشاهدة ﴿تفسيرقادرى جلد ١ صـ٨٦﴾

ထို့နောက် ၎င်းအစ်ပ်နုအဗ္ဗာစ်သည် အမြဲတမ်း ဤသို့ ဖတ္တဝါပေးလေ့ရှိ၏။ မည်သူမဆို မိမိဇနီးအား တစ်ကြိမ်တည်း တစ်ချိန်တည်း သုံးတွလာက်ပေးလိုက်ပါလျှင် ၎င်း၏ ကွာရှင်းခြင်းသည် အတည်ဖြစ် အထမြောက်သဖြင့် ၎င်းသူအတွက် ထိုအမျိုးသမီးသည် ပေါင်းသင်းရန် ဟရာမ်ဖြစ်သွားချေ၏။ (တွဟာဝီ တွဲ ၂-၂၉)

အစ္စလာမ့်တရားဥပဒေတွင် နေကာဟ်သည် လူမှုရေးမဟုတ်၊ နမာဇ်ဝတ်ပြုမှုကဲ့သို့ ကိုးကွယ်မှုတစ်ရပ်ဖြစ်သည်။ နမာဇ်ဝတ်ပြုမှုအတွင်းသို့ ဝင်ရောက်ရာတွင် ကိုယ်သန့်ခြင်း၊ အဝတ်သန့်ခြင်း၊ နေရာသန့်ခြင်း၊ အချိန်သင့်ရောက်ခြင်းအစရှိသော ပညတ်စည်းကမ်းများနှင့် ကိုက်ညီရန် အရေးကြီး၏။ သို့ရာတွင် နမာဇ်ကို ဆန့်ကျင်စေသောအလုပ်တစ်ခုခု ပြုလုပ်သည်နှင့် တပြိုင်နက် မဆိုင်းမငံ့ပဲ နမာဇ်အပြင်သို့ ထွက်ရောက်သွား၏။

ဤနည်းအတိုင်းပင် နေကာဟ်အတွင်းသို့ ဝင်ရောက်ရာ၌ နှစ်ဦးသဘောတူရုံနှင့်မပြီး (က) အမျိုးသားနှင့် အမျိုးသမီးနှစ်ဦးလုံး မွတ်စလင်မ်ဖြစ်ခြင်း၊ (ခ) တစ်ဘက်မှ အီဂျာဘ် တစ်ဘက်မှကုဘူလ်ပြုခြင်း၊ (ဂ)ထိုအီဂျာဘ်နှင့်ကုဘူလ်ကို သက်သေနှစ်ယောက်က တပြိုင်တည်းကြားခြင်း၊ (ဃ)မဟရ်ငွေသတ်မှတ်ခြင်း အစရှိသောပညတ်စည်းကမ်းများနှင့်ကိုက်ညီမှ နေကာဟ်၏ဘောင်အတွင်းသို့ ဝင်ရောက်နိုင်၏။ သို့ရာတွင် ၎င်းနေကာဟ်မှ အပြင်သို့ထွက်ရာ၌ နမာဇ်မှအပြင်ထွက်သကဲ့သို့ ဥပဒေနှင့်ကိုက်ညီစွာ စွန့်လွှတ်နိုင်သည်။ စည်းကမ်းနှင့် ဆန့်ကျင်သောနည်းဖြင့် စွန့်ခွာ၍လည်းရသည်။

ဤဥပဒေသည် အခြားအိဗာဒတ်များ၏ ဥပဒေနှင့်ကိုက်ညီသော ဥပဒေဖြစ်သည်။ ၎င်းကိုဆန့်ကျင်သူတို့မှာ ရှရီအတ်တရားဥပဒေ အစ္စလာမ်တရားဥပဒေနှင့်

မကိုက်ညီသော ယူဆချက်ကို ယူဆသူများသာဖြစ်ကြသည်။ ဤရှင်းလင်းတင်ပြချက် အားလုံးတို့သည် အဗူဟာနီဖွာ၊ အဗူယူစွ(ဖ)–အေမာမ် မိုဟမ္မဒ်)အေမာမ်သုံးပါးလုံး၏ ခံယူချက်အဆိုဖြစ်သည်။ (တွဟာဝီ)

## သမ္မတကြီးအုမရ်ကတမန်တော်မြတ် ﷺ ၏ အဆုံးအဖြတ်ကို ပယ်ဖျက်ပြီး ဥပဒေကို ပြင်ဆင်သည်ဆိုခြင်းမှာ သမ္မတကြီးအား မတရားစွပ်စွဲခြင်းသာဖြစ်ကြောင်း

متفقہ فیصلہ

اگر خلفائے راشدین کا کوئی فیصلہ بظاہر کتاب وسنت کیخلاف نظر آتا ہے تو اسکی دو صورتیں ہوسکتی ہیں ایک یہ کہ اسکی پوری تحقیق کرائی جائے کہ ایسا تو نہیں ہے کہ وہ فیصلہ انکی طرف غلط منسوب ہو گیا ہے جیسا کہ طلاق ثلاثہ کے بارے میں حضرت عمرؓ کی طرف یہ منسوب ہو گیا کہ سب سے پہلے ایک مجلس میں دی ہوئی تین طلاقوں کو طلاق بائن انہی نے قرار دیا حالانکہ خود نبی کریم ﷺ نے اسکا نفاذ فرمایا تھا.

(متفقہ اسلامی احکام مجلس دار المصنفین معارف)

(ခိုလဖာအိရာရှိဒီန်)ခေါ် သမ္မတကြီး (၄)ပါးတို့ဘက်မှ အဆုံးအဖြတ် တစ်ခုသည် ကုရ်အာန်၊ ဟဒီဆ်နှင့် ဆန့်ကျင်နေသည်ကို တွေ့ရှိရလျှင် ၎င်းကို သေချာတိကျစွာ စုံစမ်းရန် လိုအပ်၏။ ၎င်းသည်ကား သမ္မတကြီးများကို ဆန့်ကျင်သူတို့၏ လုပ်ကြံမှုကြောင့် မမှန်ကန်သောစကား ကျော်ကြားလာခြင်းမျိုးဖြစ်ပေလိမ့်မည်။

ဤနည်းအတိုင်းပင် သုံးတွလာက်နှင့် စပ်လျဉ်း၍ တမန်တော်မြတ် ﷺ နှင့် အဗူဗကရ်သခင်တို့ခေတ်တွင် တစ်ကြိမ်တည်း သုံးတွလာက်ကို တွလာက်တစ်ကြိမ်သာ သတ်မှတ်တော်မူပါလျက် သမ္မတကြီး အုမရ်က ၎င်းနှင့်ဆန့်ကျင်၍ သုံးကြိမ် အတည်ပြု သတ်မှတ်ပေးခဲ့သည်ဟု စွပ်စွဲထားကြောင်း တွေ့ရှိရသည်။

အမှန်စင်စစ်မှာ တမန်တော်မြတ် ﷺ ကိုယ်တိုင်ပင် တစ်ကြိမ်တည်း သုံးတွလာက်ကို တွလာက်သုံးကြိမ်ပင် အတည်ပြုတော်မူခဲ့ကြောင်း ကျမ်းမြတ်ဗုခါရီ၏ ဟဒီဆ်တော်ဖြင့် သိရှိရသည်။ (ကျမ်းပြုဆရာများအဖွဲ့ချုပ်၏ အဆုံးအဖြတ်)၊ (မအာရစ်ဖ် ၁၃)

စင်စစ်သော်ကား သမ္မတကြီးအုမရ်သည် ကျမ်းမြတ်ကုရ်အာန်၏ အလိုသဘောနှင့် တမန်တော်မြတ် ﷺ ၏ လမ်းစဉ်ကို ပိုမိုနားလည်သဖြင့် တစ်ကြိမ်တည်း သုံးတွလာက်

ကို တွလာက်သုံးကြိမ်ပင် အတည်ပြုခဲ့ခြင်းဖြစ်သည်။ ဤသို့ အတည်ပြုကြောင်း အမိန့်ထုတ်ပြန်ချိန်တွင် စွဟာဗီအားလုံးတို့အနက် တစ်ဦးတစ်ယောက်ကမျှ မဆန့်ကျင်ခဲ့ခြင်းမှာ (အစ်ဂျ်မာအိစ္စဟာဗဟ်)ဖြစ်၍ ကျွန်ုပ်တို့အွမ္မတ်သားအားလုံးတို့အတွက် နာခံရန် ခိုင်မာလုံလောက်သော အထောက်အထားကြီး တစ်ရပ်ပင်ဖြစ်သည်။

## အစ်ဗ်နု အဗ္ဗာစ်ထံမှ ဆင့်ပြန်သော ဟဒီဆ်သည် မခိုင်လုံသော ရိဝါယတ်ဖြစ်ကြောင်း အွမ်ဒတွလ်အဆာဆ်ကျမ်းရှင်၏ရှင်းလင်းချက်

ဖတ္တဝါဆနာအီယာကိုရေးသော ပုဂ္ဂိုလ်နှင့် အခြားသော မဇ်ဟဗ် လမ်းစဉ်လက်မခံကြကုန်သော (ဂိုင်းရ်မိုကလ္လစ်ဒ်)တို့ထံတွင် အစ်ဗ်နုအဗ္ဗာစ်ထံမှ ဆင့်ပြန်သည့် ရေဝါယတ်( တမန်တော်မြတ်ﷺ ခေတ်၊ အဗူဗကရ်သခင်ခေတ် တလျှောက်နှင့် အုမရ်သခင်၏ သမ္မတခေတ်(၂)နှစ်ကျော်တွင် တစ်ကြိမ်တည်း သုံးတွလာက်သည် တွလာက်တစ်ကြိမ်သာဖြစ်ခဲ့သည်) ဟူသော ရိဝါယတ်သည် ၎င်းတို့ အထောက်အထား ပြသရာ၌ အလွန်တရာ နှစ်ထောင်းအားရ ဝမ်းသာဖွယ်ကောင်းလှသော အထောက်အထားကြီး တစ်ရပ်ဖြစ်ခဲ့၏။ သို့ဖြစ်လင့်ကစား အောက်ပါ စစ်မှန်သော ရှင်းလင်းချက်ကို သိရှိရပါမူ ရင်ထုမနာ ပမ်းနည်းကြေကွဲရချေမည်တည်း။

### ယင်းရိဝါယတ်သည် တမန်တော်မြတ် ﷺ ၏ ဟဒီဆ်တော် လုံးဝ မဟုတ်ကြောင်း အကြောင်းပြချက်များ–

(၁) အစ်ဗ်နုအဗ္ဗာစ်၏ အခြား(ရိဝါယတ်)များက အထက်ပါ ရိဝါယတ်နှင့် ဆန့်ကျင်နေသဖြင့် အေမာမ်ဗုခါရီသခင်က မိမိမှန်ကန်သော ဗုခါရီကျမ်းတွင် ဤရေဝါယတ်ကို လုံးဝ မထည့်သွင်းခဲ့ချေ။

(၂) အထက်ပါ ရိဝါယတ်ကို ဆင့်ပြန်သူ ရာဝီသည် (တွာအူစ်)ခေါ် အစ်ဗ်နုအဗ္ဗာစ်၏ တပည့်တစ်ယောက်သာဖြစ်ပြီး ကျန်တပည့်ပေါင်း ကစ်ရာကျော် အမြောက်အမြားတို့က ၎င်းနှင့် ဆန့်ကျင်ကြသည်။ ထိုရာဝီ အမြောက်အမြားတို့က အစ်ဗ်နုအဗ္ဗာစ်ထံမှ ဆင့်ပြန်ကြသည်မှာ တမန်

တော်မြတ်ﷺ ခေတ်၊ အဗူဗကရ်သခင်ခေတ်နှင့် အုမရ်သခင်ခေတ် အားလုံးတွင် တစ်ကြိမ်တည်း သုံးတွလာက်ကို တွလာက်သုံးကြိမ်ပင် အတည်ပြုခဲ့ကြကြောင်း အတိအလင်း ပါရှိသည်။

( စိုနန်ကွတ်ဗ်ရာကျမ်း အတွဲ ၇-၃၄၈)

အထက်ပါ ဟဒီဆ်တော်ကို ဆင့်ပြန်သူ ရာဝီပေါင်း အမြောက်အမြား ကိုဆန့်ကျင်သူမှာ တပည့်တစ်ဦးသာဖြစ်သည်။

(ဗိဒါယတွလ်မွ(ဂျ)သဟစ်ဒ် တွဲ ၂-၆၁)

(၃) အေမာမ်ကုရ်သူဗီ အမိန့်ရှိသည်မှာ အထက်ပါ တပည့်တစ်ဦး ဆင့်ပြန်သည့် အစ်ဗ်နုအဗ္ဗာစ်၏ ရိဝါယတ်ကို ဟဒီဆ်တော်ဟုပင် မခေါ်ဆိုနိုင်။ ဟဒီးဆ်အမျိုးအစား သုံးမျိုး (ကောင်လီ၊ ဖစ်အ်လီ၊ သက်ရီရီ)တို့အနက် မည်သည့်အမျိုးနှင့်မျှ လုံးဝ မသက်ဆိုင်ချေ။

ထို့ကြောင့် ၎င်းကို (ဟဒီဆ်မွတ်သ်တွရဗ်) တိမ်းစောင်း လွဲချော် မှားယွင်းသော ဟဒီဆ်ဟုခေါ်သည်။

(ကြည့်– ဖတ်သ်ဟွလ်ဗာရီ–ရှရဟ်ဗုခါရီ တွဲ ၉– ၂၉၂)

(၄) သမ္မတကြီး အုမရ်သခင်က မိမိ၏ ခိလာဖတ် အစပိုင်းတွင် တစ်ကြိမ်တည်း သုံးတွလာက်သည် တွလာက်သုံးကြိမ်ဖြစ်ကြောင်း အမိန့်ထုတ်ပြန် ကြေငြာသောအခါ စွဟာဗဟ်သာဝကကြီး အားလုံးအနက် တစ်ဦးကမျှ မဆန့်ကျင်ခဲ့ပေ။ တမန်တော်မြတ် ﷺ ၏ လမ်းစဉ်နှင့် ဆန့်ကျင်လျှင် မုချ စောဒက တက်ကြမည်ဖြစ်သည်။

ထိုသို့ သမ္မတကြီး အုမရ်၏ အဆုံးအဖြတ်တစ်ခုကို (**အစ်ဂျ်မာအိစွဟာဗဟ်**) ဟုခေါ်သည်။ ဤသို့ စွဟာဗဟ်ကြီးများ၏ တညီတညွတ်တည်း စည်းလုံးမှုသည် ရှရီအတ် တရားတော်တွင် လေးနက်ခိုင်မာသော အထောက်အထား တစ်ရပ်ဖြစ်သည်။ ၎င်း **အစ်ဂျ်မာအ်** ညီညွတ်မှုတွင် စွဟာဗီကြီး အစ်ဗ်နုအဗ္ဗာစ်လည်း ပါဝင်သည်။

**မှတ်ချက်**။ ။ မဟုတ်မမှန် လွဲချော်သော ဟဒီဆ်တုကို ကိုးကားပြီး **အစ်ဂျ်မာအ်** ဖြစ်သည်ဟု အကြောင်းပြ၍ မဖြစ်နိုင်ချေ။ ကျမ်းမြတ်ကုရ်အာန်နှင့် ဗုခါရီကျမ်းကို ဗီလာဆန့်ကျင်ပြီး အဘယ်မှာ **အစ်ဂျ်မာအ်** ဖြစ်နိုင်ပါအံ့။

ထို့ကြောင့် စွဟာဗဟ်ကြီးများအားလုံး၏ တညီတညွတ်တည်းသော ဆုံးဖြတ်ချက်နှင့်ဆန့်ကျင်သူ တစ်ဦးတစ်ယောက်၏ ရိဝါယတ်သည် ဟဒီဆ်မဟုတ်**မွတ်သ်တွရဗ်**

တိမ်းစောင်းလွဲချော်သော ရိဝါယတ်ဖြစ်ကြောင်း ထင်ရှားေ၏။ ၎င်းဟဒီဆ်၏ မခိုင်လုံကြောင်း အဆိုပါ (အွမ်ဒတွလ်အဆာဆ်)ကျမ်းတွင် အထောက်အထားပေါင်း (၂၀) နှစ်ဆယ် အကြောင်းပြထားသော်လည်း ဤမျှခန့် တင်ပြခြင်းဖြင့် လုံလောက်ပြီဟု ယူဆလျက် ဤတွင် အကျဉ်းချုပ် အဆုံးသတ်လိုက်ပေသည်။

## စွဟာဗီကြီး အစ်ဗ်နုအဗ္ဗာစ်၏ဖတ္တဝါ

اپنی روایت کیخلاف ابن عباسؓ کا فتوی

خود ابن عباسؓ بھی اسکے قائل ہیں کہ بلفظ واحد انت طالق ثلاثا سے تین طلاق واقع ہوجاتی ہیں اور عورت حرام مغلظہ ہوجاتی ہیں اور فتوی بھی اسی کا انہوں نے دیا ہے اپنی روایت حدیث کیخلاف ابن عباسؓ کا فتوی ملاحظہ ہو امام محمد بن الحسن الشیبانی کتاب الاثار میں روایت کرتے ہیں

اخبرنا ابو حنیفۃ عن عبد اللہ بن عبد الرحمن بن ابی حسین عن عمرو بن دینار عن عطاء عن عباس قال اتاہ رجل فقال انی طلقت امرأتی ثلاثا قال یذہب احدکم یتطلخ بالنتن ثم یأتینا اذہب فقد عصیت ربك وحرمت علیك امرأتك فلا تحل لك حتی تنکح زوجاً غیرك

قال محمد وبہ نأخذ وھو قول ابی حنیفۃ وقول العامۃ ولا اختلاف فیہ

دیکھا آپ نے عطاء بن ابی رباح جلیل القدر تابعی ہیں فقیہ حجاز ومفتی مکہ مکرمہ وہ بیان کرتے ہیں یاد رکھو کہ جن لوگوں نے صحابہ وتابعین کے اجماع کے بعد خلاف کیا ان کے خلاف کا اعتبار نہیں الخ وہ لوگ فقہائے امت میں شامل نہیں .(اقامۃ القیامۃ ۳۷) (مفتی مہدی حسن دھلی)

(တမန်တော်မြတ်ﷺ သည် တစ်ကြိမ်တည်း သုံးတွလာက်ကို တွလာက်တစ်ကြိမ် အဖြစ်သာ သတ်မှတ်တော်မူသည်ဟုဆိုပြီး) အကိုးအကား တင်ပြရာတွင် စွဟာဗီ သာဝကကြီး အစ်ဗ်နုအဗ္ဗာစ်၏ ဟဒီဆ်ကိုပင် တင်ပြထား၏။

သ[illegible]ခုမရှိနှင့် သုံးတွလာက်ဆို၍လည်းကောင်း၊ တမန်တော်မြတ် ﷺ လက်ထက်တော်တွင် သုံးတွလာက်သည် တွလာက်တစ်ကြိမ်သာလျှင်ဖြစ်ခဲ့ပေသည်ဟု ဆို၍ ၎င်း၏အထောက်အထားတင်ပြရာ၌ ၎င်းစွဟာဗီ အစ်ဗ်နုအဗ္ဗာစ်၏ ဟဒီဆ် ရိဝါယတ်ကိုပင် ကိုးကားတင်ပြထား၏။

သို့ အထောက်အထား တင်ပြလင့်ကစား စွဟာဗီ အစ်ဗ်နုအဗ္ဗာစ် ကိုယ်တိုင်က မိမိရိဝါယတ်နှင့် ဆန့်ကျင်၍ ယုံကြည်သဖြင့် အတိအလင်း ဖတ္တဝါပေးထားသည်ကို စာဖတ်ရှုသူတို့ သိရှိနိုင်ကြရန် ဖော်ပြလိုက်ပေသည်။ အစ်ဗ်နုအဗ္ဗာစ်ကိုယ်တိုင် (အန့်သိတ္တာလိကွန် ဆလာဆန်) အသင်မကို သုံးတွလာက်ဟု တစ်ခွန်းတည်း တစ်ကြိမ်တည်း သုံးတွလာက်ပေးခြင်းဖြင့် တွလာက်သုံးကြိမ်အထမြောက်ကြောင်း အခြားယောက်ျား တစ်ဦးနှင့် နေကာဟ်ပြု ပေါင်းသင်းခြင်း မပြုပဲ ပြန်လည် ရုပ်သိမ်းပိုင်ခွင့် မရှိကြောင်းကို လက်ခံ ယုံကြည်သူဖြစ်သည်။ ၎င်းနှင့်ဆန့်ကျင်ပြီး ဆင့်ပြန်သူတို့သည်ကား ၎င်းအား မတရား စွတ်စွဲခြင်းသာဖြစ်ကြောင်း အေမာမ် မိုဟမ္မဒ် ရှိုင်ဘာနီက (ကိသာဘွလ်အာဆာရ်)ကျမ်းတွင် အောက်ပါအတိုင်း ရေးသားဖော်ပြထား၏။

မက္ကာရွှေမြို့တော်၏ မွတ်(ဖ)တီ၊ စွဟာဗီကြီးတို့ခေတ်ကို ကောင်းစွာမှီခဲ့သော သာဗျေအီ အတ္တာအ်သခင် ဆင့်ပြန်သည်မှာ–

အစ်ဗ်နုအဗ္ဗာစ်ထံ လူတစ်ယောက် လာရောက်၍ ကျွန်တော်သည် မိမိဇနီးကို တစ်ကြိမ်တည်း သုံးတွလာက် ပေးခဲ့ပါသည်။ ၎င်းကို ပြန်လည်ရုပ်သိမ်းပိုင်ခွင့် ရှိပါသလားဟု ဖတ္တဝါမေးလေရာ အစ်ဗ်နုအဗ္ဗာစ်က အသင်တို့အနက် တစ်ဦးတစ်ယောက်သည် မကောင်းမှုဒုစရိုက်၏ နံစော်သော အညစ်အကြေးနှင့် လူးပေပြီးနောက်မှ ကျွန်ုပ်တို့ထံ မေးမြန်းရန် လာရောက်ကြကုန်သည်။ အသင်၏ဇနီးသည် အခြား ယောက်ျား တစ်ဦးနှင့် နေကာဟ်ပြု ပေါင်းသင်းခြင်း မပြုသရွေ့ အသင့်အတွက် ပြန်လည် ရုပ်သိမ်းပိုင်ခွင့် မရှိတော့ချေဟု ပြောဆို နှင်ထုတ်လိုက်၏။

အေမာမ်မိုဟမ္မဒ် အမိန့်ရှိသည်မှာ ဤသို့ရိဝါယတ် လာရှိသည့်အတိုင်း ကျွန်ုပ်တို့၏ လမ်းစဉ်ဖြစ်သည်။ ဤသို့ ရိဝါယတ်ကြောင့်ပင် အေမာမ်အဗူဟနီဖွာသခင်နှင့် ကျန်အေမာမ်သုံးပါးတို့က တညီတညွတ်တည်း အဆုံးအဖြတ်ပေးထားခြင်းဖြစ်သည်။ ၎င်းတွင် ဆန့်ကျင်မှု လုံးဝ မရှိချေ။

**မှတ်ချက်။** ။ ယနေ့ ဆန့်ကျင်မှု ရှိနေပါလျှက် ဆန့်ကျင်မှု မရှိဟု ဆိုခြင်းအကြောင်းမှာ– စွဟာဗီကြီးတို့နှင့် သာဗေအီကြီးတို့၏ အစ်ဂျ်မာအ်ဖြစ်ပြီးနောက် တစ်ဦးတစ်ယောက်၏ ဆန့်ကျင်ခြင်းကို အစ္စလာမ်ဘာသာက အသိအမှတ် မပြုချေ။ ၎င်းဆန့်ကျင်သူတို့သည် ဤအွမ္မတ်၏ သာသနာ့ပညာရှင်များ စာရင်းတွင် မပါဝင်ကြချေ။

(အိကာမတွလ်ကိယာမဟ်–အလာစ္စာဟစ်(ဗ)ဂျဝါ(ဗ)နာမာ၊ စာမျက်နှာ ၃၇)
မွတ်ဖတီမဟ်ဒီဟစန်၊ ဒေလီမြို့။

## ဗုခါရီကျမ်းနှင့် ဖွေကာဟ်ဟန္နဖီ၏အဆင့်အတန်း

တစ်ကမ္ဘာလုံးရှိ အများဆုံးသော မွတ်စလင်မ်များနှင့် သာသနာ့ပညာရှင်တို့က ကျမ်းမြတ်ကုရ်အာန်မှအပ အခြား ကျမ်းစာများ အားလုံးတွင် ဗုခါရီကျမ်းသည် အဆင့်အတန်း အမြင့်ဆုံး၊ အမှန်ကန်ဆုံးဟု ယုံကြည်ဆုံးဖြတ်ကြသည်။ ဤဗုခါရီကျမ်း၏ ထူးခြားရခြင်း အကြောင်းတစ်ခုမှာ အေမာမ်ဗုခါရီသခင်သည် အိပ်မက်၌ တမန်တော်မြတ် ﷺ ၏ ကိုယ်ပေါ်တွင် နားလျက်ရှိသော ယင်ကောင်များကို ဖယ်ရှားနှင်ထုတ်ပေးရ၏။ ထိုသို့ အိပ်မက်မြင်မက်ရကြောင်း မိမိဆရာသခင် (အစ်ဟာက်ဗင်န်ရာဟ်ဝိုင်)အား ပြောကြားသောအခါ ဆရာသခင်က အသင်သည် တမန်တော်မြတ် ﷺ ၏ ဟဒီဆ်တော်များတွင် မဟုတ်မမှန် လုပ်ကြံလိမ်လည်ထားသော ဟဒီဆ်အတုများကို သုတ်သင်ရှင်းလင်း ဖယ်ထုတ် တင်ပြခွင့်ကို ရရှိချေအံ့ဟု အိပ်မက်၏ အလိုသဘောကို ဖွင့်ဆိုပြောပြခဲ့၏။

သို့ဆရာသခင်၏ ကောင်းမြတ်သော မင်္ဂလာသတင်းကို ကြားသိရပြီးနောက် မကြာမီကာလအတွင်း သက်တော်(၁၃)နှစ်၊ ဟစ်(ဂျ)ရီ (၂၁၇)ခုနှစ်တွင် အလ္လာဟ်အသျှင့် အလိုတော်ဖြင့် ဗုခါရီကျမ်းကြီးကို အစပြု ရေးသားပြုစုခွင့်ကို ရရှိခဲ့၏။ အမှားနှင့်အမှန်၊ အစစ်နှင့်အတု ခွဲခြားရသဖြင့် (၁၆)နှစ်တာမျှပင် စိစစ်ပြီးမှ ရေးသား၍ ပြီးဆုံးခဲ့၏။ ဗုခါရီကျမ်းကို ရေးသားပြုစုသည့် ကျမ်းပြုသခင် (မိုဟမ္မဒ်ဗင်န်အိစ်မာအီလ်)သည် ကျမ်းပြုစုချိန်တွင် **စွဟီ**ဟဒီဆ်ပေါင်း (၃၀၀၀၀၀)သုံးသိန်းနှင့် မမှန်ကန်သည့် ဟဒီဆ်အတုပေါင်း (၃၀၀၀၀၀)သုံးသိန်းတို့ကို **စနတ်ဒ်** တဆင့်ပြောကြားသူများ၏ အမည်နှင့်တကွ အာဂုံဆောင်ထား၏။

ထိုမှန်ကန်သော **စွဟီ**ဟဒီဆ်တော်ပေါင်း သုံးသိန်းအနက်မှ ဟဒီဆ်တော်ပေါင်း (၃၂၇၅)သုံးထောင့်နှစ်ရာခုနှစ်ဆယ်ငါးကိုသာ စိစစ်ရွေးချယ်ထုတ်နုတ်၍ ဗုခါရီကျမ်းကို ကြိုးပမ်းကာ ပြုစုခဲ့ခြင်းဖြစ်သည်။

ယင်းဟဒီဆ်တော်များတွင် (**ဆိုလာဆီယာတ်**)ခေါ် ဟဒီဆ်တော်များမှာ (၂၃)ခုသာရှိ၏။ ၎င်းဟဒီဆ်တော်များသည် ကျန်ဟဒီဆ်တော်များထက် အဆင့်အတန်း ပိုမိုချေ၏။ အဘယ်ကြောင့်ဆိုသော် ၎င်းဟဒီဆ်တော်များကို တဆင့်ပြောကြားသူ **ရာဝီ** သည် သုံးဆက်သာ ရှိသောကြောင့်ဖြစ်သည်။ ၎င်းသုံးဆက်သည် အမှားအယွင်း

ကင်းသော ဒအကောင်းဆုံးသောခေတ်တွင် ရှိခဲ့ကြကုန်၏။ ကျမ်းမြတ်ဗုခါရီတွင် (ဆိုလာဆီယာတ်)ခေါ် ဟဒီဆ်တော်(၂၃)ခု၏ အဆင့်အတန်း မြင့်မားရခြင်းသည် တဆင့်ပြောကြားသူ (ရာဝီ)အဆက်(၃)ဆက်သာ ရှိခြင်းကြောင့်ဖြစ်ကြောင်း သိရှိရလျှင် **ဖွေကာဟ်ဟန္နဖီ**ခေါ် အေမာမ်အဗူဟနီဖွာသခင်က စီစစ်ဆန်းစစ်ပြီး ဥပဒေထုတ်နှုတ်တင်ပြထားသော ကျမ်းစာ၏ အဆင့်အတန်းမှာ (ရာဝီ)တဆင့်ပြောကြားသူ (၂)နှစ်ဆက်မျှသာ ရှိသဖြင့် ဗုခါရီကျမ်း၏ ထူးကဲသောဟဒီဆ်တော်များထက်ပင် အဆင့်အတန်းပိုမိုမြင့်မားမည်သာဖြစ်သည်။ ဤသည်ကို သာမန်လူကပင် ခွဲခြားဝေဖန်နိုင်၏။ ထို့ပြင် ဒုတိယ ထူးခြားချက်မှာ ဗုခါရီကျမ်း၏ ယင်းထူးကဲသော (ဆိုလာဆီယာတ်)ခေါ် ဟဒီဆ်တော် (၂၃)ခုကို တဆင့်ပြောသူ (ရာဝီ)အားလုံးတို့သည်ကား အဗူဟနီဖွာသခင်၏ နောက်လိုက် (ဟန္နဖီ) များသာဖြစ်ကြကုန်၏။ ဤသည်ကား (ဟန္နဖီမတ်သ်ဟဗ်)၏ ထူးခြားသော ဂုဏ်ထူးဝိသေသပင်ဖြစ်၏။ (သတ်ကီရီရ်ဗုခါရီ တွဲ ၁–၄၅)

**ရှိုင်ခွလ်ဟဒီဆ် မော်လာနာ ဇကရီယာ စဟာရန်ပူရ်မြို့**

သို့ဖြစ်လင့်ကစား မတ်သ်ဟဗ်လမ်းစဉ် လက်မခံသူတို့သည် အေမာမ်အဗူဟနီဖွာသခင်နှင့် ကျန်အေမာမ်ကြီးများကို အပြစ်ရှာဖွေ ရှုတ်ချလေ့ရှိခြင်းမှာ လမ်းမှားသို့ ဆွဲဆောင်ခြင်းသာ ဖြစ်ကြောင်း၊ ကျွန်ုပ်တို့(ဟန္နဖီများ) အထူးသတိပြုသင့်၏။ ဖွေကာဟ်ဟနဖီ၏ အဆင့်အတန်း မြင့်မားရခြင်း အကြောင်းတစ်ရပ် ဤသို့ဖြစ်၏။ အေမာမ်အဗူဟနီဖွာသခင်သည် အေမာမ်ကြီးများတွင် အသက်အရွယ်ကြီးသူဖြစ်သဖြင့် စွဟာဗီကြီးများကို မှီခဲ့ရသော သာဗျေအီတစ်ပါးဖြစ်၏။ ထို့ကြောင့် ၎င်းထံသို့ ရောက်ရှိလာသော ဟဒီဆ်တော်များမှာ တဆင့်ပြောသူ (ရာဝီ)အဆက် အနည်းဆုံးဖြစ်သည်။

အေမာမ်အဗူဟနီဖွာသခင်သည် ဟစ်(ဂျ)ရီ (၈၀)ခုနှစ်တွင် ဖွားမြင်ခဲ့ပြီး သက်တော်(၇၀) ဟစ်(ဂျ)ရီ (၁၅၀)ခုနှစ်တွင် ကွယ်လွန်တော်မူခဲ့သည်။ တွလာက်နှင့်ပတ်သက်၍ ဖွေကာဟ်ဟန္နဖီတွင် နှစ်ပေါင်း (၁၂၀၀)ကျော်ကပင် အောက်ပါအတိုင်း ဥပဒေ သတ်မှတ်ပြီး ဖြစ်သည်။

ယင်းသို့ ဥပဒေကို စည်းမဲ့ကမ်းမဲ့ တွလာက်များဟု ဖော်ပြခြင်း၊ ယင်းသို့ ဖော်ပြရာတွင်

(၁) မိမိဇနီးအား ပြောင်လှောင်သည့် သဘောဖြင့် တွလာက်ပေးလျှင် တွလာက် အထမြောက်သည်တဲ့။

(၂) မိမိဇနီးအား မေ့မှား၍ တွလာက်ပေးမိလျှင်လည်း တွလာက် အထမြောက်သွားသည်တဲ့။

(၃) တစ်ကြိမ်တည်း၊ တစ်ချိန်တည်း သုံးတွလာက် ပေးမိလျှင်လည်း တွလာက်သုံးကြိမ်လုံး အထမြောက်သွားသည်တဲ့ ဟု

အစ္စလာမ်တရားဥပဒေကို ဤကဲ့သို့ ပြောင်လှောင် သရော် ပျက်ချော်ပြုခြင်းမှာ စင်စစ်သော် ကျမ်းမြတ်ကုရ်အာန်နှင့် ဟဒီဆ်တော်များမှ ထုတ်နှုတ်ထားသော တရားဥပဒေကို ပြောင်လှောင်ခြင်းသာဖြစ်သည်။

(တရားပျက်ချော် လှောင်သရော်ပြုသော် ကုဖ်ရ်)

استحلال المعصية صغيرة كانت او كبيرة كفر اذا ثبت كونها معصية بدليل قطعى والاستهانة بها كفر والاستهزاء على الشريعة كفر ﴿شرح عقائد ص۱۲۰﴾

ရှရီအတ်တရားတော်၏ မည်သည့် ဥပဒေကိုမဆို ပြောင်လှောင်ခြင်းသည် ကုဖ်ရ်ဖြစ်သည်။ (ရှရဟ်အကာယစ်ဒ်) (၁၂၀)

## တွလာက်နှင့်ပတ်သက်သော အစ္စလာမ်ဥပဒေ ကုဒူရီကျမ်း

ويقع طلاق كل زوج اذا كان عاقلا بالغا ولا يقع طلاق الصبى والمجنون والنائم ﴿المختصر القدورى ص۱۷۱﴾

(က) လင်ယောကျ်ားသည် (အရူးမဟုတ်) အသိဉာဏ်ကောင်းသူဖြစ်မည်။

(ခ) (ကလေးမဟုတ်) အရွယ်ရောက်သူဖြစ်မည်ဆိုလျှင် ၎င်းလင်ယောကျ်ားအားလုံးတို့၏ တွလာက်ပေးကွာရှင်းခြင်းသည် တရားဝင် အထမြောက်သည်။ အရွယ်မရောက်သေးသော ကလေး၊ အသိဉာဏ် ပျက်စီးနေသောအရူးနှင့် အိပ်ပျော်နေသူ ဤသုံးဦးတို့၏ တွလာက်ပေး ကွာရှင်းခြင်းသာလျှင် အထမမြောက်ချေ။

ဤဥပဒေတွင် တွလာက်ကို မေ့၍လည်းကောင်း၊ မှား၍လည်းကောင်း၊ ပြောင်လျောင်သော သဘောနှင့်လည်းကောင်း၊ တစ်ကြိမ်တည်း သုံးတွလာက်ပေးခြင်းသည် လည်းကောင်း အားလုံးအကျုံးဝင်သည်။ (ကုဒူရီကျမ်း ၁၇၁)

တွလာက်နှင့်ပတ်သက်သော ဤဥပဒေသည် အချို့မော်လဝီများက လုပ်ကြံဖန်တီးထားခြင်းမျိုးမဟုတ်၊ ဟစ်(ဂျ)ရီခုနှစ် (၁၀၀) တစ်ရာကျော်တွင် ရှိကြကုန်သော စွဟာဗဟ်ကြီးများနှင့် သာဗျေအီကြီးများ၏ အဆုံးအဖြတ်ဖြစ်သည်။ ယင်းအဆုံးအဖြတ်နှင့် ဆန့်ကျင်သူတို့မှာ ဖွာဟေရီ၊ ရာဖွေဇီ ရှီအာနှင့် မဇ်ဟဗ်လမ်းစဉ် လက်မခံသူတို့သာဖြစ်ကြသည်။ ကျွန်ုပ်တို့ အဟ်လေ့စွန္နတ်နှင့် လားလားမျှ မပတ်သတ်ချေ။

အစ္စလာမ်တရားဥပဒေတွင် အရူးမဟုတ်သူ၊အရွယ်ရောက်သူတစ်ဦးတစ်ယောက်က မောင်ဖြူဆိုသူကို မေ့၍သော်လည်းကောင်း၊ မှား၍သော်လည်းကောင်း၊ ပြောင်လျောင်သရော် ပျက်ချော်ပြု၍သော်လည်းကောင်း၊ လက်နက်တစ်ခုဖြင့် သတ်ဖြတ်လိုက်ပြီးနောက် ၎င်းလူသတ်သူက ကျွန်ုပ်သည် မောင်ဖြူကို မေ့မှား၍ ပြောင်လျောင်ရင်း သတ်လိုက်မိပါသည်ဟု အကြောင်းပြ၍ မရချေ။ လူတစ်ဦးကို သတ်သောအပြစ်ဒဏ်ကို မုချခံရမည်ဖြစ်၏။ သို့ဖြစ်ငြားသော်လည်း တွလာက်ပေးခြင်းကိစ္စတွင် အထက်ဖော်ပြပါ နည်းများဖြင့် အထမမြောက်ဆိုခြင်းမှာ အံ့သြစရာပင်တည်း။

## ပြောင်လျောင်သည့်သဘောနှင့် တွလာက်ပေးလျှင် အထမြောက်ကြောင်း သမ္မတကြီးအုမရ်၏ဖတ္တဝါ

ဇိုက်ဒ်ဗင်န်ဝဟာ(ဗ)ထံမှ ရိဝါယတ်လာရှိသည်။ မဒီနာမြို့တွင် ပျက်ချော်ပြောင်လျောင်သရော်ပြုတတ်သူတစ်ဦးက မိမိဇနီးအား ပြောင်သည့်အနေဖြင့် (အသင်မအား တွလာက်ပေါင်းတစ်ထောင်)ဟု ပြောဆိုပေးလိုက်ကြောင်း သမ္မတကြီးအုမရ် သိရှိရသောအခါ သုံးတွလာက် အထမြောက်ကြောင်း အဆုံးအဖြတ် ပေးပြီးနောက် နောက်နောင် ဤသို့ မပြုလုပ်ရန် ကြိမ်ဒဏ်ရိုက်၍ ဆုံးမတော်မူ၏။

(စိုနန်ကုတ်(ဗ)ရာ အတွဲ ၇-၃၃၄၊ အွမ်ဒတွလ်အဆာဆ်-၆၂)

## အစ်အ်လာအွတ်စိုနန်ခေါ်ဟဒီဆ်ကျမ်းစာ၏ ရှင်းလင်းချက်

တစ်ကြိမ်တည်း သုံးတွလာက်ကို တွလာက်သုံးကြိမ်သာဟု အေမာမ်ကြီး (၄) လေးပါးနှင့် ယုံကြည်စိတ်ချရသော မည်သည့်စွဟာဗီ၊ သာဗျေအီ တစ်ဦးတစ်ယောက်ကမျှ မဆိုခဲ့ခြင်းအကြောင်း

ကောင်းစွာသတိပြုလော့၊ ဓမ္မသတ် အဆုံးအဖြတ်ပေးနိုင်သည့် အရည်အချင်းရှိကြကုန်သော စွဟာဗဟ်များအနက် မည်သူတစ်ဦးတစ်ယောက်ကမျှ ပေါင်းသင်းပြီးသောဇနီးကို တစ်ကြိမ်တည်း သုံးတွလာက်ပေး၍ တွလာက်တစ်ကြိမ်သာဖြစ်သည်ဟု မယူဆခဲ့ကြချေ။ ထိုနည်းအတိုင်း သာဗျေအီ ပညာရှင်များနှင့် ရှေးကျသော အေမာမ်ကြီးများတွင်လည်း ဤသို့ ယူဆသူမရှိခဲ့ပေ။

အစ်အ်လာအွတ်စိုနန် အတွဲ (၁၁) ၅၂၆

## တစ်ကြိမ်တည်းသုံးတွလာက်သည် တွလာက်တစ်ကြိမ်သာဟု လိမ်လည်ပြောဆိုပုံ

عن الاعمش انه كان بالكوفة شيخ يقول سمعت على بن ابى طالب يقول اذا طلّق الرجل امراته ثلاثا فى مجلس واحد ترد الى واحد والناس عنق واحد الى ذالك يأتون ويستمعون منه فاتيته فقلت له هل سمعت على بن ابى طالب يقول قال سمعته يقول اذا طلّق الرجل امراته ثلاثا فى مجلس واحد فانها ترد الى واحد فقلت له اين سمعت هذا من على قال اخرج اليك كتابى فاخرج كتابه فاذا فيه بسم الله الرحمن الرحيم هذا ما سمعت على بن ابى طالب يقول اذا طلّق الرجل امراته ثلاثا فى مجلس واحد فقد بانت امراته فلا تحل له حتى تنكح زوجا غيره فقلت له ويحك هذا غير الذى تقول قال والصحيح هذا ولكن هؤلاء ارادونى على ذالك

﴿اعلاء السنن جلد ١١ صـ ٥٢٦﴾

အအ်မတ်(ရှ)သခင်ထံမှ ရိဝါယတ်လာရှိသည်မှာ ကူဖွာမြို့တွင် အသက်အရွယ်ကြီးသူ တစ်ဦးက အကြင်သူသည် မိမိဇနီးအား တစ်နေရာတည်းတွင် သုံးတွလာက်

ပေးလိုက်လျှင် တွလာက်တစ်ကြိမ်သာ အထမြောက်သည်ဟု အလီﷺသခင် ထံမှ ကြားသိခဲ့ရကြောင်း ပြောဆိုလျက်ရှိ၏။

လူအများက သူ၏စကားမှာ ထူးဆန်းသဖြင့် စူးစိုက်၍ နားထောင်ကာ ၎င်းသူဘက်သို့ တပြိုင်တည်း ကြည့်လျက်ရှိကြကုန်၏။

ထိုအခါ ကျွန်ုပ်သည်လည်း သူ၏အနီးသို့သွားပြီး အသင်သည် ဤဟာဒီဆ်ကို အလီသခင်ထံမှ အဘယ်နေရာတွင် ကြားခဲ့ရပါသနည်းဟု မေးလေရာ ၎င်းက ခဏဆိုင်းပါ၊ ကျွန်ုပ်အသင့်ကို ပြပါမည်ဆို၍ အိပ်ထဲမှစာကို ထုတ်ပြလေ၏။ ထိုအခါ ၎င်းစာတွင် **ဗစ်မိလ္လာဟ်**၏နောက် ဤဟာဒီဆ်တော်သည် စတုတ္ထ သမ္မတကြီး အလီﷺသခင်ထံမှ ကြားသိခဲ့ရသော ဟာဒီဆ်တော်ဖြစ်သည်။ အလီသခင် အမိန့်ရှိသည်မှာ မည်သူမဆို မိမိဇနီးအား သုံးတွလာက်ပေးလိုက်လျှင် သုံးတွလာက်ပင် အထမြောက်သဖြင့် ထိုအမျိုးသမီးသည် ၎င်းသူ၏ ဇနီးအဖြစ်မှ လုံးဝ ပြက်စဲသွားချေ၏။ အခြားယောက်ျားတစ်ဦးနှင့် နေကာဟ်ပြု ပေါင်းသင်းခြင်း မပြုပဲ ထိုသူအတွက် ပြန်လည်ပေါင်းသင်းပိုင်ခွင့် မရှိတော့ချေ။ ဤသို့ရေးသားထားသည်ကို ကျွန်ုပ်ဖတ်လိုက်ရသောအခါ ကျွန်ုပ်က ဒုက္ခ ဒုက္ခဖြစ်ရလေခြင်း။ အသင်သည် မိမိစာနှင့် ဆန့်ကျင် ပြောဆိုနေပါသလား ဟု ပြောလေရာ ၎င်းက အမှန်မှာ ဤစာအတိုင်းပင် ဖြစ်ပါသည်။ သို့သော် လူတို့အကြိုက် လိုက်နေရခြင်း ဖြစ်ပါသည်ဟု ဝမ်းနည်းစွာ ဖြေကြား၏။

(အစ်အ်လာအွတ်စိုနန် အတွဲ (၁၁) ၅၂၆)

## အီဂျစ်နိုင်ငံ ကိုင်ရိုမြို့နေ အလ္လာမဟ် မုဟမ္မဒ် ဇာဟစ်ဒ်ရေးသားသော ကိသာဘွလ်အစ်ရှ်ဖွာက်ကျမ်းမှ ကောက်နုတ်ချက်

အမျိုးသမီးတစ်ဦးအား ရာသီလာချိန်တွင် တွလာက်ပေး၍ အထမြောက်ခြင်းနှင့် သုံးတွလာက်ကို တစ်ကြိမ်းတည်း၊ တစ်ခွန်းတည်းပေး၍ တွလာက်သုံးကြိမ် အထမြောက်ခြင်းနှင့် စပ်လျဉ်း၍ သို့လော သို့လော တစ်ဦးနှင့်တစ်ဦး အတိုက်အခံ ပြောဆိုနေကြသဖြင့် ယင်းပြဿနာနှင့် စပ်လျဉ်းသော အီဂျစ်နိုင်ငံ ကိုင်ရိုမြို့နေ အလ္လာမဟ် မုဟမ္မဒ် ဇာဟစ်ဒ်ရေးသားသော (ကိသာဘွလ်အစ်ရှ်ဖွာက်)ကျမ်းမှာ အလွန်ပင် ကောင်းမြတ်ချေ၏။ ၎င်းကျမ်းစာ၌ အောက်ပါအတိုင်း ဟာဒီဆ်တော်များ ဖော်ပြထားချေ၏။

(၁) ရေဝါယတ်တစ်ခုတွင် အုမရ် ﷺ သခင်က တမန်တော်မြတ် ﷺ အား ယာရစူလလ္လာဟ် ﷺ တစ်ဦးတစ်ယောက်က မိမိဇနီးအား သုံးတွလာက်ဟု ဆိုလိုက်လျှင် (တွလာက်)သုံးခုလုံး ရေတွက်ယူဆရမည်လားဟု မေးလျှောက်ရာ တမန်တော်မြတ် ﷺ က 'ဟုတ်သည်' ဟု အဖြေပေးတော်မူခဲ့၏။

(၂) သမ္မတကြီး အုမရ် ﷺ က အဗူမူစာ အရှ်အရီ ﷺ ထံ ဤသို့ စာရေးအကြောင်းကြားခဲ့၏။ မည်သူမဆို (အန်းသေ့ တွာလေကွန်-ဆလာဆန်) အသင်မအား သုံးတွလာက်ဟုဆိုလျှင် တွလာက်သုံးကြိမ်လုံး အထမြောက်သည်။ (အစ်အ်လာအွတ်စိုနန် ၅၂၁)

## တစ်ကြိမ်တည်း သုံးတွလာက်အထမြောက်ခြင်းတွင် အေမာမ်ကြီး (၄) ပါး၌ အကွဲအလွဲမရှိကြောင်း အလ္လာမဟ် ရှစ်ဗလီ၏ အဆုံးအဖြတ်

علامہ شبلی کا فرمان

دوسرا مسئلہ تین طلاقوں کا ہے، اس قدر تو چاروں ائمہ مجتھدین کے نزدیک مسلم ہے کہ اگر کوئی شخص ایک بار تین طلاق دے تو طلاق واقع ہو جائیگی اور پھر رجعت نہ ہو سکے گی لیکن اس میں اختلاف ہے کہ اسطرح طلاق دینا جائز ہے یا نہیں. امام شافعیؒ کے نزدیک جائز اور مشروع ہے. امام ابو حنیفہؒ کے نزدیک حرام اور ممنوع ہے. طلاق دینے والا گنہگار رہے. بعض لوگوں نے امام صاحب کے قول پر اعتراض کیا کہ اگر ایک بار طلاق دینا شرعا جائز نہیں تو اس کے نفاذ کا کیا معنی، حالانکہ نفاذ سے امام ابو حنیفہؒ کو انکار نہیں. جواب بڑی نازک بحث پر مبنی ہے۔ جسکا موقع نہیں مگر اجمالا سمجھ لینا چاہئے کہ کسی کام کا ممنوع ہونا دوسری چیز ہے۔ اسکا نافذ ہونا دوسری چیز. (مثلا) باپ کا اولاد کو کم وبیش حصوں میں جائداد کا ہبہ کرنا ممنوع ہے لیکن اگر ناانصاف باپ ایسا کرے تو اسکا نفاذ ضرور ہوگا۔ (سیرت النعمان علامہ شبلی)

အလ္လာမဟ်ရှစ်ဗလီက ကစီရတွန်နွှအ်မာန်တွင် ရေးသားဖော်ပြထားသည်။ သုံးတွလာက်နှင့် ပတ်သက်၍ အေမာမ်ကြီး လေးပါးလုံးတွင် အကွဲအလွဲမရှိ- တညီ

တညွတ်တည်း ဆုံးဖြတ်ကြသည်မှာ မည်သူမဆို မိမိဇနီးအား တစ်ကြိမ်တည်း သုံးတွလာက်ပေးလိုက်လျှင် တွလာက် သုံးကြိမ်လုံးပင် အထမြောက်သဖြင့် ပြန်လည်ပေါင်းသင်းပိုင်ခွင့် မရှိတော့ချေ။ သို့ရာတွင် ဤသို့ ပေးပိုင်ခွင့်ရှိ၊ မရှိတွင် အကွဲအလွဲရှိ၏။ အေမာမ်ရှာဖိအီထံတွင် ဤသို့ တွလာက် ပေးပိုင်ခွင့်ရှိ၍ အေမာမ်အဗူဟာနီဖွာသခင်ထံတွင် ဤသို့ တွလာက်ပေးခြင်းသည် ဟရာမ်ဖြစ်၍ အပြစ်ဖြစ်သည်။

အချို့က အေမာမ်အဗူဟာနီဖွာသခင့်အပေါ် စောဒက တက်ကြသည်မှာ ဤသို့ သုံးတွလာက်ကို တစ်ကြိမ်တည်းပေးခြင်းသည် ဟရာမ် အပြစ်ဖြစ်လျှင် အဘယ်ကြောင့် အထမြောက်ရပါသနည်း။

## အဖြေကို အလ္လာမဟ်ရှစ်ဗလီက ဤသို့ဖြေကြား၏

ဤအကြောင်းသည်ကား နက်နဲသည်။ အကျယ်တဝင့် ရေးသားရန် နေရာမဟုတ်။ သို့သော် အကျဉ်းအားဖြင့် နားလည်သင့်သည်မှာ အပြစ်ဒုစရိုက်ဖြစ်၍ ပိတ်ပင်တားဆီးထားခြင်းသည် သီးသန့်အပိုင်းတစ်ပိုင်းဖြစ်ပြီး ပြစ်မှုကို ကျူးလွန်ပြုလုပ်ပါက အထမြောက်ခြင်းမှာ အခြား အပိုင်းတစ်ပိုင်းဖြစ်သည်။

ပမာဆိုသော်။ မိမိ၏သားသမီးများကို တရားတော်အရ သာတူညီမျှ ခွဲဝေပေးရန် တာဝန်ရှိသည်။ သို့သော် သမာသမတ်ခြင်း မရှိသူ ဖခင်တစ်ဦးက မိမိ၏ သားသမီးများအနက်မှ တစ်ဦးတစ်ယောက်ကို ပို၍ပေးလိုက်လျှင် မုချအထမြောက်ချေ၏။ (စီရတွန်နွအ်မာန်–၁၄၃)

ထို့နောက် အေမာမ်အဗူဟာနီဖွာသခင်သည် မွတ်ဂျ်သဟစ် တစ်ဦးသာဖြစ်သည်ဟု ရေးသားထား၏။ ကျွန်ုပ်တို့ ဟန္နဖီများတွင် တစ်ဦးတစ်ယောက်ကမျှ ၎င်းကို တမန်တော်ဟု မယူဆချေ။ သို့ရာတွင် တမန်တော်မြတ် ﷺ ခေတ်နှင့် နှစ်ပေါင်း ထောင့်သုံးရာ (၁၃၀၀) ထောင့်သုံးရာကျော်မှ ပေါ်ပေါက်လာသဖြင့် အမှားနှင့်အမှန်ကို တိကျစွာ မဝေဖန်နိုင် သောကြောင့် အကန်းတုတ်စမ်းပမာ မိမိတို့စိတ်ကြိုက်ရာ လိုက်စားနေသူတို့၏ နောက် လိုက်ပြုခြင်းထက် တမန်တော်မြတ် ﷺ ၏ လမ်းစဉ်ကို တွေ့မြင်ခဲ့ကြသော စွဟာဗီကြီး တို့ကို ကိုယ်တိုင် တွေ့မြင်ခဲ့ရသည့် အေမာမ်အအ်ဇမ်– အဗူဟာနီဖွာသခင်၏ အဆုံးအဖြတ် ကို နာခံခြင်းက ပိုမို မှန်ကန်သည်ဟု ယုံကြည်စိတ်ချရသည်။

# စတုတ္ထအခန်း

## တစ်ကြိမ်တည်း သုံးတွလာက် အထမြောက်ကြောင်း ဖွေကဟ်ပညာရှင်များ၏ အဆုံးအဖြတ်

## ဟေဒါယဟ်ကျမ်းနှင့် ကုဒူရီကျမ်း

တွလာက်ကွာရှင်းခြင်းတွင် တမန်တော်မြတ် ﷺ ၏ စွန္နတ်တော်လမ်းစဉ်နှင့် ဆန့်ကျင်ပြီးပေးသော တွလာက်မျိုးကို **တွလာက်ဗစ်ဒ်အီ**ဟု ခေါ်သည်။ ၎င်းဗစ်ဒ်အီ တွလာက်ပေးနည်းမှာ စကားလုံးတစ်လုံး ဝါကျတစ်ခုဖြင့် သုံးတွလာက်ကို တစ်ကြိမ်တည်း ပေးသည်ဖြစ်စေ၊ ရာသီမလာမီ သန့်ရှင်းချိန် တစ်ချိန်အတွင်း၌ပင် တွလာက်သုံးကြိမ်ကို ခွဲ၍ ပေးခြင်းဖြစ်သည်။

**وطلاق البدعة ان يطلقها ثلاثا بكلمة واحدة او ثلاثا فى طهر واحد واذا فعل ذلك وقع الطلاق و بانت امراته منه وكان عاصيا ﴿هداية ص ٣٣٥ المختصر القدورى ص ١٥١﴾**

ဤသို့ တွလာက်ပေးနည်းမှာ အပြစ်ဒုစရိုက်ဖြစ်၍ ပြုလုပ်သူသည် ပြစ်မှုကျူးလွန်သူဖြစ်ပြီး တွလာက်လည်း အထမြောက်ချေ၏။

(ဟေဒါယဟ် အတွဲ ၂-၃၃၅၊ ကုဒူရီ ၁၅၁)

### ဒွရ်ရီမွခ်သာရ်ကျမ်း

در مختار کی عبارت ملاحظہ کیجئے

ظاہر یہ اور شیعہ کے نزدیک تین طلاق یکبارگی دینے سے ایک ہی واقع ہوتی ہے نہ تین. اور ہمارے نزدیک تینوں واقع ہو جاتی ہے. اگر چہ تین طلاق دینا یکبارگی گناہ ہے۔ ہماری دلیل حدیث عجلانی کی ہے جو صحیح بخاری اور مسلم میں مروی ہے. اس میں یہ مضمون ہے کہ عجلانی نے تین طلاق بدون اجازت آنحضرت صلی اللہ علیہ وسلم کے دی اور حضرت نے اس پر انکار نہ فرمایا تو اس حدیث تقریری سے وقوع ثابت ہوا۔

(در مختار جلد ثانی ۹۳)

ဖွာဟိရီယာနှင့် ရှီအာတို့ထံတွင် သုံးတွလာက်ကို တစ်ကြိမ်တည်းပေးလျှင် တွလာက်တစ်ကြိမ်သာ အထမြောက်၏။ ကျွန်ုပ်တို့ အဟ်လေ့စွန္နတ် ဝလ်ဂျမာအတ် ထံတွင် ဤသို့ တစ်ခါတည်း သုံးသွလာက်ပေးခြင်းသည် အပြစ်ဒုစရိုက် ကျူးလွန်ရာ ရောက်လင့်ကစား သုံးတွလာက် အထမြောက်၏။

ကျွန်ုပ်တို့၏ ကိုးကားချက်မှာ စွဟာဗီ အတ်(ဂျ)လာနီနှင့် စပ်လျဉ်းသော ဟဒီဆ်တော်ဖြစ်သည်။ ၎င်းတွင် စွဟာဗီ အတ်(ဂျ)လာနီက တမန်တော်မြတ် ﷺ ၏ ရှေ့မှောက်တွင်ပင် အခွင့်မရှိပဲ သုံးတွလာက်ကို တစ်ခါတည်းပေးခဲ့ရာ တမန်တော်မြတ် ﷺ က မငြင်းပယ်သဖြင့် သုံးတွလာက် အထမြောက်ကြောင်း အတည်ဖြစ်သည်။

**(ကောင်လီ၊ ဖစ်အ်လီ၊ သတ်က်ရီရီ)** ဟူ၍ ဟဒီဆ်တော် သုံးမျိုးသုံးစားရှိရာ နောက်ဆုံးအမျိုးအားဖြင့် အတည်ဖြစ်သည်။ (ဒွတ်ရွလ်မွခ်သာရ်ကျမ်း တွဲ ၂-၁၉၂)

## ရှုရဟ်ဝိကာယဟ်ကျမ်း

میزان شعرانی میں ہے کہ اتفاق کیا ائمہ اربعہ نے کہ جو شخص تین طلاق دے اپنی عورت کو تو پھر اسکو درست نہیں یہاں تک کہ دوسرے خاوند سے نکاح کرے اور نکاح سے مراد اس مقام پر وطی ہے۔

(ترجمہ شرح وقایہ جلد ثانی ۲۶۲)

မီဇာန်ရှအ်ရာနီကျမ်းတွင် ပါရှိသည်မှာ အိမာမ်ကြီး လေးပါးတို့က တညီတညွတ်တည်း ဤသို့အဆုံးအဖြတ် ပေးထားကြကုန်၏။

အကြင်သူသည် မိမိဇနီးအား သုံးတွလာက် တစ်ခါတည်း ပေးလိုက်လျှင် ထိုအမျိုးသမီးသည် အခြားယောက်ျားတစ်ဦးနှင့် နေကာဟ်ပြု ပေါင်းသင်းခြင်း မပြုလုပ်သရွေ့ ကာလပတ်လုံး ထိုသူအတွက် ပြန်လည် ပေါင်းသင်းပိုင်ခွင့် မရှိတော့ချေ။

(ရှုရဟ်ဝိကာယဟ် တွဲ ၂-၂၆၂)

ဤသည်ကား အချို့မော်လဝီများက တရားတော်ကို ပြင်ဆင်၍ ထွင်၍ ဖတ္တဝါ ပေးထားခြင်းမဟုတ်။ ကျွန်ုပ်တို့ အရဗီကျောင်းကြီးများတွင် သင်ကြားပို့ချလျက်ရှိသော ကျမ်းစာများဖြစ်သည်။ ဆရာ့ဆရာများ အဆက်ဆက်က အမြဲတမ်း သင်ပေး၊ သင်ယူ ပြုလုပ်လာခဲ့ကြသော ကျမ်းစာများဖြစ်သည်။ ၎င်းကျမ်းစာ အားလုံးနှင့် ဆန့်ကျင်ပြီး ယနေ့ မဇ်ဟာဗ်လမ်းစဉ်ကိုပါ တော်လှန်ပစ်ရမည်၊ ပြုပြင်ပြောင်းလဲပစ်ရမည်၊ စသည်ဖြင့်

ပြောဆိုရေးသား၊ လှုံ့ဆော်သူများ ရှိနေပြီဖြစ်ရာ ပညာမျက်စိ မရှိသူများအတွက် ရင်လေးဖွယ်ရာပင်ဖြစ်သည်။

အထူးသတိပြုရန်မှာ စွပ်ဟာဗီကြီးများကိုပင် ဆဲရေးပုတ်ခတ်သူများ၊ အီမာမ်ကြီးများကို ကဲ့ရဲ့ရှုတ်ချသူများ၊ ကျမ်းမြတ်ကုရ်အာန်ကို မိမိသဘောနှင့် အလိုကောက်ယူသူများ၊ မဇ်ဟဗ်လမ်းစဉ် လက်မခံသူတို့နှင့် ပထမအခန်းတွင် ဖော်ပြခဲ့သော (၇၂) သင်းတို့က ရေးသားပြုစုထားသော သဖ်စီရ်၊ ဟဒီဆ်၊ ဖတ္တဝါ အစရှိသော စာအုပ်စာတမ်းများသည်ကား ကျွန်ုပ်တို့ စွန္နီ–ဟနဖီများနှင့် လုံးဝ မပတ်သက်ကြောင်း အထူးသတိပြု မှတ်သားထားကြရမည်။

ကျမ်း၊ ကျမ်းကြည့်ဆိုတိုင်း၊ ဖတ္တဝါမွေ့သတ်ဆိုတိုင်း တရားအမှန်၊ လမ်းအမှန် မဟုတ်ကြောင်း လမ်းမမှားကြစေရန် သတိပေးလိုက်ရပေသတည်း။

**ကမ္ဘာတဝန်းရှိ မွတ်စလင်မ် အပေါင်းတို့၏ ယုံကြည်လေးစားခြင်း ခံရသော (ယခင် စဟာရန်ပူရ် ယခု မဒီနာမြို့နေ) ရှိုင်ခွလ်ဟဒီဆ် မော်လာနာ ဇကရီယာ ခေါ် ဆရာသခင်ကြီး၏ တစ်ကြိမ်တည်း သုံးတွလာက်အဆုံးအဖြတ်**

وقوع طلاق ثلاثہ کے بارے میں حضرت شیخ الحدیث مدظلہم العالی سہارنپور کا جواب:

سوال: حضرت عمرؓ سے ایک روایت جو غیر مقلدین پیش کرتے ہیں کہ حضرت عمرؓ نے ایقاع ثلاث درمجلس واحد پر افسوس وندامت ظاہر فرمائی ہے، معلوم ہوا کہ یہ حکم آپ کا سیاسۃ وتہدیداً تھا۔ اغاثۃ اللهفان۔ کذا فی مجمع الانہر (ایک شاگرد)

جواب حضرت شیخ

نہ معلوم طلاق ثلاثہ جیسے کھلے ہوئے مسئلہ میں آپ کو کیوں اشکال پیش آرہے ہیں ایسے مسئلہ میں جس میں جمہور صحابہ جمہور تابعین جملہ محدثین اور تمام فقہا سب ہی ایک طرف سے اسکو موجب قرار دے رہے ہیں، حافظ ابن قیم کے شذوذ وتفرد سے کیا بنتا ہے۔ رہا غیر مقلدین کا نہ ماننا کونسی نئی بات ہے۔ جو عقلا اس زمانہ میں معجزات کا انکار کررہے ہیں انہی کو کون منوا سکتا ہے، حضرت عمرؓ کا اثر جو اغاثہ میں لکھی ہے اس کے رواۃ ان کتب میں جو میرے پاس ہیں نہیں ملے، عجب نہیں عجالہ غلط ہو اگر صحیح بھی مان لیا جائے پھر بھی کسی طرح اشارۃ کنایۃ کسی طرح سے بھی ارادۃ الواحد بالثلاثہ پر استدلال نہیں ہوسکتا

آپ خود ہی حضرت عمرؓ کے اثر کے الفاظ میں غور کر لیجئے کہ حضرت عمرؓ کی ندامت تحریم طلاق کے متعلق ہے یا تنفیذ کے الخ صحابہ کی ایک جماعت جواز کے قائل ہیں کہ تین طلاق کا ایک لفظ میں جمع کر دینا بھی طلاق بنتی ہے صرف خلاف اولی ہے جو حضرت عمرؓ کے نزدیک حرام ہے اسکو نفاذ عدم نفاذ سے کوئی تعلق نہیں حرام کرنا مستقل امر ہے۔ عدم نفاذ مستقل حضرت عمرؓ سے بکثرت اثار میں ثابت ہے کہ جو شخص تین طلاق کا مرتکب آتا تھا اسکو زجر و توبیخ فرمایا کرتے تھے بلکہ ضرب بھی کر دیتے تھے اور تین کا نفاذ بھی کر دیتے تھے لہذا تحریم اور تنفیذ دونوں علیحدہ چیزیں ہیں۔ حضرت عمرؓ کے زمانہ تک انت طالق انت طالق انت طالق سلامت صدور کی بناء پر قائل کی نیت تاکید کا اعتبار کر لیا جاتا تھا حضرت عمرؓ کے زمانہ میں تہدیدا و قضاء غیر معتبر قرار دیدیا، اسکو امام نووی نے اصح الاجوبہ قرار دیا ہے مجمع الانھر کی کیا خصوصیت رہی (مکتوبات علمیہ حضرت شیخ الحدیث سہارنپور ۱۱۲)

ဆရာသခင်ကြီးထံ တပည့်တစ်ဦးက မေးသောမေးခွန်းနှင့် ၎င်း၏အဖြေမှာ အောက်ပါအတိုင်းဖြစ်သည်။

အမေး။ ။ မဇ်ဟာဗ်လက်မခံသူ (ဂိုင်ရ်မိုကလ္လစ်ဒ်)တို့က သမ္မတကြီး အုမရ် ﷺထံမှ ရေဝါယတ် (မဂျ်မအွလ်အန်နဟွရ်)တွင် တင်ပြထား၏။ ၎င်းတွင် သမ္မတကြီး အုမရ်ﷺသည် တစ်ချိန်တည်း၊ တစ်ထိုင်တည်း သုံးတွလာက် အထမြောက်ခြင်းနှင့် ပတ်သက်၍ ဝမ်းနည်း ကြေးကွဲမိကြောင်း ဖော်ပြထား၏။ ထို့ကြောင့် သမ္မတကြီး အုမရ်ﷺ၏ ယင်းအမိန့်သည် နိုင်ငံရေး၊ အုပ်ချုပ်ရေးအရသော်လည်းကောင်း၊ ခြိမ်းခြောက်သော အနေဖြင့်လည်းကောင်း ဖြစ်ကြောင်း သိရှိရပါသည်။ အဖြေမှန်ကို ဖြေကြားပေးပါရန် ပန်ကြားအပ်ပါသည်။

အဖြေ။ ။ ဤမျှခန့် ကျော်ကြားသော သုံးတွလာက် (မတ်စ်အလာ)တွင် အဘယ်ကြောင့် ဤသို့ အခက်အခဲနှင့် တွေ့ကြုံနေရသည်ကို မသိပေ။ တစ်ချိန်တည်း၊ တစ်ထိုင်တည်းပေးသော သုံးတွလာက် အထမြောက်ခြင်းနှင့်ပတ်သက်၍ တစ်ဘက်တွင် (၁) စွဟာဗဟ် သာဝကကြီးများအားလုံး၊ (၂) သာဗေအီများအားလုံး၊ (၃) မိုဟာဒ်ဒေဆီန်ခေါ် ဟဒီဆ်

ပါမောက္ခများအားလုံး၊ (၄) ဖွေကဟ်ပညာရှင်များအားလုံး။ ဤသို့အွမ္မတ်၏ခေါင်းဆောင် အားလုံးတို့က တညီတညွတ်တည်း တစ်ထိုင်တည်း သုံးတွလာက် အထမြောက်ကြောင်း မိန့်ကြား ဆုံးဖြတ် သတ်မှတ် အတည်ပြုကြကုန်၏။

တဘက်တွင် ဣဗ်နွလ်ကိုင်ယင်မ်ကဲ့သို့ တစ်ဦးတစ်ယောက်နှင့် မပြောပလောက်သော လူတစ်စု၏ ဆန့်ကျင်မှုဖြင့် အဘယ်မှာလျှင် အမုန်တရားတွင် အနှောင့်အယှက်ဖြစ်နိုင်အံ့။ ယင်းမတ်စ်အလာကို မဇ်ဟဗ်လက်မခံသူ ဂိုင်ရ်မိုကလ္လစ်ဒ်တို့က လက်မခံဆိုခြင်းမှာ အဘယ်မှာလျှင် ဆန်းကြယ်သလဲ။

၎င်းတို့သာမက ယနေ့လူမစွမ်း အံ့မဆုံးသော မွတ်အ်ဂျေဇာတော်များကိုပင် ခေတ်ပညာရှင်တို့ ငြင်းပယ်လျက်ရှိကြကုန်၏။ ၎င်းတို့အား အမှန်တရား လက်ခံလာအောင် မည်သို့ ပြုလုပ်ပေးနိုင်သလဲ။ ဖွတ်သမားကို မည်မျှပင် ခိုင်လုံသော အကိုးအကား တင်ပြစေကာမူ [illegible]န်းနိုးသာ ဖြစ်သကဲ့သို့ပင်တည်း။

သမ္မတကြီး အုမရ် ﷺ၏ ရေဝါယတ်နှင့် ပတ်သက်၍ ကျွန်ုပ်ထံရှိသော ကျမ်းစာများတွင် မတွေ့ရှိရသေး။ ဤသည် အမှားဖြစ်နိုင်၏။ အကယ်၍ အမှန်ဟုပင် ဆိုကြပါစို့။ ၎င်းရေဝါယတ်ဖြင့် တထိုင်တည်း သုံးတွလာက်သည် တွလာက် တစ်ကြိမ်သာဟု တိုက်ရိုက်သော်လည်းကောင်း၊ သွယ်ဝိုက်၍သော်လည်းကောင်း မည်သို့မျှ အကိုးအကား မပြနိုင်ချေ။

အသင်ကိုယ်တိုင် ရေဝါယတ် အသုံးအနှုန်း စာလုံးကိုကြည့်ပါ။ သမ္မတကြီး အုမရ် ﷺ၏ ဝမ်းနည်းကြေကွဲခြင်းသည် တစ်ချိန်တည်း သုံးတွလာက် ဟရာမ်ဖြစ်ခြင်းနှင့် ပတ်သက်ပါသလား။ သို့မဟုတ် အထမြောက်ခြင်းနှင့် ပတ်သက်ပါသလား။ စွဟာဗဟ်သာဝကကြီးများမှ အချို့တို့က တစ်ချိန်တည်း တစ်ကြိမ်တည်း သုံးတွလာက်ပေးခြင်းနှင့် စပ်လျဉ်း၍ ပြုပိုင်သည်။ သို့ရာတွင် ဤသို့ ပြုလုပ်ရန် မသင့်ဟု ယူဆကြသည်။

သမ္မတကြီး အုမရ် ﷺထံတွင် ဤသို့တွလာက်ပေးခြင်းသည် (ဟရာမ်) ကြီးလေးသော ပြစ်မှုဖြစ်သည်။ ယင်းရေဝါယတ်သည် တစ်ချိန်တည်း သုံးတွလာက် အထမြောက်ခြင်း၊ အထမမြောက်ခြင်းနှင့် လုံးဝမည်သို့မျှ မပတ်သက်ချေ။ ကိစ္စတစ်ခုသည် တစ်ဘက်မှကြည့်လျှင် ဟရာမ်ဖြစ်၍ တစ်ဘက်မှကြည့်လျှင် အထလည်းမြောက်သည်။ ဟရာမ်ဖြစ်၍ အထမမြောက်ဟု မဆိုနိုင်ချေ။ ရေဝါယတ်ပေါင်း အမြောက်အမြားတွင် လာရှိသည်မှာ သမ္မတကြီး အုမရ် ﷺထံ တစ်ချိန်တည်း သုံးတွလာက်ပေးသူ တစ်ဦး တစ်ယောက်

လာရောက်လျှင် ၎င်းအား ဝေါက်ငမ်းရုံသာမက ရိုက်နှက်ဆုံးမ တော်မူ၏။ ထို့နောက် သုံးတွလာက်ကိုလည်း အထမြောက်ကြောင်း ဆုံးဖြတ်တော်မူ၏။ ထို့ကြောင့် ဟရာမ် ဖြစ်ခြင်းနှင့် အထမြောက်ခြင်းတို့သည် တစ်ခုပေါ်တစ်ခု မူတည်လျက် မရှိချေ။

အဖြစ်မှန်မှာ သမ္မတကြီး အုမရ် ﷺ၏ ခေတ်တိုင်အောင်

## اَنۡتِ طَالِقٌ اَنۡتِ طَالِقٌ اَنۡتِ طَالِقٌ

(အသင်မကို တွလာက်၊ အသင်မကို တွလာက်၊ အသင်မကို တွလာက်) ဟု သုံးကြိမ်ဆက်၍ ပြောဆိုခြင်းကို စွဟာဗီတို့၏ ရိုးသားမှု၊ စိတ်နှလုံး ဖြူစင်မှုကြောင့် လေးနက်စေရန် ရည်စူးချက်ကို အတည်ပြုလျက် တွလာက်တစ်ကြိမ်သာ ဟု သတ်မှတ် ခဲ့ကြကုန်၏။ သမ္မတကြီး အုမရ် ﷺ၏ခေတ် ရောက်လာသောအခါ သမ္မတကြီး က ထိုခေတ်ရှိ လူအချို့သည် အထက်ပါ တွလာက်ပေးနည်းဖြင့် လေးနက်စေရန် မရည်စူး တော့ပဲ တသီးတခြားစီ တွလာက်သုံးကြိမ်ကို ရည်စူးလာကြောင်းကို သိရှိရသဖြင့် ၎င်းကို ခြိမ်းခြောက်သည့် အနေဖြင့်လည်းကောင်း၊ ဓမ္မသတ်စီရင် ဆုံးဖြတ်သည့်အနေဖြင့် လည်းကောင်း၊ သုံးတွလာက် အထမြောက်ကြောင်း အတည်ပြု၍ (လေးနက်စေရန်) ဟူသော ရည်စူးချက်ကို ပယ်ဖျက်တော်မူခဲ့၏။

ဤသည်ကား တရားစစ် တရားမှန် ဖြစ်ပျက်ပုံ အမှန်ကန်ဆုံးဖြစ်သည်။ သမ္မတ ကြီး အုမရ် ﷺက တမန်တော်မြတ် ﷺ နှင့် အဗူဗကရ် ﷺသခင်တို့၏ လမ်းစဉ်ကို ပယ်ဖျက်ခြင်းမျိုး မဟုတ်ပေ။

အေမာမ်နဝဝီသခင်က ဤသည်ကို အမှန်ကန်ဆုံးသောအဖြေဟု သတ်မှတ် တော်မူသည်။ ဤသို့ အွမ္မတ်၏ခေါင်းဆောင်အားလုံး တညီတညွတ်တည်းရှိနေသော (မတ်စ်အလာ) ပြဿနာတစ်ခုကို ဆန့်ကျင်ရာတွင် (ကလ်ပ်နုလ်ကိုင်ယင်မ်)ကဲ့သို့ လူတစ်စု နှင့် (အေဃာဆာ)မ(ဂျ)မအွလ်အန်နဟွရ်ကဲ့သို့ စာအုပ်စာတမ်းများသည် အဘယ်မှာလျှင် ဦးစားပေးရန် အရည်အချင်း အဆင့်အတန်း ရှိနိုင်အံ့နည်း။ လုံးဝ အဆင့်အတန်း မရှိချေဟုဆို၏။ (မတ်က်သူဘာသ်အိလ်မိယာ–၁၁၇)

ပညာရေးဆိုင်ရာ စာပေများ ရှိုင်ခွလ်ဟဒီဆ်–ယခင် စဟာရန်ပူရ်

လက်ရှိမဒီနာမြို့တော်

**မှတ်ချက်** ။ ။ ဆရာသခင်ကြီး၏ အဆုံးအဖြတ်ကို ကြားသိရပြီးနောက် ဤအွမှတ်၏ ခေါင်းဆောင်များဖြစ်ကြသော စွဟာဗီ၊ သာဗေအီ၊ မိုဟတ်ဒေဆီးန်၊ ဟဒီဆ်ပါမောက္ခ တို့နှင့် ဖွေကာဟ်ပညာရှင် အားလုံးတို့၏ အဆုံးအဖြတ် ဓမ္မသတ်ကို လက်ခံ နာခံ ကျင့်သုံးသူတို့နှင့် လက်မခံ မနာခံပဲ ဆန့်ကျင်ပြုလုပ်သူတို့တွင် မည်သူတို့သည် အစ္စလာမ်ဘာသာကို အဖျက်သမား လူရှုပ်လူပွေ ဖြစ်ကြသည်ကို သာမာန် လူတစ်ယောက်ကပင် ဝေဖန်နိုင်၏။

## ရှရီအတ်တရားတော်၏တာဝန်

မကောင်းမှု ဒုစရိုက်တစ်ခုကို တွေ့မြင်ရလျှင် ၎င်းကို ပိတ်ပင်တားဆီးရန်မှာ မွတ်စလင်မ်တိုင်းတွင် တာဝန်ရှိသည်။ ထို့အတူ လမ်းမှားသို့ ဖိတ်ခေါ်သူတစ်ဦး ပေါ်ပေါက်လာလျှင် အမှားနှင့်အမှန်ကို ရှင်းလင်းတင်ပြနိုင်သည့် အရည်အချင်း ရှိကြကုန်သော သာသနာ့ပညာရှင်များတွင် ရှင်းလင်းတင်ပြ၍ မွတ်စလင်မ်အပေါင်း လမ်းမမှားကြစေရန် ၎င်းကို ချေပ၍ ပိတ်ပင်တားဆီးရန် တာဝန်ရှိလေသည်။

## ကုရ်အာန်ကျမ်းမြတ် အလင်းပြကျမ်းမှ ကောက်နုတ်ဖော်ပြချက်

တွလာက်သုံးကြိမ်ကို တစ်ခွန်းတည်းဖြင့် ပေးခြင်းသည် **တွလာက်ဗစ်ဒ်အီ** ဖြစ်သည်။ ထိုကဲ့သို့ **တွလာက်ဗစ်ဒ်အီ** ပေးလျှင်လည်း တွလာက် အထမြောက်ကြောင်း ပါရှိသည်။

တွလာက် ကွာရှင်းခြင်းသည် သုံးမျိုးသုံးစားရှိ၏။

(၁) တွလာက်အဟ်စန်

(၂) တွလာက်ဟာစန်

(၃) တွလာက် ဗစ်ဒ်အတ်

(၁) **တွလာက်အဟ်စန်**– အကောင်းဆုံးသော ကွာရှင်းခြင်းဟူသည်ကား ဇနီးမိန်းမအား ရာသီပန်းပွင့်ပြီး၍ **တွဟ်ရ်** သန့်ရှင်းနေသောအချိန်တွင် ဖြစ်စေရမည်။ လင်ယောက်ျားသည် ထို သန့်ရှင်းနေသော အချိန်တွင် ထိုဇနီးမိန်းမနှင့် ကာယကံသင်္ဂ အမှု မပြုသည်လည်းဖြစ်စေရမည်။ ထိုအချိန်တွင် လင်ယောက်ျားသည် မိမိဇနီးမိန်းမအား

တွလာက်တစ်ကြိမ်ပေး၍ အစ်ဒတ်ရက် ကုန်ဆုံးသည်အထိ ပြန်လည် သိမ်းပိုက်ခြင်းမပြုပဲ စွန့်လွှတ် ပြတ်စဲခြင်းကို ဆိုလိုသည်။

(၂) **တွလာက်ဟစန်** – ကောင်းသော တွလာက် ဟူသည်ကား လင်ယောက်ျားသည် ကာယကံသင်္ဂအမှု ပြုပြီးသော မိမိဇနီးမိန်းမအား ပထမရာသီပန်း ပွင့်ပြီး၍ သန့်ရှင်းနေသော အချိန်တွင် တစ်ကြိမ်၊ တတိယရာသီပန်း ပွင့်ပြီး၍ သန့်ရှင်းနေသော အချိန်တွင် တစ်ကြိမ်၊ ဤကဲ့သို့ တွလာက်သုံးကြိမ် အသီးသီးပေးခြင်းကို ဆိုလိုသည်။

(၃) **တွလာက်ဗစ်ဒ်အီ**– ဗစ်ဒ်အတ်ဖြစ်သော တွလာက် ဟူသည်ကား လင်ယောက်ျားသည် မိမိဇနီးမိန်းမအား တွလာက်သုံးကြိမ်ကို တစ်ခွန်းတည်းဖြင့် ပေးခြင်းကိုလည်းကောင်း၊ ရာသီပန်းပွင့်ပြီး၍ သန့်ရှင်းနေသော အချိန်တစ်ခုတည်းတွင်း တွလာက်သုံးကြိမ်ပေးခြင်းကိုလည်းကောင်း ဆိုလိုသည်။ ထိုကဲ့သို့ တွလာက်ဗစ်ဒ်အီ ပေးလျှင်လည်း တွလာက်အထမြောက်သည်။ သို့ရာတွင် တရားတော်နှင့် ဆန့်ကျင်သောနည်းဖြင့် တွလာက်ပေးသည့်အတွက် အပြစ်ဒဏ်သင့်ပေမည်။

(ကြည့်– ဟီဒါယဟ်ကျမ်း)

ကုရ်အာန်ကျမ်းမြတ်၏ အလင်းပြကျမ်း အတွဲ ၂–စာမျက်နှာ ၂၄၀) တစ်ကြိမ်တည်း သုံးတွလာက် အထမြောက်ကြောင်း **မိုဟမ္မဒန်လော** (အင်္ဂလိပ်ဘာသာတွင်ပါရှိခြင်း)

မွတ်စလင်မ် လင်မယား ကွာရှင်းရေး အက်ဥပဒေ–ပုဒ်မ–၃၁၂ အပိုဒ် (၂)တွင် တွလာက်သုံးကြိမ်ကို တစ်ခါတည်းပေးခြင်းသည် ကောင်းမြတ်သော တွလာက်ပေးခြင်း မဟုတ်သော်လည်း တွလာက်အထမြောက်သည်ဟု ပါရှိသည်။

ကြည့် (အင်္ဂလိပ်ဘာသာ) မိုဟမ္မဒန်လော – အတွဲ ၁၀–စာမျက်နှာ ၂၆၈



# ပဉ္စမအခန်း
# ဟလာလဟ်အကြောင်း

الحلالہ۔ ایک مطلقہ عورت کا اور شخص سے نکاح کرنے کے بعد پہلے خاوند سے نکاح کرنا (فیروز اللغات)

**ဟလာလဟ်ဆိုတာဘာလဲ။**

ဟလာလဟ်ဆိုသည်မှာ ကွာရှင်းခြင်းခံရသော အမျိုးသမီးတစ်ဦးသည် အခြား လင်ယောကျ်ားတစ်ဦးနှင့် နေကာဟ်ပြု ပေါင်းသင်းပြီးနောက် ပထမ လင်ယောကျ်ားနှင့် ပြန်လည် ပေါင်းသင်းခြင်းကို ခေါ်သည်။ (ဖွီရိုဇွလ်လိုဃာသ်)

## ဟလာလဟ်ခေါ်တွင်လာပုံ

ဤဒုတိယ လင်ယောကျ်ားနှင့် နိကာဟ်ပြုပေါင်းသင်းခြင်းသည်- **(အခြားယောကျ်ားတစ်ဦးနှင့် နိကာဟ်ပြုပေါင်းသင်းပြီးမှသာ)** ဟူသော အာယတ် တော်ပါ အမိန့်တော်ကို နာခံရာမည်၏။

فَاِنْ طَلَّقَهَا فَلَا تَحِلُّ لَهٗ مِنْۢ بَعْدُ حَتّٰى تَنْكِحَ زَوْجًا غَيْرَهٗ ط

فَاِنْ طَلَّقَهَا فَلَا جُنَاحَ عَلَيْهِمَآ اَنْ يَّتَرَاجَعَآ اِنْ ظَنَّآ اَنْ يُّقِيْمَا حُدُوْدَ اللّٰهِ ط

ထို့နောက်တဖန် ဒုတိယ လင်ယောကျ်ားက အကြောင်းတစုံတရာကြောင့် အကယ်၍ မဆိုင်းငံ့ပဲ ကွာရှင်းလိုက်မည်ဆိုလျှင် (အစ်ဒတ်ရက် ကုန်လွန်သောအခါ) ပထမ လင်ယောကျ်ားနှင့် ပြန်လည် ပေါင်းသင်းရာတွင် အပြစ်တစုံတရာ မရှိချေ။

ဟူသော အာယတ်တော်ပါ အမိန့်တော်အရ ဤဒုတိယ နိကာဟ်သည် ပထမ လင်ယောကျ်ားအတွက် ပြန်ပေါင်းရန် (ဟလာလ်) ဖြစ်စေသောကြောင့် ဝေါဟာရတွင် (ဟလာလဟ်) ဟုခေါ်တွင်လာခြင်းဖြစ်သည်။

တရားတော်က (ဟလာလဟ်) မလုပ်မနေရဟု အမိန့် တစုံတရာ ပေးထားခြင်း မရှိချေ။ သာသနာ့ပညာရှင်များက ကျမ်းမြတ်ကုရ်အာန်၏ အာယတ်တော်---

فَاِذَا طَلَّقْتُمُ النِّسَآءَ فَبَلَغْنَ اَجَلَهُنَّ فَلَا تَعْضُلُوْهُنَّ اَنْ يَّنْكِحْنَ اَزْوَاجَهُنَّ

اِذَا تَرَاضَوْا بَيْنَهُمْ بِالْمَعْرُوْفِ

(အသင်တို့ အမျိုးသမီး မိန်းမများကို တွလာက်ပေး ကွာရှင်းပြီးနောက် အစ်ဒတ် ရက် ကုန်လွန်ပြီးသောအခါ ယင်းအမျိုးသမီးများကို မိမိတို့ လင်ယောက်ျားများနှင့် နိကာဟ်ပြု ထိမ်းမြားရန် နှစ်ဦး သဘောတူညီကြလျှင် ပိတ်ပင် တားဆီးခြင်း မပြု လုပ်ကြလေနှင့်။)
ဟူသော အမိန့်တော်ကို နာခံကြရန် ညွှန်ကြားကြကုန်၏။

ဤသို့ ကွာရှင်းခြင်း ခံရသည့် အမျိုးသမီး၏ ဒုတိယ နိကာဟ်ကို ရှက်စရာ ကောင်းလှသည်၊ လူမဆန်သည့်လုပ်နည်း၊ အမျိုးသမီးများကို ပြည့်တန်ဆာဘဝသို့ ပို့ဆောင်ရာရောက်သည်ဟု ကဲ့ရဲ့ရှုတ်ချကာ ပိတ်ပင်တားဆီးပါလျှင် အထက်ပါ အာယတ်တော်၌ (အသင်တို့ ပိတ်ပင်တားဆီးခြင်း မပြုလုပ်ကြကုန်နှင့်) ဟုပါရှိသော အမိန့်တော်ကို ဖီလာဆန့်ကျင် ပြုလုပ်၍ ပိတ်ပင်တားဆီးရာ ရောက်ချေမည်တည်း။

ဤသို့ မပြုလုပ်ကြရန် သာသနာ့ပညာရှင်များက တားဆီးကြသည်။

## တမန်တော်မြတ် ﷺ ခေတ်တွင် ဟလာလဟ်ဖြစ်ပေါ်လာပုံ

စွဟာဗီသာဝကကြီး ရိဖွာအာက မိမိ၏ဇနီးကို တွလာက်ပေး ကွာရှင်းပြီး သောအခါ ထိုအမျိုးသမီးက အခြားယောက်ျားတစ်ဦးနှင့် နိကာဟ်ပြု လက်ထပ်လိုက်၏။

တစ်နေ့သောအခါ ထိုအမျိုးသမီးသည် တမန်တော်မြတ် ﷺ ထံ လာရောက်၍ ယာ–ရစူလလ္လာဟ် ﷺ ယခု ကျွန်မ နိကာဟ်ပြု ရရှိထားသော လင်ယောက်ျားမှာ (ဤအဝတ်စပမာ) ကာယကံသင်္ဂအမှုကို မပြုလုပ်နိုင်သူ (ယောက်ျားမပီသသူ) တစ်ဦး ဖြစ်နေပါသည်ဟု လျှောက်ထား၏။

ထိုအခါ ရစူလွလ္လာဟ် ﷺ ကိုယ်တော်မြတ်က အသင်မသည် ပထမ လင်ယောက်ျား (ရိဖွာအာ) နှင့် ပြန်လည် ပေါင်းသင်းလိုပါသလားဟု မေးလေရာ ၎င်းအမျိုးသမီးက ဟုတ်ကဲ့ပါဟု ပြောသဖြင့် တမန်တော်မြတ် ﷺ က အသင်မသည် ထိုလင်ယောက်ျားနှင့် ကာယကံမြောက် မပေါင်းသင်းသရွေ့ (ကာယကံသင်္ဂအမှု မပြု လုပ်သရွေ့) ကာလပတ်လုံး ပထမလင် (ရိဖွာအာ)နှင့် ပြန်လည် ပေါင်းသင်းပိုင်ခွင့် မရှိချေဟု မိန့်ကြားတော်မူ၏။

ဤသည်ကား တမန်တော်မြတ် ﷺ ကိုယ်တိုင်က (ဟတ္တာ သန်ကိဟ ဇောင်ဂျန်

ယိုင်ရဟူ) ဟူသော အမိန့်တော်ကို နာခံကျင့်သုံးရန် ရှင်းလင်းပြသကာ ညွှန်ကြားတော်မူခြင်းဖြစ်သည်။ အမျိုးသမီးများကို ရှက်စရာကောင်းလှသော ပြည့်တန်ဆာဘဝသို့ ပို့ဆောင်ခြင်းမျိုး မဟုတ်ချေ။

သုံးတွဲလာက်ပေး ကွာရှင်းခြင်းခံရသော အမျိုးသမီး တစ်ဦးသည် ပထမ လင်ယောကျ်ားနှင့် ဆက်လက် ပေါင်းသင်းနေထိုင်မည်ဆိုပါက (ဟရာမ်)ဖြစ်မှုကို အမြဲကျူးလွန်ရာ ရောက်မည်ဖြစ်သည်။

ဤသို့ (ဟရာမ်)ဖြစ်မှုကို မလိုလားအပ်သည့် အားလျော်စွာ ၎င်းဖြစ်မှုမှ လွတ်မြောက်စေရန်အတွက် ရှရီအတ်တရားဥပဒေကို မဆန့်ကျင်စေပဲ တမန်တော်မြတ် ﷺ ၏ ညွှန်ကြားချက်နှင့်အညီ (ဟလာလ်) ဖြစ်စေမည့် (ဟလာလဟ်)ကို ရှက်စရာကောင်းလှသည်ဟု ထင်မှတ်ကာ မကျင့်သုံးပဲနေပါက ထိုရှက်စရာထက်ပို၍ ခံရမည့် အပြစ်ဒဏ်က ကြောက်စရာ ကောင်းလှ၏။

**သတိ**– ဟရာမ်ကို သိလျက်နှင့် အဖန်တလဲလဲ ကျင့်သုံးနေပါက နောက်ဆုံးသေခါနီးတွင် လက်ရှိအီမာန် ပျက်စီးမည်ကို များစွာ စိုးရိမ်ရသည်။

## ရှရီအတ်တရားတော်၏ပညတ်

**(ဟလာလဟ်)**သည် ပြုလုပ်ပိုင်ခွင့်ရှိသော်လည်း ပေါင်းသင်းပြီး ကွာရှင်းပေးရန်ဟုလည်းကောင်း၊ ပထမ လင်ယောကျ်ားအတွက် ဟလာလ် ဖြစ်စေရန်ဟုလည်းကောင်း ချွင်းချက်ထားပြီး နေကာဟ်ပြုလုပ်ခြင်းကို **(မကရူးသဟ်ရီမဟ်)**ဟု ရှရီအတ်တရားတော်က သတ်မှတ်သည်။ ဤသို့ ပြုလုပ်သူများ **(လအ်နသ်)** အကျ ခံကြရမည်ဖြစ်သည်။ ထို့ကြောင့် ကွာရှင်းခြင်းခံရသော အမျိုးသမီးနှင့် နိကာဟ်ပြုရာတွင် သတိထား မှတ်သားရန် အရေးကြီးသော အချက်များမှာ–

(၁) နိကာဟ်ပြုရာတွင် ကွာရှင်းပေးရန် ချွင်းချက် မထားရ။

(၂) နိကာဟ်ပြုသူသည် ကာယကံသဂ္ဂအမှု ပြုနိုင်သူဖြစ်စေရမည်။

(၃) နိကာဟ်ပြုပြီး တစ်ကြိမ် ကာယကံမြောက် ပေါင်းသင်းရမည်။

(၄) ကွာရှင်းခြင်း ခံရသော အမျိုးသမီးသည် (အစ်ဒတ်)ရက် ကုန်လွန်ပြီး ဖြစ်စေရမည်။

**မှတ်ချက်။** အစ်ဒတ်ရက်ဆိုသည်မှာ–

ရာသီပန်းပွင့်သော အမျိုးသမီးများအတွက် ရာသီပန်း သုံးကြိမ် ပွင့်ပြီးသည့်အထိဖြစ်၏။

ရာသီမလာသော အမျိုးသမီးများအတွက် သုံး(၃)လ ဖြစ်သည်။

ကိုယ်ဝန်ဆောင် အမျိုးသမီးများအတွက် သားဖွားပြီးသည်အထိ ဖြစ်သည်။

(ဗဟာစ်ရှိတီဇေဝရ်ကျမ်း တွဲ ၄–၅၅)

ဤသို့ တိကျမှန်ကန်သော တရားတော်၏ ပညတ်တော်ကို ရှက်စရာကောင်းလှသည်ဟု ယူဆကာ မိမိတို့၏ တိကျမှန်ကန်သော (မဇ်ဟဗ်) လမ်းစဉ်ကို စွန့်လွှတ်ပြီး အခြားဂိုဏ်းများသို့ ကူးပြောင်းကာ (တစ်ကြိမ်တည်း သုံးတွလာက်ကို တွလာက်တစ်ကြိမ်သာ) ဟု ထင်မှတ်၍ လိုက်နာကျင့်သုံးမည်ဆိုလျှင်

ကုရ်အာန်ကျမ်းမြတ်ကိုလည်းကောင်း၊

ဟဒီဆ်တော်များကိုလည်းကောင်း၊

အစ်ဂျ်မာအိအွမ္မတ်ကိုလည်းကောင်း။

ငြင်းပယ်ရာ ရောက်စေသဖြင့် အီမာန်ပျက်စီးမည်ကို စိုးရိမ်ရသည်။

**မှတ်ချက်။** လေးမဇ်ဟဗ် ကွဲလွဲခြင်းကို (၇၂)သင်းဂိုဏ်း ကွဲလွဲသကဲ့သို့ဟု မယူဆလေနှင့်။ ပထမအခန်းတွင် ရှင်းလင်း တင်ပြခဲ့ပြီး ဖြစ်သည့်အတိုင်း လေးမဇ်ဟဗ်တို့သည် ရှရီအတ်တရားတော်၏ ဘောင်အတွင်းမှ ဖြစ်ကြကုန်၏။ (ဝါ) ကုရ်အာန်–ဟဒီဆ်–အစ်ဂျ်မာအိအွမ္မတ်နှင့် ကိယာစ်ခေါ် ကျမ်းမြတ်ကုရ်အာန်၏ အခြေခံမူ ဥပဒေဘောင်အတွင်းမှ ဖြစ်ကြသည်။

ကျန်အသင်း ဂိုဏ်းဝင်များမှာ ထိုအခြေခံမူ အားလုံးကိုလည်းကောင်း၊ အချို့ကိုလည်းကောင်း ငြင်းပယ်ကြပြီး ကွဲလွဲကြသဖြင့် မှန်ကန်သော အဟ်လေ့စွန္နဝလ်ဂျမာအတ်တွင် ဟန္နဖီ၊ ရှာဖိအီ၊ ကွဲလွဲသကဲ့သို့ ဖြစ်သည်ဟု မယူဆလေနှင့်။ အလွန်တရာ ခြားနား ကွာခြားသည်။ ဟန္နဖီ၊ ရှာဖိအီ ကွဲလွဲခြင်းမှာ ဥပဒေဘောင်အတွင်းမှဖြစ်၍ အွမ္မတ်အတွက် ကျယ်ဝန်းမှုကို ဖြစ်စေသောကြောင့် ရဟ်မတ်တော်ဖြစ်သည်ဟု အမိန့်တော်လာရှိသည်။

ကျမ်းမြတ် ကုရ်အာန်ပါ အမိန့်တော်ကို ငြင်းပယ်၍ ကွဲလွဲကြကုန်သော (၇၂)သင်းနှင့် လုံးဝ မတူချေ။

## နိဂုံးချုပ် ပြန်လည် သုံးသပ်ကြပါစို့

တစ်ချိန်တည်း သုံးတွလာက်သည် တွလာက်သုံးကြိမ် အထမြောက်ခြင်းနှင့် စပ်လျဉ်း၍

فَاِنْ طَلَّقَهَا فَلَا تَحِلُّ لَهٗ مِنْۢ بَعْدُ حَتّٰى تَنْكِحَ زَوْجًا غَيْرَهٗ ؕ
فَاِنْ طَلَّقَهَا فَلَا جُنَاحَ عَلَيْهِمَآ اَنْ يَّتَرَاجَعَآ اِنْ ظَنَّآ اَنْ يُّقِيْمَا حُدُوْدَ اللّٰهِ ؕ

(၁) ကျမ်းမြတ်ကုရ်အာန်ဂျွဇ် အမှတ်(၂)ရကူ(၁၂)တွင် အတိအလင်း ပါရှိကြောင်း၊ အကယ်၍ တစ်ကြိမ်တည်း သုံးတွလာက်ကို တွလာက်တစ်ကြိမ်သာဟု ဆိုလျှင် အထက်ပါ အာယတ်တော်ကို မနာခံရာ၊ ဆန့်ကျင်ပြုရာ၊ ပြုပြင်ရာ ရောက်ကြောင်း ဤကျမ်းတွင် ရှင်းလင်းတင်ပြထားပါသည်။

(၂) ဟဒီဆ်တော်များတွင် ဗုခါရီ၊ မွတ်စလင်မ်၊ အဗူဒါဝူးဒ်၊ တွဟာဝီနှင့် အဲအ်လာအွတ်စိုနန် အစရှိသော ဟဒီဆ်ကျမ်းစာအားလုံးတွင် တစ်ကြိမ်တည်း သုံးတွလာက် အထမြောက်ကြောင်း ပါရှိသည်ကို ဤကျမ်းတွင် တင်ပြထားပါသည်။

(၃) ဖိကာဟ်ကျမ်းများတွင် ဟေဒါယဟ်၊ ဒွတ်ရွလ်မွတ်ခ်သာရ်၊ ကုဒူရီ၊ ရှရဟ် ဝိကာယဟ် ကျမ်းစာများ၌ အေမာမ်ကြီး လေးပါးလုံးတို့က တညီတညွတ်တည်း အဆုံးအဖြတ် ပေးထားကြောင်း ဤကျမ်းတွင် တင်ပြထားပါသည်။

(၄) ဓမ္မသတ်အနေဖြင့် သမ္မတကြီး အုမရ်၊ စွဟာဗီကြီး က္လာဗ်နုအဗ္ဗာစ်၊ အိန္ဒိယ ပြည်မှ မွဖ်တီ မဟ်ဒီဟစန်၊ ပါကစ္စတန်နိုင်ငံမှ မွဖ်တီချုပ် မော်လာနာ မုဟမ္မဒ်ရှဖီး၊ အီဂျစ်နိုင်ငံ ကိုင်ရိုမြို့နေ အလ္လာမဟ်ဇာဟစ်ဒ်နှင့် စီရတွန် နုအ်မာန် ရေးသားသော ရှစ်ဗလီသခင်ကြီးတို့က တစ်ကြိမ်တည်း သုံးတွလာက် အထမြောက်ကြောင်း အေမာမ်ကြီး (၄)ပါးစလုံး– ဟန္နဖီ၊ ရှာဖိအီ၊ မာလိကီ၊ ဟန်ဗလီတို့၏ တညီတညွတ်တည်းသော ဆုံးဖြတ်ချက်ဖြစ်ကြောင်း ဤကျမ်းတွင် တင်ပြထားပါသည်။

## တစ်ကြိမ်တည်း သုံးတွလာက်သည် တွလာက်တစ်ကြိမ်သာဟုဆိုရာ၌

(၁) ကျမ်းမြတ်ကုရ်အာန်ကို အဘယ်မှာ အထောက်အထားပြနိုင်အံ့။ ထို့အတူ ယင်းပြဿနာနှင့် သက်ဆိုင်သော ဖော်ပြပါ အာယတ်တော်ကို ဖုံးကွယ်၍ အဘယ်မှာ ရနိုင်အံ့။
ဤမျှမက ကျမ်းမြတ်ကုရ်အာန်က လင်ယောက်ျားများအတွက် ပြန်လည် ရုပ်သိမ်းပိုင်ခွင့်ရှိသော တွလာက်သည် (၂) နှစ်ကြိမ်သာ ဟုဆိုသည်။
အထက်ပါ ယူဆချက်ကို ယူဆသူတို့က (၂)ကြိမ်သာမက (၆) ကြိမ်ဖြစ်သည် ဟုဆိုရာသဘော သက်ရောက်နေသဖြင့် အထက်ပါ အာယတ်တော်ကို ဖီလာဆန့်ကျင်– ပြုပြင်ရာရောက်ကြောင်း ဤကျမ်းတွင် ရှင်းလင်းတင်ပြထားပါသည်။
ဤနည်းအတိုင်း ပါကစ္စတန်နိုင်ငံ မွတ်ဖ်တီချုပ် မွတ်ဖ်တီရှဖီးကလည်း (ဂျဝါဟိရွလ်ဖွိကာဟ်ကျမ်းတွင်) တင်ပြထားသည်။
ထိုအတူ အေမာမ်ဗုခါရီကလည်း မိမိဗုခါရီကျမ်းတွင် တင်ပြထားသည်။

(၂) ဟဒီဆ်တော်နှင့် စပ်လျဉ်း၍ တမန်တော်မြတ်ﷺ သည် တစ်ကြိမ်တည်း သုံးတွလာက်ကို တွလာက်တစ်ကြိမ်အဖြစ် သတ်မှတ်တော်မူသည် ဟုဆို၍ အကိုးအကား တင်ပြရာတွင် စွဟာဗီကြီး ရုကာနဟ်နှင့် စပ်လျဉ်းသော ရိဝါယတ်ကိုပင် အထောက်အထား တင်ပြထား၏။
၎င်း စွဟာဗီ ရုကာနဟ်က ကျွန်ုပ်သည် တွလာက်ကို တစ်ကြိမ်သာ ရည်စူးပေးခဲ့ပါသည်ဟု ကစမ်ကြိမ်ဆိုကာ လျှောက်ထား ပြောဆိုနေခြင်းမှာ တွလာက် သုံးကြိမ် မပေးခဲ့ကြောင်း ထင်ရှားနေပါလျက် တစ်ကြိမ်တည်း သုံးတွလာက်ပေးခဲ့သည်ဟု ဤဟဒီဆ်တော်၏ အလိုကောက်ယူခြင်းသည် ဟဒီဆ်တော်၏ အလိုကို သဘောမပေါက်၊ နားမလည်ကြောင်း၊ အဗူဒါဝူဒ်ကျမ်း၏ ရှင်းလင်းချက်တွင် တင်ပြထားပါသည်။

အွမ်ဒတွလ်အဆာဆ်ကျမ်း (၇၆)တွင်–

ဖွသာဝါ ဆနာအီယာ– ကိုရေးသားသော ပုဂ္ဂိုလ်နှင့် မဖ်ဟဗ် လက်မခံကြကုန်သော ဂိုင်ရ်မိုကလ္လစ်ဒ်တို့ထံတွင် က္လာဗ်နုအဗ္ဗာစ် ဆင့်ပြန်သည့် ရိဝါယတ် (တမန်တော်မြတ် ﷺ ခေတ်၊ အဗူဗကရ်သခင်ခေတ် အားလုံးနှင့် အုမရ်သခင်၏ သမ္မတခေတ် အစပိုင်း (၂)နှစ်တွင် တစ်ကြိမ်တည်း သုံးတွလာက်သည့် တွလာက် တစ်ကြိမ်သာ ဖြစ်ခဲ့သည်)ဟူသော ရိဝါယတ်သည် ၎င်းတို့အကိုးအကား အထောက် အထား တင်ပြရာ၌ အလွန်တရာ နှစ်ထောင်အားရ ဝမ်းသာဖွယ်ရာ ကောင်းလှသော အထောက်အထားကြီး တစ်ရပ် ဖြစ်ချေ၏။ သို့သော် အောက်ပါ ရှင်းလင်းချက်ကို သိရှိရပါမူ ရင်ထုမနာ ဝမ်းနည်းရချေမည်ကား မလွဲတည်း။

၎င်းရိဝါယတ်သည် ဟဒီဆ်အမှန် မဟုတ်ကြောင်း အထက်ဖော်ပြပါ ကျမ်းစာတွင် အကြောင်းပြချက် အမြောက်အမြား တင်ပြထားရာ ဤနေရာတွင် လုံလောက်စေပြီဟု ယူဆသခြင့် အချို့ကိုသာ တင်ပြထားပါသည်။

## အကြောင်းပြချက်များ

(က) အထက်ပါဟဒီဆ်ကို ဆင့်ပြန်ရာတွင် ဆရာသခင်၏ တပည့်ပေါင်း အမြောက်အမြားအနက် တပည့်တစ်ဦးကသာ ဤသို့ဆင့်ပြန်၍ ကျန် တပည့်ပေါင်း ရာကျော်တို့က ၎င်းနှင့်ဆန့်ကျင်ကာ တစ်ကြိမ်တည်း သုံးတွလာက်သည် သုံးတွလာက် အထမြောက်ကြောင်းကို တဆင့် ပြောကြကုန်သည်။ ကြည့် (စိုနန်ကုဗ်ရာ တွဲ ၇–၃၄၈)

(ခ) တပည့်တစ်ဦးသည် မိမိဆရာသခင်နှင့် ဆန့်ကျင်၍ တဆင့်ပြောပါလျှင် ၎င်း၏ လွဲချော် မှားယွင်းခြင်းသာဖြစ်သည်။ ၎င်း၏ဆရာ က္လာဗ်နုအဗ္ဗာစ်၏ ဖတ္တဝါကို ဤကျမ်းတွင် တင်ပြထားပါသည်။

ကြည့် (၁) ဗိဒါယတွလ် မွဂ်ျသဟစ်ဒ်(၆၀)

ကြည့် (၂) အိကာမတွလ် ကိယာမဟ်(၃၇)

ကြည့် (၃) တွဟာဝီကျမ်း (၂၉)

(ဂ) သမ္မတကြီး အုမရ်က မိမိသမ္မတခေတ်၏ အစပိုင်းတွင် တစ်ကြိမ်တည်း သုံးတွလာက်သည့် တွလာက်သုံးကြိမ် အထမြောက်ကြောင်း အမိန့် ထုတ်ပြန်သောအခါ ၎င်းကွပ်နုအဗ္ဗာစ်နှင့် ကျန်စွဟာဗီများ အားလုံး အနက် စွဟာဗီတစ်ဦးတစ်ယောက်ကမျှ မကန့်ကွက်သဖြင့် ၎င်း၏ အမိန့်သည် အစ်ဂျ်မာအိစွဟာဗဟ်ဖြစ်၍ အစ်ဂျ်မာအ်သည် အစ္စလာမ် တရားဥပဒေတွင် ခိုင်လုံသော အထောက်အထားကြီး တစ်ရပ်ဖြစ် သည်။

အကယ်၍သာ ရစူလ်ကိုယ်တော်မြတ် ﷺ လမ်းစဉ်နှင့် ဆန့်ကျင်ပါမူ စွဟာဗီ တစ်ဦးတစ်ယောက်က မုချ ကန့်ကွက်မည်ဖြစ်၏။

(ဃ) ရစူလ်ကိုယ်တော်မြတ် ﷺ ကိုယ်တိုင် တစ်ကြိမ်တည်း သုံးတွလာက်ကို တွလာက် သုံးကြိမ်အဖြစ် သတ်မှတ်တော်မူခဲ့ကြောင်း ခိုင်မာလုံလောက် သော ဟဒီဆ်တော် အမှန်လာရှိသဖြင့် အေမာမ်ဗုခါရီက ၎င်းမှန်ကန် သော ဟဒီဆ်တော်ကို မိမိ၏ ခိုင်မာမှန်ကန်သော ဗုခါရီကျမ်းတွင် ထည့်သွင်း ဖော်ပြပြီးနောက် အထက်ပါ ရိဝါယတ်ကိုမူကား မမှန်ကန် သဖြင့် လုံးဝ ထည့်သွင်းခြင်း မပြုလုပ်ချေ။

ကြည့် (ဗုခါရီ၊ တွဲ ၂-၇၉၀)

ထို့ကြောင့် ရိဝါယတ်တစ်ခုသည် ကျမ်းမြတ်ကုရ်အာန်နှင့် ခိုင်မာမှန်ကန်သော ဟဒီဆ်တော်ကို ဖီလာဆန့်ကျင်စေလျှင် ၎င်းကို ပယ်ရမည်သာဖြစ်သည်။

ဤကျမ်းတွင် ယင်းရိဝါယတ်သည်-

ကျမ်းမြတ်ကုရ်အာန်၏ အာယတ်တော်နှင့်လည်းကောင်း၊ ဗုခါရီ၊ မွတ်စလင်မ်၊ အဗူဒါဝူဒ် အစရှိသော ဟဒီဆ်ကျမ်းတို့ အားလုံးနှင့် ဆန့်ကျင်ကြောင်းကို ရှင်းလင်းတင်ပြ ထားပါသည်။

(၃) တစ်ကြိမ်တည်း သုံးတွလာက်သည် တွလာက်တစ်ကြိမ်သာဟု ဆိုရာ၌ မည်သည့် ဖွေကာဟ်ကျမ်းကိုမျှ အထောက်အထား တင်မပြနိုင်ချေ။ အကြောင်းမူကား ဖွေကာဟ်ကျမ်းစာ အားလုံးတွင် အေမာမ်ကြီး လေးပါးလုံး (ဟန္နဖီ၊ ရှာဖိအီ၊ ဟန်ဗလီ၊ မာလိကီ)တို့ထံတွင် တညီတညွတ်တည်း တစ်ကြိမ်တည်း တစ်ချိန်တည်း သုံးတွလာက်သည် တွလာက်သုံးကြိမ် အထမြောက်ကြောင်းသာ ပါရှိသည်။

(၄) ဖွတာဝါ–ဆနာအီယာနှင့် မဇ်ဟာဗ်လမ်းစဉ်ကို လက်မခံကြကုန်သော ဂိုင်းရ်မုကလ္လစ်ဒ်တို့၏ ဖတ္တဝါ၊ တဖ်ဆီးရ် အစရှိသည် စာအုပ်စာတမ်းတို့သည် မဇ်ဟာဗ်လေးပါး အပြင်မှဖြစ်သဖြင့် စွန္နတ်လမ်းစဉ်ကို လိုက်နာကျင့်သုံးကြကုန်သော ဤနိုင်ငံ စွန္နီများနှင့် လုံးဝ ဘာမျှ မပတ်သက်ချေ။ အကြောင်းမူကား ဤကျမ်းစာ၏ တတိယအခန်းတွင် တင်ပြခဲ့သည့်အတိုင်း အဟ်လေ့စွန္နတ်ခေါ် မဇ်ဟာဗ်လမ်းစဉ်ကို လက်မခံ မနာခံပါက သာသနာတော်ကို ပျက်စီးစေမည့် ဘေးအန္တရာယ်ကြီးများဖြစ်သော–

(က) အစ်ဂျ်မာအိအွမ္မတ်ကို ဆန့်ကျင်စေခြင်း၊
(ခ) အစ်ဂျ်မာအ်နှင့် စပ်လျဉ်းသော အာယတ်တော်ကို ငြင်းပယ်ရာ ရောက်စေခြင်း၊
(ဂ) အလ္လာဟ်အရှင့်အမိန့်တော်ကို နာခံရမည့်အစား မိမိစိတ်၏ အမိန့်ကိုသာ နာခံသူဖြစ်စေခြင်း၊
(ဃ) သာသနာ့ပညာနှင့် သာသနာ့ ကျင့်စဉ်ကျင့်ရပ် အားလုံးတွင် အလ္လာဟ်အသျှင် နှစ်သက်တော်မူစေရန်ဟူသော စိတ်စေတနာ ဖြူစင်မှုကို မရရှိနိုင်ခြင်း၊
(င) သာသနာ့အမိန့်ကို နာခံခြင်းမှ အပြင်သို့ ထွက်ရောက်စေခြင်းတို့သည် မိမိတို့ ကြိုးစားအားထုတ် ပြုလုပ်ဆောင်ရွက်လျက်ရှိသော သာသနာ

တော်ကို အကျိုးမဲ့၊ အချည်းနှီး၊ အလဟဿဖြစ်အောင် ပျက်စီးစေသော အန္တရာယ်ကြီးများဖြစ်၍ လူတိုင်းတွင် မိမိတို့ ယုံကြည်လေးစားကာ လိုက်နာကျင့်သုံးလျက်ရှိသော သာသနာတော်ကို ပျက်စီးစေခြင်းမှ ကာကွယ်ရန် တာဝန်ရှိသည်။

## ထို့ကြောင့်

(၁) အစ်ဂ်ျမာအ်ကိုပယ်သူ

(၂) ၎င်းနှင့်စပ်လျဉ်းသော အာယတ်တော်ကိုပယ်သူ၊

(၃) အလ္လာဟ်အသျှင့်အမိန့်၊ တရားတော်၏အမိန့် နာခံမည့်အစား မိမိစိတ်ဆန္ဒ၏အမိန့်ကို နာခံသူ၊

(၄) မဇ်ဟဗ် လမ်းစဉ်မှ အပြင်ထွက်နေသူတို့၏ မည်သည့်ဖတ္တဝါ၊ မည်သည့်ကျမ်းစာ၊ မည်သည့်စာအုပ်စာတမ်းမျှ လုံးဝမလိုက်နာ၊ မကျင့်သုံးအပ်ကြောင်း စွန္နတ်လမ်းစဉ် လိုက်နာ ကျင့်သုံးကြကုန်သော ကျွန်ုပ်တို့စွန္နီများနှင့် လုံးဝ မပတ်သက်ကြောင်း၊ မွတ်စလင်မ် အပေါင်းတို့အား တရားမှန်လမ်းမှန်ကို သိရှိနားလည်ကြစေရန် ရှင်းလင်းတင်ပြလိုက်ရပေသတည်း။

ထိုနည်းအတူ မည်သည့် မဇ်ဟဗ်ကိုမျှ လက်မခံပဲ (အကန်းတုတ်စမ်းပမာ) မိမိတို့ စိတ်ကြိုက်ရာကို လိုက်စားနေသူတို့၏ နောက်လိုက်ပြုခြင်းထက် တမန်တော်မြတ် ﷺ ၏ လမ်းစဉ်ကို တွေ့မြင်ခဲ့ကြကုန်သည့် စွဟာဗီကြီးတို့ကို တွေ့မြင်ခဲ့ရသော (အေမာမ်အအ်ဇမ်) အဗူဟနီဖွာသခင်၏ အဆုံးအဖြတ်ကို နာခံခြင်းက ပိုမိုမှန်ကန်ကြောင်း ယုံကြည်စိတ်ချရသည်။

ဤသို့ သဘောတရားဥပဒေကို နားလည်သဘောပေါက်ကြသဖြင့် တစ်ကမ္ဘာလုံးတွင် စွန္နီ ဟနဖီဦးရေ အများဆုံးဖြစ်သည်မှာ မဇ်ဟဗ် လိုက်နာကျင့်သုံးသူတို့၏ ထူးကဲသော ဂုဏ်ထူးဝိသေသ တစ်ရပ်ဖြစ်ကြောင်း သတိပေးအပ်ပေသတည်း။

တစ်ကြိမ်တည်း သုံးတွလာက်ကို တွလာက်တစ်ကြိမ်သာဟု ထင်မှတ်၍

ဆက်လက်ပေါင်းသင်း နေထိုင်ခြင်းသည် ကုရ်အာန်၊ ဟဒီဆ်တော်အရ အေမာမ်ကြီး (၄)လေးပါးလုံးထံတွင် ဇေနာပြစ်မှု ကျူးလွန်ရာ ရောက်ကြောင်း ဖော်ပြပြီးသည့်နောက်

## ဇေနာပြစ်မှုကြောင့် ခံစားရမည့် နစ်နာဆုံးရှုံးမှုများ

ကိုအစ်(အ)တေ့ဒါလ်ကျမ်းတွင် အောက်ပါအတိုင်း ဖော်ပြထား၏။

(၁) ရစူလွလ္လာဟ် ﷺ အမိန့်ရှိသည်မှာ အကြင်သူတို့တွင် ဇေနာပြစ်မှုနှင့် အတိုးစားခြင်း များပြားလာလျှင် ၎င်းတို့က အလ္လာဟ်အသျှင်မြတ်၏ အပြစ်ဒဏ်ပေးခြင်းကို ခံစားကြရန်အတွက် မိမိတို့ကိုယ်ကို အဆင်သင့် ပြုလုပ်ကြကုန်၏။

(၂) ရစူလွလ္လာဟ် ﷺ အမိန့်ရှိသည်မှာ ဇေနာပြစ်မှုသည် (ရိဇ်ဇ်) စားနပ် ရိက္ခာ ရှားပါးသော ဆင်းရဲဒုက္ခကို ဖြစ်ပေါ်စေသည်။

(၃) ရစူလွလ္လာဟ် ﷺ အမိန့်ရှိသည်မှာ အကြင်လူတစ်စုတွင် ဇေနာပြစ်မှု ပေါ်ပေါက်လာလျှင် ၎င်းတို့တွင် အသက်သေကြေ ပျက်စီးမှု များစွာ ရှိမည်ဖြစ်၏။

عن ميمونة رضى الله عنها قالت سمعت رسول الله صلى الله عليه وسلم يقول لا يزال امتى بخير مالم تفش فيهم ولد الزنا فاذا فشا فيهم ولد الزنا فاوشك ان يعمهم الله بعذاب رواه احمد واسناد حسن ﴿الترغيب والترهيب ص٥٦﴾

ဤသည် လောကရေး၏ နစ်နာမှုများဖြစ်ပြီး အာခေရတ်တွင် ခံကြရမည့် အပြစ်ဒဏ်သည်ကား ဤဘေးဒုက္ခများထက် အတိုင်းအဆမရှိ ခံကြရမည်ဖြစ်၏။ ၎င်းဘေးဒုက္ခအပေါင်းကို ရင်မဆိုင်ကြ၊ မခံစားကြစေရန်အတွက် စေတနာ ကောင်းမွန်စွာဖြင့် အောက်ပါအတိုင်း ဖတ္တဝါ အဆုံးအဖြတ် ပေးလိုက်ပေသတည်း။

## သုံးတွလာက် ဟလာလဟ်နှင့် စပ်လျဉ်း၍ ကုရ်အာန်၊ ဟဒီဆ်၊ ဖိကာဟ်နှင့်အညီ ဖတ္တဝါ အဆုံးအဖြတ်

(၁) မည်သူမဆို မိမိ၏ဇနီးအား သုံးတွလာက်ကို တစ်ကြိမ်တစ်ခါတည်း ပေးလိုက်လျှင် တွလာက်သုံးကြိမ်လုံးပင် အထမြောက်သည်။

(၂) ဤသို့ တစ်ကြိမ်တစ်ခါတည်း သုံးတွလာက် မပေးရ။ ပေးခြင်းသည် တမန်တော်မြတ် ﷺ ၏ စွန္နတ်လမ်းစဉ်နှင့် ဆန့်ကျင်သော **ဗစ်ဒ်အီ တွလာက်**ဖြစ်၍ ဒုစရိုက်ကြီး တစ်ခုဖြစ်သည်။ ဒုစရိုက်မှ ရှောင်ကြဉ်ရန် လူတိုင်းတွင် တာဝန်ရှိသည်။

(၃) တွလာက်ကို စည်းမဲ့ကမ်းမဲ့ မပေးနှင့်။ ပြောဆို ဆုံးမ၍ မရတော့ပါက တရားတော်နှင့်အညီ ရိုက်နှက်ဆုံးမနိုင်သည်။ ဤသို့ နည်းအမျိုးမျိုးဖြင့် ဆုံးမ၍ မရသောအခါမှ စဉ်းစဉ်းစားစား တွလာက်ကို တစ်ကြိမ်သာ ပေး၍ စွန့်ခွာရမည်။ တွလာက်ကိုသုံးကြိမ်ပေးမှ ပြတ်စဲစေသည်မဟုတ်။ တွလာက်ကို တစ်ကြိမ်သာပေးပြီး **အစ်ဒတ်**ရက် ကုန်လွန်ပါက အလို အလျောက် ပြတ်စဲသွားသည်။

ဤသို့ တွလာက်ကို တစ်ကြိမ်သာပေးပြီး ကွာရှင်းခြင်းသည် အကောင်းဆုံးသော ကွာရှင်းနည်းဖြစ်သည်။ ထိုနောက် ဘေးအန္တရာယ် လည်းမရှိ၊ အပြစ်ဒုစရိုက်လည်းမဖြစ်၊ **အစ်ဒတ်**ရက် ကုန်လွန်ပြီးသော် လည်း ပြန်လည် ပေါင်းသင်းလိုက နိကာဟ်ပြု၍ ပေါင်းသင်းနိုင်သည်။

(၄) တွလာက်ကို မေ့၍သော်လည်းကောင်း၊ မှား၍သော်လည်းကောင်း၊ စိတ်ဆိုး၍သော်လည်းကောင်း၊ သရော်ပျက်ချော် ပြောင်လှောင်သည့် သဘောနှင့်သော်လည်းကောင်း မပေးနှင့်။ ဤသို့ ပေးလျှင်လည်း တွလာက် အထမြောက်သည်။

(၅) သုံးတွလာက်ကို တစ်ကြိမ်တည်း ပေးမိသဖြင့် တွလာက်တစ်ကြိမ်သာ အထမြောက်သည်ဆိုခြင်းမှာ–

- ကျမ်းမြတ်ကုရ်အာန်နှင့် ဆန့်ကျင်သည်။
- ဗုခါရီ၊ မွတ်စလင်မ်၊ အဗူဒါဝူဒ်၊ တွဟာဝီ အစရှိသော (စေဟာစစ်သား) ဟာဒီဆ်ကျမ်းစာများအားလုံးနှင့် ဆန့်ကျင်သည်။
- ဟေဒါယဟ်၊ ကုဒူရီ၊ ရှရဟ်ဝိကာယဟ်၊ ဒွရ်ရွလ်မွတ်ခ်တာရ် အစရှိသော ဖိကာဟ်ကျမ်းစာအားလုံးနှင့် ဆန့်ကျင်သည်။

(၆) တမန်တော်မြတ်ﷺ သည် တစ်ကြိမ်တည်း သုံးတွလာက်ကို တွလာက်တစ်ကြိမ်အဖြစ်သာ သတ်မှတ်တော်မူသည်ဟု အကိုးအကား တင်ပြချက်နှင့်စပ်လျဉ်း၍ အိမာမ်ဗုခါရီသခင်က မဟုတ်မမှန်ကြောင်း မိမိဗုခါရီကျမ်းတွင် ( တမန်တော်မြတ်ﷺ သည် တစ်ကြိမ်တည်း သုံးတွလာက်ကို တွလာက် သုံးကြိမ်အဖြစ် သတ်မှတ်တော်မူကြောင်း)ကို ထည့်သွင်းဖော်ပြကာ ၎င်းယူဆချက်သည် ကျမ်းမြတ်ကုရ်အာန်နှင့် ဆန့်ကျင်ကြောင်းကို အဆုံးအဖြတ်ပေးထားသည်။

(၇) ထို့အတူ တမန်တော်မြတ်ﷺ ခေတ်၊ အဗူဗကရ် ؓ သခင်ခေတ်အားလုံးနှင့် သမ္ဘတကြီး အုမရ် ؓ ၏ခေတ် အစပိုင်း (၂)နှစ်တွင် တစ်ကြိမ်တည်း သုံးတွလာက်သည် တွလာက်တစ်ကြိမ်သာ ဖြစ်ခဲ့သည်ဟူသော ရိဝါယတ်နှင့် စပ်လျဉ်း၍ (အွမ်ဒတွလ်အဆာဆ်)ကျမ်းတွင် ၎င်းသည် ဟာဒီဆ်အမှန် လုံးဝ မဟုတ်ကြောင်း အကြောင်းပြချက် အမြောက်အမြားကို ရှင်းလင်းတင်ပြထားသည်။

(၈) ကွာရှင်းပေးရန် ကြိုတင် ချွင်းချက်ဖြင့်လည်းကောင်း၊ အကြပ်ကိုင်၍လည်းကောင်း၊ တရားဥပဒေနှင့် ဖီလာဆန့်ကျင်သည့် **ဟလာလဟ်** နည်းစနစ်မျိုးကို မပြုလုပ်ကြလေနှင့်။ ဤသို့ မပိုင်သော နည်းစနစ်ဖြင့် ပြုလုပ်ပါက **မကရှူဟ်သဟ်ရီမာ** အပြစ်ဖြစ်သည်။

(၉) ဟလာလဟ်အခန်းတွင် ရှရီအတ်တရားတော်၏ ပညတ်တင်ပြထားသည့်အတိုင်း၊ နည်းမှန်၊ လမ်းမှန်၊ ရည်စူးချက်မှန်ကန်သော **ဟလာလဟ်** ပြုလုပ်နည်းသည် အမှန်စင်စစ် (အခြားယောက်ျားတစ်ဦးနှင့်

နိကာဟ်ပြု ပေါင်းသင်းပြီးမှသာ) ဟူသော ကျမ်းမြတ်ကုရ်အာန်ပါ အမိန့်တော်ကို လိုက်နာကျင့်သုံးစေခြင်းဖြစ်သည်။

ဤနည်းလမ်းမှအပ အခြားနည်းလမ်း မရှိချေ။

(၁၀) တရားဥပဒေ၏ မည်သည့်ကိစ္စကိုမဆို ပြောင်လှောင်သရော်ခြင်း မပြုလုပ်နှင့်၊ အီမာန်ကို ပျက်စီးစေသည်။

ထို့အတူ မည်သည့် အပြစ်ဒုစရိုက်ကိုမဆို **ဟလာလ်** ပြုလုပ်ပိုင်ခွင့် ရှိသည်ဟု မယူဆလေနှင့်၊ အီမာန်ကို ပျက်စီးစေသည်။

استحلال المعصية صغيرة كانت او كبيرة كفر اذا ثبت كونها معصية بدليل قطعى والاستهانة بها كفر والاستهزاء على الشريعة كفر ﴿شرح عقائد صـ ١٢٠﴾

(၁၁) ဤစစ်မှန်သော ဖတ္တဝါ အဆုံးအဖြတ်ကို မသိရှိမီက သုံးတွလာက်ပေးပြီး ပြန်လည် ပေါင်းသင်းနေထိုင်သူတို့သည် အမြန်ဆုံး **သောင်ဘာ** ပြုလုပ်ကြရမည်။ သို့ **သောင်ဘာ** မပြုပဲ ဆက်လက် ပေါင်းသင်းနေထိုင်ပါက **ဇေနာ**ပြစ်မှုကို ကျူးလွန်သူ များဖြစ်ကြ၍ ၎င်းတို့မှ ပေါက်ဖွားလာသော သား၊ သမီးများသည် **ဝလဒ္ဒတ်ဇေနာ** ဗီဇမမှန် တရားမဝင်သော ကလေးများဟု အခေါ်ခံရမည်။ **ဟရာမ်** ဖြစ်ကြောင်းကို ရှင်းလင်းတင်ပြသဖြင့် သိရှိရပြီးနောက် ၎င်းကို **ဟလာလ်**ဟု ထင်မှတ်က အီမာန်ပျက်စီးသည်။ သို့တည်းမဟုတ် **ဟရာမ်** ပြစ်မှုကို အဖန်တလဲလဲ ကျင့်သုံးသူသည် သေခါနီး နောက်ဆုံးတွင် **အီမာန်**ပျက်စီးမည်ကို များစွာ စိုးရိမ်ရကြောင်း အများမွတ်စလင်မ်တို့ သိရှိကြစေရန် စေတနာ ကောင်းမွန်စွာဖြင့် အထူး သတိပေးလိုက်ပေသတည်း။

اَللّٰهُمَّ اَرِنَا الْحَقَّ حَقًّا وَّارْزُقْنَا اتِّبَاعَهٗ وَاَرِنَا الْبَاطِلَ بَاطِلًا وَّارْزُقْنَا اجْتِنَابَهٗ
اَللّٰهُمَّ انْصُرْ مَنْ نَّصَرَ دِيْنَ مُحَمَّدٍ صَلَّى اللّٰهُ عَلَيْهِ وَسَلَّمَ وَاجْعَلْنَا مِنْهُمْ
وَاخْذُلْ مَنْ خَذَلَ دِيْنَ مُحَمَّدٍ صَلَّى اللّٰهُ عَلَيْهِ وَسَلَّمَ وَلَا تَجْعَلْنَا مَعَهُمْ

အို–အသျှင်၊ ကျွန်တော်မျိုးတို့အား အမှန်တရားကို ပြသတော်မူ၍ ၎င်းကို လိုက်နာကျင့်သုံးနိုင်စွမ်းကို ပေးသနားတော်မူပါ။

အို–အသျှင်၊ အမှားကို အမှားဟု ပြသတော်မူ၍ ၎င်းမှ ရှောင်ကြဉ်နိုင်စွမ်းကို ပေးသနားတော်မူပါ။

အို–အသျှင်၊ တမန်တော်မြတ် ﷺ ယူဆောင်လာသော သာသနာတော်ကို ကူညီ စောင့်ရှောက်သူတို့ကို ကူညီစောင့်ရှောက်တော်မူ၍ မကူညီပဲ ဖျက်စီးသူတို့ကို မကူညီပဲ ဖျက်စီးတော်မူပါ။

အို–အသျှင်၊ ကျွန်တော်မျိုးတို့အားလုံးကို တမန်တော်မြတ် ﷺ ယူဆောင်လာသော သာသနာတော်ကို ကူညီသူများတွင် ပါဝင်စေတော်မူ၍ မကူညီပဲ ဖျက်စီးသူများတွင် မပါဝင်ရပါစေနှင့်၊ ၎င်းမှ ကင်းရန် ဆုပန်ပါ၏ – ယာအလ္လာဟ် (အာမီးန်)

**အဗ်ဒွလ်ဟကီးမ်**
ဓမ္မသတ်မှုး
အစ္စလာမ်ဘာသာရေးဓမ္မသတ်ဌာန
အိုလမာ အစ္စလာမ်သာသနာ့ပညာရှင်များအဖွဲ့ ချုပ်
ပျော်ဘွယ်မြို့

## ဤအဆုံးအဖြတ်နှင့်စပ်လျဉ်း၍ သာသနာ့ပညာရှင်ပေါင်း ၂၅၆ပါးတို့၏ ထောက်ခံချက်

၁၉၇၃–ခု၊ မတ်လ (၄)ရက်နေ့တွင် ကျင်းပခဲ့သော ပြည်လုံးကျွတ် အစ္စလာမ် သာသနာရေး နှီးနှောပွဲကြီးတွင် တစ်ချိန်တည်း သုံးတွလာက်နှင့် စပ်လျဉ်း၍ သုံးတွလာက် အထမြောက်ကြောင်း ဆုံးဖြတ်ထောက်ခံပြီး လက်မှတ်ရေးထိုးကြသည်။

တွလာက်သုံးကြိမ်ကို တစ်ချိန်တည်း၊ တစ်ခွန်းတည်းဖြင့် ပေးသည်ဖြစ်စေ၊ စာချုပ်စာတမ်းဖြင့် ပေးသည်ဖြစ်စေ၊ နှုတ်ဖြင့်ပေးသည်ဖြစ်စေ၊ ကုရ်အာန်ကျမ်းလာ (၂၊ ၂၂၉၊၂၃၀)အရလည်းကောင်း၊ တမန်တော်မြတ် ﷺ ၏ ဟဒီဆ်တော်များအရ လည်းကောင်း၊ စ္စဟာဗဟ်သာဝကကြီးများ၏ ကျင့်ထုံးအရလည်းကောင်း၊ အေမာမ်ကြီး လေးပါးတို့၏ ဆုံးဖြတ်ချက်အရလည်းကောင်း၊ မွတ်စလင်မ်အပေါင်းတို့ ယနေ့တိုင်အောင် လက်ခံကျင့်သုံးလျက်ရှိသော **အစ်ဂျ်မာအ်**ခေါ် တညီတညွတ်တည်း လက်ခံကျင့်သုံးမှု အရလည်းကောင်း၊ တွလာက် သုံးကြိမ် အထမြောက်သွားသည်သာမက လင်ခန်း မယားခန်းလည်း လုံးဝ ပြတ်စဲသွားပြီးဖြစ်ရာ တွလာက်ပေးခြင်းခံရသော အမျိုးသမီးမှာ ကုရ်အာန်ကျမ်းလာ (၂း၂၃၀)အရ **ဟလာလဟ်** မပြုသမျှ ကာလပတ်လုံး ပထမ ကွာရှင်းခဲ့သော လင်ယောကျာ်းနှင့် ပြန်လည်ပေါင်းသင်းနိုင်ခြင်း လုံးဝမရှိပေ။

တွလာက်သုံးကြိမ်ကို တစ်ချိန်တည်း တစ်ခွန်းတည်းပေးခြင်းဖြင့် တွလာက် တစ်ကြိမ်သာလျှင် အထမြောက်သည်ဟု အဆုံးအဖြတ်ပေးခြင်းမှာ **ကုရ်အာန်၊ ဟဒီဆ်နှင့် အစ်ဂျ်မာအ်** အားလုံးကို ဆန့်ကျင်စွာ အဆုံးအဖြတ်ပေးခြင်းသာဖြစ်သည်။

တမန်တော်မြတ် ﷺ သည် မိမိလက်ထက်တော်တွင် တွလာက်သုံးကြိမ် တစ်ချိန်တည်း တစ်ခွန်းတည်း ပေးသည်ကို တွလာက်သုံးကြိမ် ဟူ၍သာ အတည်ပြု တော်မူခဲ့သည်။

တမန်တော်မြတ် ﷺ လက်ထက်တော်တွင် တစ်ဦးတစ်ယောက်က တစ်ချိန် တည်း တစ်ခွန်းတည်း သုံးတွလာက်ပေးခဲ့သည်ကို တမန်တော်မြတ် ﷺ က တွလာက် တစ်ကြိမ်သာမြောက်သည်ဟု စီရင် ဆုံးဖြတ်တော်မူခဲ့သည်ဟူ၍ လုံးဝမရှိပေ။

သို့ဖြစ်ပေရာ တွလာက်သုံးကြိမ်ကို မည်သည့်နည်းဖြင့် ပေးစေကာမူ တွလာက် တစ်ကြိမ် လုံးဝမဖြစ်ခဲ့ပဲ သုံးကြိမ်သာဖြစ်ခဲ့ကြောင်း၊ တစ်ကြိမ်ဖြစ်သည်ဟု အဆုံးအဖြတ် ပေးခြင်းမှာ ကုရ်အာန်ကျမ်းတော်မြတ်နှင့် ဟဒီဆ်တော်များအပြင် **အစ်ဂျ်မာအ်** ကိုပါ ဆန့်ကျင်စွာ အဆုံးအဖြတ်ပေးခြင်း ဖြစ်သောကြောင့် **အဟ်လေ့စွန္နတ်**၏ အဆုံးအဖြတ် မဟုတ်ကြောင်း ဤပြည်လုံးကျွတ် အစ္စလာမ်သာသနာရေး နှီးနှောပွဲကြီးမှ အကွဲအလွဲမရှိ တညီတညွတ်တည်း ဆုံးဖြတ် အတည်ပြုလိုက်ကြရပေသတည်း။

**ဤအဆုံးအဖြတ် မှန်ကန်ကြောင်း ထောက်ခံ လက်မှတ်ရေးထိုးသူများမှာ–**

| | |
|---|---|
| ရန်ကုန်မြို့မှ မော်လာနာ | (၁၂၃)ပါး |
| မန္တလေးမှ | (၄၅)ပါး |
| ကျောက်ဆည်မှ | (၉)ပါး |
| မော်လမြိုင်မှ | (၂၄)ပါး |
| အခြားမြို့ရွာမှ | (၅၅)ပါး၊ စုစုပေါင်း ၂၅၆ပါးတို့ဖြစ်သည်။ |

## (ဤကျမ်းတွင် ကိုးကားသောကျမ်းစာများစာရင်း)

(၁) ကျမ်းမြတ်ကုရ်အာန်
(၂) သဖ်စီရ်ဟက္ကာနီ
(၃) သဖ်စီရ်ကာဒရီ
(၄) ဗုခါရီကျမ်း
(၅) မွတ်စလင်မ်ကျမ်း
(၆) အဗူဒါဝူဒ်ကျမ်း
(၇) သေရ်မိဇီကျမ်း

(၈) အစ်အ်လာအွတ်စိုနန်ကျမ်း
(၉) မစ်ရှ်ကာသ်ကျမ်း
(၁၀) မဖ္စာဟေရ်ဟတ်က်ကျမ်း
(၁၁) ရှရဟ်အကာအစ်ဒ် (အကီဒါ)ကျမ်း
(၁၂) အတ်သကတ်ရ္ဒ(ဖ်) ဖီ မိုဟင်မာသစ် သစောင်ဝုဖ် မစာအေလ်မ(ဆ)နဝီ
(၁၃) ဗဟာစ်ရှ်သီဇေဝရ်– မော်လာနာထာနဝီ
(၁၄) အစ်ဟ်ယာအွလ်အုလူမ်ကျမ်း (အေမာမ်ဃဇာလီ)
(၁၅) လိုဃာသ်ဖိရှိဇ်
(၁၆) ဖိရှိဖ္ဖလ်လိုဃာသ်
(၁၇) ဖွဇ္ဇာအေလ်စွဒကာ(သ်) (ရှိုင်ခ်)
(၁၈) သတ်က်ရီးရ်ဗုခါရီ (ရှိုင်ခွလ်ဟဒီဆ် ယခင်စဟာရန်ပူရ်း)
(၁၉) ဖသ်ဟလ်ဗာရီ–ရှရဟ်ဗုခါရီ
(၂၀) အွမွတ်ပီသရေးမိန့်ခွန်း (သဗ်လီဃ်ခေါင်းဆောင် မော်လာနာ ယူစွဖ်)
(၂၁) အလ်အစ်က်တေ့စွာဒ် (မော်လာနာ ထာနဝီ)
(၂၂) နူရွလ်အန်ဝါးရ် (ဥပဒေကျမ်း)
(၂၃) နူရွလ်ဟိဒါယဟ် (ဖွေကဟ်ကျမ်း)
(၂၄) ဟွတ်ဂျတွလ္လာဟိလ်ဗာလိဃဟ် (ရှာဟ်ဝလီယွလ္လာဟ်)
(၂၅) အွမ်ဒတွလ်အဆာ(ဆ)ဖ္ဖိဟွက္ကမိတွလကာတစ်ဆလာဆ်(ပါကစ္စတန်)
(၂၆) အိကာမတွလ်ကိယာမဟ် (မွတ်ဖတိမဟ်ဒီဟစန်–ဒေလီမြို့)
(၂၇) စီရတွန်နွဗ်မာန်(အလ္လာမဟ်ရှစ်ဗလီ)
(၂၈) အိုင်နီကျမ်း
(၂၉) ခိုင်ရွလ်ဂျာရီကျမ်း
(၃၀) ကေရ်မာနီကျမ်း
(၃၁) မအာရစ်ဖ်ကျမ်း
(၃၂) ကိသာဘွလ်အစ်(ရှ)ဖွာက် (အလ္လာမဟ်ဇာဟစ်ဒ်–ကိုင်ရိုမြို့)
(၃၃) ကုဒူရီကျမ်း

(၃၄) ပဟေဒါယဟ်ကျမ်း
(၃၅) ဒွတ်ရွှလ်မွတ်(ခ)တာရ်ကျမ်း
(၃၆) ရှရဟ်ဝိကာယဟ်ကျမ်း
(၃၇) ကုရ်အာန်ကျမ်းမြတ်၏ အလင်းပြကျမ်း (ဃာဇီ)
(၃၈) အဖ်မတွလ် ကုရ်အာန် (ရှာဟ်အဗ်ဒွတ်ရဟီမ်း ရာယေပူရီ)
(၃၉) ၃၅ ခန်းကျမ်း (ဆရာကြီးဦးနု)
(၄၀) စို့နန်ကု(ဗ)ရာကျမ်း
(၄၁) ကိသာဗွလ်အာဆားရ်ကျမ်း
(၄၂) ဒါရ်ကွတ်တွနီကျမ်း
(၄၃) ဗိုင်ဟကီကျမ်း
(၄၄) ဗဟ်ရွှလ်အုလူမ်ကျမ်း
(၄၅) ရောင်သွတွတ်တွာလေ့ဗျိန်
(၄၆) ရှရဟ်ဂျဝါမြစ်(အ)ကျမ်း
(၄၇) အဟ်ကာမွလ်ကုရ်အာန်
(၄၈) မီဇာန်ရှ(အ)ရာနီကျမ်း
(၄၉) ဖို့ယူဇွလ်ကုရ်အာန်
(၅၀) မအာရိဖွလ်ကုရ်အာန်
(၅၁) စစ်ရွှလ်အတ်စ်ရာရ်ကျမ်း(ရှိုက်ခ်အဗ်ဒွလ်ကာဒေရ်ဂျီလာနီသခင်ကြီး)
(၅၂) ဖွဖွာအေလ်ရမဇာန်ကျမ်း (ဟဇရတ်ရှိုက်ခ်– စဟာရန်ပူရ်)
(၅၃) မိုစလ်စလာတ် (ဟဒီဆ်ကျမ်း)
(၅၄) ဂျဝါဟိရွှလ်ဖွေကဟ်ကျမ်း (ပါကစ္စတန်နိုင်ငံ မွတ်ဖတီချုပ်)
(၅၅) မက်တူဘာတ်အင်လ်မီး၊ ရှိုက်ခွလ်ဟဒီဆ် (စဟာရန်ပူရ်)
(၅၆) အစ်(အ)တေ့ဒါလ် ရှိုက်ခွလ်ဟဒီဆ် (စဟာရန်ပူရ်)



# ဤကျမ်းစာတွင် မှတ်သားဖွယ်ရာ အချက်များ

၁။ ရစူလွလ္လာဟ် ﷺ ကိုယ်တော်မြတ်က မိမိအွမ္မတ်သားများ လမ်းမမှားကြစေရန်အတွက် လမ်းမှားဟု ကြိုတင် သတိပေးတော်မူခဲ့သော (၇၂)သင်းတွင် မပါဝင်မိ ကြစေရန်၊ မှန်ကန်သော အဟ်လေ့စွန္နတ်၏ ခံယူချက်နှင့် ထိုအသင်းများ၏ ယူဆချက်ကို လေ့လာထားမှသာ အမှားကိုရှောင်၍ အမှန်တရားပေါ်၌ ရပ်တည်နိုင်မည်ဖြစ်ကြောင်း၊

၂။ သာသနာ့ပညာရှင်၏ လက္ခဏာများနှင့်အညီ အားလုံးကို လိုက်နာကျင့်သုံးမှ (အိုလမာအေ့ဟက္ကာနီ)ခေါ် စစ်မှန်သောပညာရှင်အဆင့်မှ အလ္လာဟ်အသျှင်၏ချစ်ခင်နှစ်သက်မှုကို ရရှိကြကုန်သော (အိုလမာအေ့ရဗ္ဗာနီ) အဆင့်ကို ရရှိနိုင်မည်ဖြစ်ကြောင်း၊

၃။ အင်လ်မေ့ဗာတွင်န် ခေါ် (အတွင်းရေးလမ်းစဉ်)ကို လိုက်စားမှ အလ္လာဟ်အသျှင့် ဘက်တော်သို့ စိတ်နှလုံး၏ တံခါးပွင့်၍ အလင်းကိုရရှိပြီး အီမာန်၊ အစ်(ခ)လာစ်၏ ပြည့်စုံသော အဆင့်များကို ရရှိနိုင်မည်ဖြစ်ကြောင်း၊

၄။ အစ္စလာမ်ခေတ်အစပိုင်းမှ ယနေ့တိုင် တရားဥပဒေကို သိကျွမ်းသော အေမာမ်တစ်ပါး၏ ညွှန်ပြချက်ကို နာခံခဲ့ကြသည်၊ သို့သော် ၎င်း၏ (ဝါဂျစ်ဗ်) တာဝန်ဖြစ်သော အခြေခံသဘောတရား အထောက်အထားများကို လေ့လာမထားပါက (မဇ်ဟဗ်) လက်မခံသူတို့၏ အန္တရာယ်ကို ကာကွယ်နိုင်မည် မဟုတ်ကြောင်း၊

၅။ ဤသို့အခြေခံသဘောတရား နားမလည်သဖြင့် လေးမဇ်ဟဗ်ကို လက်မခံပဲ စိတ်ကြိုက်ရာကို လိုက်စားမည်ဆိုပါက မိမိသာသနာတော်ကို ကလေးကစားစရာ ပြုရုံသာမက အလ္လာဟ်အရှင်ကို ကိုးကွယ်ရမည်အစား မိမိစိတ်ကိုသာ ကိုးကွယ်သူဖြစ်မည့်အကြောင်း။

၆။ သုံးတွလာက်ပေပြီး ဆက်လက်နေထိုင်ခြင်းသည် ကုရ်အာန် ဟဒီဆ်နှင့် ဖွေကဟ်ကျမ်းစာ အားလုံးအရ ဇေနာပြစ်မှု ကျူးလွန်ရာရောက်ကြောင်း။ ၎င်းကို သိလျက်နှင့် မတားဆီးပါက ထိုပြစ်မှုကြောင့် လာမည့် ဘေးဘလာ များကို အားလုံး ခံကြရမည်ဖြစ်ကြောင်း။

၇။ တစ်ကြိမ်တည်း သုံးတွလာက် အထမြောက်ခြင်းသည်ကား (ရုပ်သိမ်းပိုင်ခွင့် ရှိသော တွလာက် (၂) ကြိမ်သာ) ဟူသော အာယတ်တော်ကြောင့်ဖြစ်၍ တစ်ကြိမ်တည်း သုံးတွလာက်ကို တွလာက် တစ်ကြိမ်သာဟု ထင်မှတ်ခြင်း သည် ၎င်းအာယတ်တော်ကို ဆန့်ကျင်စေကြောင်း။ (၂)ကြိမ်အစား (၆)ကြိမ် ဆိုရာ ရောက်ကြောင်း)နှင့် တမန်တော်မြတ်ﷺ ကိုယ်တော်တိုင်က တစ်ကြိမ် တည်း သုံးတွလာက်ကို တွလာက် သုံးကြိမ် အတည်ပြုတော်မူခဲ့ကြောင်း ဗုခါရီကျမ်း တွဲ (၂)တွင် ပါရှိသောကြောင့် မွတ်စလင်မ်တို့ နာခံရန်အတွက် ကျမ်းမြတ်ကုရ်အာန်နှင့် ဗုခါရီကျမ်းထက် ပို၍ကြီးသောကျမ်း အထောက် အထား အခြားမရှိတော့ကြောင်း။

၈။ တစ်ကြိမ်တည်း သုံးတွလာက် အထမြောက်ခြင်းနှင့် စပ်လျဉ်း၍ ကျွန်ုပ်တို့ အားလုံး၏ ဆရာသခင်ကြီး (ရှိုင်ခွလ်ဟဒီဆ် စဟာရန်ပူရ်မြို့) ဆုံးဖြတ်ချက် မိန့်ခွန်း မှတ်သား နာယူဖွယ်ဖြစ်ကြောင်း။

၉။ ဟလာလဟ်သည် (အကယ်၍ တွလာက် (၂)ကြိမ်၏နောက် (တတိယ) တွလာက်ကို မဆိုင်းမငံ့ပဲ ဆက်လက် ပေးလိုက်ပါက အခြားယောက်ျား တစ်ဦးနှင့် နေကာဟ်ပြု ပေါင်းသင်းခြင်း မပြုသရွေ့ ထိုအမျိုးသမီးသည် ၎င်းသူအတွက် လုံး၀ မပိုင်တော့ချေ) ဟူသော အာယတ်တော်ကို နာခံ ကျင့်သုံးစေခြင်းဖြစ်ကြောင်း။

၁၀။ ဟလာလဟ်ဖြင့် အထက်ပါ အာယတ်တော်ကို မနာခံပဲ သုံးတွလာက် ပေးပြီး ပြန်လည် ပေါင်းသင်း နေထိုင်သူတို့အား ဇေနာပြစ်မှု ကျူးလွန်နေခြင်း မှ ကာကွယ်စေကြောင်း။

ထိုအတူ မိုက်မှား၍ သုံးတွလာက်ပေးပြီးနောက် စွန့်မလွှယ် ခွာမဖြစ်သော ဒုက္ခ၌ ကျရောက်နေသူတို့အား ရင်လေးဖွယ်ဒုက္ခမှ ကယ်ဆယ်ရာ ရောက်ကြောင်း။

မွတ်စလင်မ်တို့အတွက် ဤနည်းလမ်းမှအပ အခြားနည်းလမ်း မရှိကြောင်း။ အာယတ်တော် ဗျာဒိတ်တော်ကို ငြင်းပယ်၍ မရနိုင်ကြောင်း ဤကျမ်းတွင် ဖော်ပြထားပေသတည်း။



## ဤကျမ်းစာသည်ကား

(၁) သာသနာ့အန္တရာယ် ကာကွယ်ရန်
(၂) ဒုစရိုက် ပပျောက်စေရန်
(၃) **ဟေဒါယတ်** တရားလမ်းမှန် ရရှိကြစေရန်အတွက် ဖြစ်သောကြောင့် ဤသာသနာ့ ကြိုးပမ်းမှုတွင် ပါဝင်ဆောင်ရွက်သူတို့အတွက် ဟဒီဆ်တော်တွင် ကတိပြုထားသော အကျိုးစဝါဗ်ကို ယူကြစေလိုကြောင်း စေတနာ ကောင်းဖြင့် နှိုးဆော်အပ်ပေသတည်း။

عن عبداللهِ بن العلاء الحضرمی قال حدثنی من سمع النبی صلی اللهُ علیه وسلم یقول انه سیکون فی اخر هذه الامة قوم لهم مثل اجر اولهم یأمرون بالمعروف وینهون عن المنکر ویقاتلون اهل الفتن وفی الحاشیة قوله یقاتلون ای بایدیهم او بالسنتهم وقوله اهل الفتن ای من البغاة والخوارج والروافض وسائر اهل البدع ﴿مشکوة صـــ ٥٨٤﴾

## စီစဉ်ရေးသားသူ

မော်လာနာ အဗ္ဗဒွလ်ဟာကီမ် (မဇာဟေရီ)
ဓမ္မသတ်မှူး–ကျောင်းအုပ်
အရဗီ အထက်တန်းကျောင်း
ယင်းတော်ရွာမ
ပျော်ဘွယ်မြို့။

## သတင်းကောင်းနှင့် ပန်ကြားချက်

**မွတ်စလင်မ် သူတော်စင်အပေါင်းတို့ခင်ဗျား ----**

သုံးတွလာက် ဟလာလဟ်နှင့် စပ်လျဥ်း၍ အမှန်တရား တင်ပြသော ကျမ်းစာ ပေါ်ထွက်လာပါပြီ။ ယနေ့ အွမ္မသ်သား များစွာတို့သည် လမ်းမှား၍ ဒုစရိုက်တွင် ကျရောက်လျက် ပျက်စီးနေချေ၏။ ထိုသို့ ပျက်စီးနေသော **အစ်ခ်ဝါနီ** အပေါင်းတို့အား ကယ်ဆယ်ရန်အတွက် တရားစစ်မှန် သိရှိသူများအပေါ် တက်ရောက်နေသော တာဝန်ကို ဤ **သုံးတွလာက်နှင့်လမ်းစဥ်မှန်ကျမ်း**အားဖြင့် တာဝန် ထမ်းဆောင် အပ်ပေသတည်း။ ဤကျမ်းစာတွင် မှတ်သားဖွယ်အချက်များမှာ–

- တစ်ကြိမ်တည်း သုံးတွလာက်သည် တွလာက် တစ်ကြိမ်သာမဟုတ်၊ တွလာက် သုံးကြိမ်လုံး အထမြောက်ကြောင်း နှစ်ပေါင်း (၁၂၀၀)ကျော်က အေမာမ်ကြီး လေးပါးနှင့်တကွ အေမာမ် ပုခါရီသခင်ကပါ မိမိတို့ကျမ်းစာများတွင် ဖော်ပြခဲ့ကြ ပြီးဖြစ်သည်။
- တစ်ကြိမ်တည်း သုံးတွလာက်သည် တွလာက် တစ်ကြိမ်သာဖြစ်သည်ဟု ယူဆ သူသည် (လင်ယောက်ျားများအတွက် ပိုင်ဆိုင်ခွင့်ရှိသော တွလာက် နှစ်ကြိမ်သာ) ဟူသော အာယတ်တော်ကို ဆန့်ကျင်သူဖြစ်ကြောင်း အေမာမ် ပုခါရီက မိမိ ပုခါရီကျမ်းတွင် သီးသန့်အခန်းဖြင့် ဖော်ပြထားချေ၏။
- တမန်တော်မြတ်ﷺ ခေတ်တွင် တစ်ကြိမ်တည်း သုံးတွလာက်သည် တွလာက် တစ်ကြိမ်သာဖြစ်ခဲ့သည် ဆိုသော စကားသည် တမန်တော်မြတ်ﷺ ၏ ဟဒီဆ် တော် လုံးဝ မဟုတ်မှန်ကြောင်း အေမာမ် ပုခါရီက တမန်တော်မြတ် ﷺ ကိုယ် တိုင် တစ်ကြိမ်တည်း သုံးတွလာက် အတည်ပြုတော်မူခဲ့သည်။ မှန်ကန်သော

ဟဒီဆ်တော်ကို မိမိဗုခါရီကျမ်းတွင် ဖော်ပြ၍ ထိုမမှန်ကန်သော စကားကိုချေပ ဖြေဆိုထားချေသည်။

- ကျွန်ုပ်တို့ အားလုံး၏ ဆရာသခင်ကြီး၊ ဟဒီဆ်ပါမောက္ခ မော်လာနာ ဇကရီယာ (စဟာရန်ပူရ်မြို့) က တစ်ကြိမ်တည်း သုံးတွလာက် အထမြောက်ကြောင်း အွမ္မတ်၏ ခေါင်းဆောင်အားလုံးတို့က တညီတညွတ် ဆုံးဖြတ်ပြီးဖြစ်သော (အစ်ဂျ်မာအ်ဖြစ်ပြီးသည့်) ဤမျှ ခိုင်လုံးသော မတ်စ်အလာတစ်ခုတွင် ကွပ်နွှလ် ကိုင်ယွမ်ကဲ့သို့ မဇ်ဟဗ် လက်မခံသူ၊ မပြောပလောက်သည့် လူတစ်စု၏ ဆန့်ကျင်မှုဖြင့် အဘယ်သို့လျှင် အမှန်တရားတွင် အနှောင့်အယှက် ဖြစ်နိုင်အံ့ ဟု မိန့်ကြားခဲ့ကြောင်း ဤကျမ်းတွင် ဖော်ပြထားပေသည်။
- ကျမ်းဆိုတိုင်း၊ ဓမ္မသတ်ဆိုတိုင်း အမှန်တရား မဖြစ်နိုင်ကြောင်း၊ အမှားနှင့် အမှန်ကို ခွဲခြားနိုင်ရန်အတွက် သာသနာ့ပညာရှင်တို့၏ လက္ခဏာများနှင့် ၇၂- သင်း အကြောင်း ရှင်းလင်း တင်ပြထားပေသည်။
- **မဇ်ဟဗ်** လက်မခံသူ၊ စိတ်အကြိုက် လိုက်စားသူတို့၏ အန္တရာယ် ကာကွယ် နိုင်ရန်အတွက် **မဇ်ဟဗ်** လမ်းစဉ် နာခံခြင်း (ဝါဂျစ်ဗ်) အရေးကြီးသော တာဝန် ဖြစ်ကြောင်း အာယတ်တော်ဖြင့် ရှင်းလင်းတင်ပြ၍ ၎င်းကို မနာခံခြင်း၏ နစ်နာ ဆုံးရှုံး ပျက်စီးမှုများကို ဤကျမ်းတွင် တင်ပြထားပေသည်။

**ကျမ်းပြုစုသူ**